ဒေါက်တာ အေ၊ အမ်ဘေကာ **M.A.,Ph. D., OLitt., Bar-at-Law,D.Sc., M.L.C.,** အိန္ဒိယတရားဝန်ကြီးချုပ်ဟောင်းကမေး၍ ဘိက္ခုအရိယဓမ္မ **B.A** က ဖြေကြားသော

# ဗုဒ္ဓဝါဒပြဿနာများ



အိန္ဒိယတရားဝန်ကြီး ချုပ်ဟောင်း
ဒေါက်တာ အေ၊ အမ်ဘေကာ **M.A.,Ph. D., OLitt., Bar-at-Law,D.Sc., M.L.C.,** ကမေး၍

ဆရာတော် ဦးအရိယဓမ္မ-ဘီအေ (ဗုဒ္ဓဝိဟာရ ဘုံဘိုင်)
ဖြေဆိုသော

# ဗုဒ္ဓဝါဒ ပြဿနာများ

ဝင်းမော်ဦးစာပေဖြန့်ချိရေး

အိန္ဒိယ တရားစန်ကြီးချုပ်ဟောင်း
ဒေါက်တာ အေ-အယ်(မ်) ဘေကာ
အမ်(မ်)အေ၊ ပီအိပ်(ချ်)-ဒီ၊ ဘား-အက်(တ်)လော၊
ဒီ-အက်(စ်)ပဲ မေး၍
ဆရာတော် အရှင်အရိယဓမ္မ ဘီ-အေ (ဗုဒ္ဓဝိဟာရ ဘုံဘိုင်)
ဖြေဆိုသော

# ဗုဒ္ဓဝါဒပြဿနာများ

# မာတိကာ

# ဆရာတော် အရှင်အရိယဝံသ၏ အတ္ထုပ္ပတ္တိ

ဝင်းမော်ဦးစာအုပ်တိုက်က ဤဗုဒ္ဓဘာသာ အယူဝါဒနှင့်ဆိုင်ရာ ကျမ်းငယ်ကို ဘာသာပြန်ပေးရန် စာမူကို လာပေးသော အခါ ကျွန်တော်၏စိတ်ထဲတွင် ဆရာတော် အရှင်အရိယဝံသ၏ အဖြေကျမ်းနှင့်မှ လာပြီး တွေ့မှ တွေ့တတ်ပလေဟု အောက်မေ့မိ၏။ ဒေါက်တာအယ်(မ်)ဘေကာနှင့် အခြားသော ပညာရှင်ပုဂ္ဂိုလ်တို့က မေးမြန်းလျှောက်ထားကြသော ဗုဒ္ဓဘာသာနှင့် ပတ်သက်သည့် မေးခွန်းတို့ကို တဦးတည်း ဖြိုင်ခံဖြေရှင်းတော်မူသည့် ဘုံဘိုင်မြို့ဗုဒ္ဓဝိဟာရကျောင်းထိုင်၊ မြွေကထိကဆရာတော် အရှင်အရိယဝံသသည်ကျွန်တော်နှင့်တောင်တွင်းကြီးဆရာတော် အရှင်ဥက္ကဋ္ဌထံတွင် ဗုဒ္ဓအဘိဓမ္မာနှင့် ကမ္ဘာ့ထင်ရှားသည့် ဘာသာအယူဝါဒတို့ကို ဆည်းပူးလေ့လာဘက် ဖြစ်ပါသည်။ သို့ ဆရာတော်အရှင်ဥက္ကဋ္ဌထံ၌ဘာသာအယူဝါဒတို့ကို အတူတူ လေ့လာခဲ့ကြသည်ဟု ဆိုသော်လည်း ကျွန်တော်သည်ထိုအချိန်က ဗုဒ္ဓအဘိဓမ္မာနှင့် အခြားဘာသာအယူဝါဒတို့ကို လေ့လာကာမတ္တမျှသာ လေ့လာခဲ့၏။ ၎င်းနောက် ဘာသာရေးကို ဘေး

ဖယ်ထားပြီးယခုအချိန်ထိ နိုင်ငံရေးဆိုင်ရာအဘိဓမ္မာနှင့်အခကြေး အခေါ်အယူအဆတို့ကိုသာ ထဖက်သတ် လေ့လာခဲ့မိ၏။ ထို့ ကြောင့် အရှင်အရိယဓမ္မကဲ့သို့ ဘာသာရေးကိုသာ ဖောက်ချပြီး လေ့လာခဲ့သည့် ပုဂ္ဂိုလ်တို့လို ဘာသာရေးဆိုင်ရာဗဟုသုတ မကြွယ်ဝကြောင်း ဝန်ခံပါသည်။ မည်သို့ပင်ဖြစ်စေ အရှင် အရိယဓမ္မ၏ ဘာသာရေးဆိုင်ရာ အယူဝါဒအားလုံးတို့ကိုမူ ကျွန်တော်လက်မခံနိုင်ပါ။ သူ၏ အယူအဆများနှင့် ကျွန်တော် ၏ အယူအဆများသည် အလွန် ကွာလှမ်းနေပါပြီ။ တော်လှန် သော ဗုဒ္ဓအဘိဓမ္မာ ဆရာထူးတဆူဖြစ်တော်မူသည့် ဆရာတော် အရှင်ဥက္ကဋ္ဌနှင့်မူ အချိန်ကာလနှင့်တွက်ဆ၍ ပြောရသော်အယူ အဆချင်းတရာစုခေတ်စာမျှ အလှမ်းကွာ၍နေပြီဟု ဆိုရပါမည်။ သို့ရာတွင် ဗုဒ္ဓအယူဝါဒ၊ ဟိန္ဒူအယူဝါဒ၊ ခရစ်ယာန်အယူဝါဒ၊ မဟာမေဒင်အယူဝါဒ စသည့် ကမ္ဘာ့ဘာသာအယူဝါဒများကို သူ့ခနရာနှင့်သူသက်ဆိုင်သလို ဗဟုသုတ ကြွယ်ဝပြည့်စုံစွာနှင့် ရဲရဲရင့်ရင့်ပိုင်းခြား ဝေဖန် သုံးသပ်ပြထားသည့် အရှင်အရိယ ဓမ္မ၏ ဘာသာရေးအဖြေကျမ်းငယ်ကို ဖြစ်ကတတ်ဆန်း ဘာ သာပြန်၍လည်း မဖြစ်၊ ပြန်လည်း မပြန်ထိုက်၊ ပြန်လည်းမပြန် ဝံ့သဖြင့် လွန်ခဲ့သည့် သီတင်းကျွတ်လက ဆရာတော် အရှင် ဥက္ကဋ္ဌ သီတင်းသုံးတော်မူရာ တောင်တွင်းကြီးမြို့ နတ်မှိုတောရ ကျောင်းသို့ ဤကျမ်းငယ်အတွင်းမှ ခက်ရာခက်ဆစ် အယူအဆ နှင့် ဝေါဟာရအသုံးအနှုန်းတို့ကို တိတိကျကျသိနိုင်ရန် သွား ရောက်၍ လျှောက်ထား မေးမြန်းရပါတော့သည်။

သို့ ဆရာတော် အရှင်ဥက္ကဋ္ဌထံသို့ သွားရောက်ဆည်းကပ် လိုက်ရသည့်အတွက် ကျွန်တော် မျှော်မှန်းခဲ့သည်ထက် ပို၍

အကျိုးအမြတ် ထွက်ခဲ့ပါသည်။ ထိုထွက်ခဲ့သည့် အကျိုးအမြတ်ကား အရှင်အရိယဓမ္မ၏ အတ္ထုပ္ပတ္တိကို တိတိကျကျ သိခဲ့ရခြင်းပင်ဖြစ်၏။ သို့ တိတိကျကျသိရသည့်အတွက် ဆရာတော်အရှင်အရိယဓမ္မကို ယခင်ကထက် ပိုမို၍ ကြည်ညိုလေးစားမိလာခဲ့၏။ သူကား ဗုဒ္ဓသာသနာ့အကျိုးကို သယ်ပိုးဆောင်ရွက်ရင်း အမေရိကတိုက် မက္ကဇီကိုပြည်၌ ပျံလွန်တော်မူခဲ့ရာ သူ၏အတ္ထုပ္ပတ္တိသည် ပို၍ပင်စိတ်ဝင်စားဘွယ်ရာ ကောင်းလာပါသည်။

အရှင်အရိယဓမ္မ၏ အတ္ထုပ္ပတ္တိကို ရေးရလျှင် တောင်တွင်းကြီးဆရာတော် အရှင်ဥက္ကဋ္ဌအကြောင်းနှင့် ဆရာတော် အရှင်ဥက္ကဋ္ဌထူထောင်တော်မူခဲ့သည့် တောင်တွင်းကြီးမြို့ ဗုဒ္ဓသာသနာပြု အမျိုးသားကျောင်းအကြောင်း မပါဘဲ မပြည့်စုံနိုင်ပါ။ အကယ်၍ ရေးခဲ့ပါလျှင် ဆန်မထည့်ဘဲ ထမင်းအိုးတည်သကဲ့သို့သာ ရှိပါချေမည်။

၁၉၃၃ ခုနှစ်က ဖြစ်၏။

ကျွန်တော်သည် တောင်တွင်းကြီးမြို့ ဆရာတော်အရှင်ဥက္ကဋ္ဌ၏ ဗုဒ္ဓသာသနာပြုကျောင်း၌ ဆရာတော်၏ တိုင်းပြည်နှင့်လူမျိုးအတွက်သာမက ဗုဒ္ဓသာသနာအတွက် အလွန်မြင့်မားလှသည့် စေတနာနှင့် လုပ်ရပ်တို့ကို ကြည်ညိုလှသဖြင့် ကုသိုလ်ဖြစ် ဆရာအဖြစ်ဖြင့် အလုပ်လုပ်လျက် ရှိ၏။

ထိုစဉ်က ဆရာတော်၏ကျောင်းတွင်ကျောင်းသား(၄၀၀) ကျော် ရှိ၏။ (တောင်တွင်းကြီးမြို့ အစိုးရအထက်တန်းကျောင်း၌ ကျောင်းသား ၂၅၀ လောက်သာ ရှိသေး၏။) ထိုကျောင်းသားတပည့်များထဲ၌ ဦးပဉ္စင်းများ၊ သာမဏေများနှင့် ယောကျ်ားကလေးနှင့် မိန်းကလေးများ ပါဝင်ကြ၏။ ဤတပည့်

များကို စာပေသင်ကြားပို့ချသည့် ရဟန်းဆရာ (၁၅) ပါးနှင့် လူဆရာ ဆရာမ (၆)ယောက် ပေါင်း (၂၁) ယောက် ရှိ၏။ အချို့က အချိန်ပိုင်းနှင့် တာဝန်ယူ ပြုကြ၏။ အချို့က တနေ့လုံးလုံးပြုကြ၏။ ကျွန်တော်ကား အခြားစီးပွားရေးနှင့် ပတ်သက်၍ မည်သည့်အလုပ်ကိုမျှ လုပ်သူတယောက် မဟုတ်သဖြင့် သင်ကြားပြသသည့် အလုပ်ကိုသာ မဟုတ်ဘဲ ကျောင်းနှင့် ပတ်သက်သည့် ရုံးလုပ်ငန်းတို့ကိုလည်း ဆရာတော်၏ အတွင်းရေးမှူးအနေဖြင့် တာဝန်ထမ်းဆောင်ရသေး၏။ ကျောင်းဖွင့်ချိန်တွင် ဆရာတော်နှင့်တိုင်ပင်ပြီး အချိန်ပိုင်းနှင့် အလုပ် လုပ်ကြသည့် လူဆရာ၊ ဆရာမတို့အား သူတို့ တာဝန်ယူနိုင်ကြသည့် အချိန်ကို မေးမြန်းညှိနှိုင်းပြီး တကျောင်းလုံးအတွက် အချိန်ဇယားများကို ရေးဆွဲရ၏။ ဤအလုပ်ကား ဆရာအချင်းချင်း ညှိရ၊ နံနက်ပိုင်း၊ နေ့လယ်ပိုင်းနှင့် ကိုက်ညီသည့် ဘာသာရပ်များကို ရွေးချယ်ရနှင့် အတော် ဦးခေါင်းခဲရသည့်အလုပ်ဖြစ်၏။ အချို့ရဟန်းဆရာ (နာယက ဆရာတော်)တို့ကား တဖက်က ဆရာတော့်ထံမှ သူတို့လိုချင်သည့် သက္ကတ၊ ဟိန္ဒူဘာသာစာပေတို့ကိုရင်း၊ အခြားပညာရပ်တို့ကိုရင်း ဆောက်စို့ကြရင်း တဖက်က ကျောင်းသားတပည့်များအား စာပေပို့ချသည့် အလုပ်တို့ကို ထမ်းဆောင်ကြ၏။ ထို့ကြောင့် ကျောင်းဖွင့်စအချိန်၌ ဤကဲ့သို့သောပုဂ္ဂိုလ်မျိုး များများ ကြွလာကြပါစေဟု နှစ်စဉ် ဆုတောင်းနေခဲ့ရ၏။

နယုန်လဆန်း ကျောင်းဖွင့်ပြီးခါစ တနေ့၌ ဦးပဥ္စင်းတပါးသည် ကျောင်းသို့ ရောက်လာ၏။ ကျွန်တော်ကား အထက်က ဖော်ပြခဲ့သည့်အလုပ်က တဖက်၊ စာသင်ပြပို့ချရသည့်အလုပ်က

တဇက်ဖြင့် မအားမလပ်ဘဲ ဖြစ်နေရသည်ကတာကြောင်း ကျွန်တော်တို့ကျောင်းတွင် ဘာသာရေးကို ဟောပြောမည့် မေ့ကထိကများနှင့် နိုင်ငံရေးသမားများ၊ အထူးသဖြင့် တို့ဗမာ အစည်းအရုံးဝင် သခင်များကလည်း တည်းစရာ ခိုစရာမရှိလျှင် အချိန်မရွေး၊ အခါမရွေး လာရောက်တည်းခိုနေကျ ဖြစ်သည်က တကြောင်းတို့ကြောင့် ထိုနေ့က အဆိုပါဦးပဥ္ဇင်း ရောက်လာ သည်ကို ဂရုမပြု အလေးမထားမိပါ။ ညနေ ကျောင်းဆင်းချိန် ဆရာတော်က ခေါ်သဖြင့် သွားရာ ဆရာတော်က

"ဟေ့ တို့ကျောင်းမှာ အထက်တန်းအင်္ဂလိပ်ဘာသာပြမယ့် ဆရာတယောက်တော့ တိုးပြန်ပြီကွ။ ဦးပဥ္ဇင်းတပါးကွ။ဒါပေ မယ့် သူ့ကို(၂)ချိန်(၃)ချိန်ထက်တော့ ပိုပြီးတာဝန်မပေးနဲ့"

ကျွန်တော်။ "ဟာပြုလို့လဲ ဆရာတော်။ ကျန်းမာရေးက သိပ်မကောင်းလို့ အချိန်များများ မယူနိုင်လို့လား ဘုရား"

ဆရာတော်။ "မဟုတ်ပါဘူးကွာ။ သူက ဗုဒ္ဓအဘိဓမ္မာကို ငါ့ဆီမှာ လေ့လာချင်သေးကယ်တဲ့ကွ။ သူက ဘုံဘိုင်မြို့ စိန့်ဇေးဗီးယားကောလိပ်ကျောင်းက ဘီအေ အောင်ခဲ့တယ်။ အထက်တန်းတွေမှာ အင်္ဂလိပ်ဘာသာတွေကို ကောင်းကောင်း ပြနိုင်ပါလိမ့်မယ်"

ကျွန်တော်။ "ဗမာစကားကော တတ်ရဲ့လား ဘုရား"

ဆရာတော်။ "အမယ် တတ်ပါတယ်ကွ။ ဗမာလိုတောင် ဗုဒ္ဓဘာသာတရားကို ဟောနိုင်သေးတယ်"

ကျွန်တော်။ "ဘွဲ့ကတော့ကော ဘုရား"

ဆရာတော်။ "အရှင်ဥက္ကံ့ သတဲ့ကွ"

ကျွန်တော်။ "တင်ပါ့ဘုရား၊ ဒီလို ဗမာစကားကို ကောင်းစွာ ကောင်းတတ်တယ်ဆိုရင် ၇တန်းလဲ တချိန်ပေးထားရင် ရမှာ ပေါ့ဘုရား"

ဆရာတော်။ "အေး ပေးလို့ရပါတယ်ကွာ"

ကျွန်တော်။ "ဒီလိုဆိုရင် တပည့်တော် ၇တန်းနဲ့ ၆တန်း မှာ တချိန်စီ ထည့်ထားလိုက်ပါ့မယ် ဘုရား"

ဆရာတော်။ "အေး၊ ကောင်းပြီ"

သို့နှင့် ကျွန်တော်သည် ထိုအရှင်ဥက္ကံသကို ဘယ်သူလဲ ဘယ်ဝါလဲဆိုတာကို သိရအောင် သွား၍ မတွေ့တော့ဘဲ ဆရာ တော့်အနီးမှ ခွာခဲ့ပြီး ကျောင်းအောက်ရုံးခန်းသို့ ပြန်လာကာ အချိန်ဇယားများကို ပြန်၍ ပြင်ဆင်လိုက်ပါသည်။

နောက်တနေ့နံနက် ကျောင်းသို့သွားသောအခါမှ အရှင် ဥက္ကံသကိုယ်တော်ကို သံဃာတော်များလဖက်ရည်ဝိုင်း၌ တွေ့ မြင်ရပါတော့သည်။ သက်တော်အားဖြင့် ၃၀ပတ်ဝန်းကျင် တွင်ရှိလိမ့်မည်ဟု ထင်၏။ အရှင်ဥက္ကံသကား အရပ်မြင့်မြင့်၊ ကိုယ်ကာယအနေအထားအားဖြင့် ပိန်လည်း မပိန်၊ ဝလည်း မဝပါ။ အမှန်အားဖြင့် အင်္ဂလိပ်ကုလားကပြား ဖြစ်၏။ ထို့သို့သော် အသားမဖြူပါ။ အိန္ဒိယသား ကုလားသွေးက ပို၍ များလေသလား မသိ၊ ညိုစိမ့်စိမ့်ပင် ဖြစ်နေ၏။ မျက်လုံး အနည်းငယ်ပြူး၏။ သို့ရာတွင် သူတပ်ထားသည့် မျက်မှန်မှာ အနည်းဆုံး ဒီဂရီ ၄၀၀ကျော်ရှိမည် ထင်၏။ ဆေးပြင်းလိပ် အတော်ကြိုက်၏။ လက်က ချချင်ဟန်ပင် မရှိချေ။ စကားပြော သျှင် အားရပါးရ၊ ထက်ထက်သန်သန်ပြောတတ်၏။ အငြင်း

အခုံ အချေအတင် ပြောရလျှင် မကြာမီအတွင်း ဒေါသဖြစ်လာတတ်၏။ အသကား ကောင်မြင်လှ၏။

ထိုနောက် ကျွန်တော်သည် ဦးပဉ္ဇင်းဦးဥက္ကံသနှင့် ခင်မင်ရင်းနှီးလာပါသည်။ မခင်မင် မရင်းနှီးရှိလည်း မဖြစ်နိုင်ပါ။ ဆရာတော်သည် ကျောင်းသူ ကျောင်းသားများ ဗဟုသုတဖြစ်ပွားစေရန်နှင့် ပရိသတ်ရှေ့တွင် စကားပြောကောင်း၊ တရားဟောကောင်းသူများ ဖြစ်လာကြစေရန် တလလျှင် နှစ်ကြိမ်ကျကျောင်းလိုးကျွတ် စကားရည်လုပွဲကို ကျင်းပပေး၏။ ထိုစကားရည်လုပွဲများ၌ ပြောကြသည့် စကားရပ်များမှာ နိုင်ငံရေး၊ စီးပွားရေး၊ ပညာရေးစသည့် အရေးတို့နှင့် စပ်ဆိုင်သည့် စကားရပ်များသာ ဖြစ်ကြ၏။ တဖက်နှင့်တဖက် အချေအတင်ပြောရာ၌ ကျောင်းဆရာဆရာမများ၊ နာယကဆရာတော်များ၊ ဦးပဉ္ဇင်းများ၊ သာမဏေများနှင့် ကျောင်းသူ ကျောင်းသားများပါ ပါဝင်ကြရ၏။ ထိုနည်းအတူ ဆရာတော်ထံတွင် ဘာသာအယူဝါဒအမျိုးမျိုးကို တခုနှင့်တခု ယှဉ်တွဲလေ့လာကြသူများအတွက် ဘာသာ အယူဝါဒ အချင်းချင်းကို တဖက်နှင့်တဖက် ယှဉ်ပြိုင်၍ ဆွေးနွေးစေပါသည်။ ဥပမာ၊ တဖက်က ခရစ်ယာန်ဘက်မှနေပြီး ခရစ်ယာန်ဘာသာက ကောင်းကြောင်း၊ မှန်မြတ်ကြောင်းပြော၍ အခြားတဖက်က ဗုဒ္ဓဘာသာက ကောင်းကြောင်း၊ မှန်မြတ်ကြောင်း၊ မှန်ကန်ကြောင်း စကားဝိုင်းဖွဲ့၍ ပြောကြရ၏။ အခြားဘာသာ အယူဝါဒတို့ကိုလည်း ဤနည်းအတိုင်းပင် စကားဝိုင်းဖွဲ့ပြီး အချေအတင်ဆွေးနွေးကြရ၏။ သို့ ပြောဆိုဆွေးနွေးကြရာ၌ မိမိတို့ လေ့လာထားကြသော စာအုပ်များမှ အချက်အလက်တို့ကို ကိုးကားဆွေးနွေး ပြော

ဆိုကြရ၏။ တခါတရံ ယာနေသောအကွက်များရှိက ဆရာ တော်ကိုယ်တိုင် ထောက်ပြ၍ လိုအပ်သည့်အချက်အလက်တို့ကို ဖြည့်စွက်ပေး၏။ ဤနည်းဖြင့် ကျွန်တော်သည် ဦးပဥ္ဇင်းအရှင် ဥဂ္ဂသနှင့် ခင်မင်ရင်းနှီးခဲ့ပါသည်။ ဤနေရာ၌ အရှင်ဥဂ္ဂသ၏ ဝါသနာနှင့် အကျင့်ကို အခွင့်သင့်သည့်အလျောက် ဖော်ပြလို ပါသည်။ ဦးပဥ္ဇင်းသည် ဗုဒ္ဓဘာသာဘက်သို့ ကူးပြောင်းခါစ လည်းဖြစ်၊ ဗုဒ္ဓဘာသာကို အလွန်ကြည်ညိုလေးစားသူလည်း ဖြစ်သဖြင့် ဗုဒ္ဓဘာသာဘက်မှ အမြဲတန်း ပြောလေ့ရှိ၏။ သို့ ပြောရာ၌လည်း တဇက်နှင့်တဇက် ဘာသာရေးနှင့် ပတ်သက်၍ အလေ့အကျင့်ရှိအောင် ဆွေးနွေးနေကြသည်ဟူသော အချက် ကို ဇမ့်ထွေ့ကာ လက်သီးလက်မောင်းတန်းလျက် ဒေါသ တကြီး ပြောတတ်၏။

အရှင်ဥဂ္ဂသ ရောက်ပြီး ၃၊ ၄ရက်လောက် အကြာတွင် ဆရာတော်က ကျွန်တော့်အား

"ဟေး တို့ ရှင်ဥဂ္ဂသကိုတော့ တော်တော်ဇာတ်သွင်းယူရ လိမ့်ဦးမယ် ဟေ့"

ကျွန်တော်။ "ဘာဇာတ် သွင်းယူရမှာလဲ ဘုရား"

ဆရာတော်။ "တို့ဇာတ်ထဲကိုပေါ့ကွ။ ငါဖြင့် သူရောက်လာ တဲ့ နေ့ကစပြီး ညည ကောင်းကို မအိပ်ရဘူးကွာ"

ကျွန်တော်။ "ဘာပြုလို့လဲ ဆရာတော်"

(အရှင်ဥဂ္ဂသသည် ဆရာတော်နှင့် တကျောင်းတည်းနေ၍ ဆရာတော်၏ ကုတင်ခြေရင်းမှ သူ့ကုတင်ကို ကန့်လန့်ထား၍ သိကင်းသုံး၏။)

ဆရာတော်။ "အို မင်းနှယ် တညလုံး ဝရိတ်ကြီးကို သုတ်ကုန်ရှုတ်တယ်ကွ။ ပြီးတော့လဲ မေတ္တာပို့သေးတယ်။ ဂါထာတွေကို စည်းလဲ ချသေးတယ်ကွ။ အဲဒီတော့ ညတိုင်း ညတိုင်းနာရီပြန် ၁ ချက် ၂ ချက် ထိုးလောက်မှချည့် အိပ်ရတော့တယ်"

ကျွန်တော် "ဒါဖြင့် တဝည့်တော်တို့ဇာတ်ထဲ ဝင်တာမဝင်တာက အရေးမကြီးဘူးဘုရား၊ ညည ဆရာတော်စောစောကျိန်းရဘို့က အရေးကြီးတယ်"

ဆရာတော်။ "အေးကွာ၊ ဒါပေမယ့် ငါ့မှာလဲ သူ့ကို ချုတ်နေဘို့ အချိန်က သိပ်မရှိဘူးကွ"

ထို့နောက် ဆရာတော်သည် ညနေ လမ်းရှောက်ထွက်သောအခါ အရှင်ဥက္ကံသကို ခေါ်၍ တောင်တွင်းကြီးမြို့ အရှေ့ဘက်ကန်ဘောင်ပေါ်၌ လမ်းရှောက်တော်မူပါသည်။ ဤကဲ့သို့ ဆရာတော်နှင့် အရှင်ဥက္ကံသတို့လမ်းရှောက်၍(၁၀)ရက်လောက်ရပြီးတနံနက်သ၌ လဖက်ရည်ပွဲတွင် ဆရာတော်က သံဃာ့နာယကဆရာတော်များနှင့် ကျောင်းဆရာ၊ ဆရာမတို့အား

"ကဲ ကိုယ်တော်တွေရော၊ ဆရာ၊ ဆရာမများပါ ဒီကနေ့ဒီအချိန်က စပြီး အရှင်ဥက္ကံသကို အရှင်အရိယာဓမ္မလို့ ခေါ်ကြပေတော့"ဟု ပြုံးပြုံးကြီးမိန့်တော်မူလိုက်ရာ ကျွန်တော်တို့အားလုံး အံ့အား အသင့်ကြီး သင့်မိကြ၏။ "ဘာပြုလို့ ဒီအရှင်ဥက္ကံသဘွဲ့ကနေပြီး အရှင်အရိယာဓမ္မဘွဲ့ကို ပြောင်းလိုက်ပါလိမ့်" ဟူသော အမေးသည် ကျွန်တော်၏ဦးနှောက်ကို အကြီးအကျယ်အလုပ်ပေးလာပါတော့သည်။

သို့နှင့် ကျွန်တော်သည် ဤပုစ္ဆာအတွက် အဖြေရအောင်ဆရာတော်နှင့် နှစ်ဦးချင်း မတွေ့တွေ့အောင် ကြိုးစားပြီး

"ဆရာတော်၊ ဦးပဥ္စင်းဦးဥဂ္ဂသက ဘာများ စိတ်ကူးပေါက်ပြီး ဦးအရိယမေ္မလို့ ဘွဲ့ပြောင်းလိုက်ရပါလဲ ဘုရား။ ဘယ်က ပေဒင်ဆရာနဲ့များတွေ့လို့ ယတြာချေလိုက်တာတုန်းဘုရား"

ဆရာတော်။ "ကြုံကြုံဖန်ဖန် မင့်နှယ် ဘယ်က ပေဒင်ဆရာနဲ့တွေ့ရမှာလဲကွ၊ ဒီအရိယမေ္မဆိုတဲ့ဘွဲ့က ငါပေးတဲ့ဘွဲ့ပါကွ။ သူက ဒီဥဂ္ဂသဆိုတဲ့ဘွဲ့ကို မကြိုက်တော့ဘူးတဲ့၊ ငါကြိုက်တဲ့ဘွဲ့ကို ရွေးပြီး ပေးရမယ်ဆိုလို့ ငါက ပေးရတဲ့ဘွဲ့ကွ"

ကျွန်တော်။ "သူရဟန်းဖြစ်စဉ်က သူ့ဥပဇ္ဈာယ်ဆရာတော်တွေက ပေးလိုက်တဲ့ဘွဲ့ကို သူက အခုမှ ဘာလို့ မကြိုက်တော့တာတဲ့လဲ ဘုရား"

ဆရာတော် "ဒီလိုကွ၊ ဦးဥဂ္ဂသဟာ အလွန်စိတ်ဝင်စားစရာကောင်းတယ်။ တနေ့က ငါ မင်းကို ပြောပါပကော၊ သူ ညည တောင်လုပ် မြောက်လုပ် ရှောက်ရှောက်လုပ်လွန်းလို့ ကောင်းကောင်းကို အိပ်ရတယ်မရှိဘူးလို့"

ကျွန်တော်။ "တင်ပါ၊ အခုတော့ ဘယ်လို ဖြစ်သွားတုန်းဘုရား"

ဆရာတော်။ "အခု အဲဒီအစွဲတွေ ကျွတ်သွားပြီ။ ဒါကြောင့် ဒီအစွဲတွေနဲ့ တပါတည်းပါလာတဲ့ ဥဂ္ဂသဆိုတဲ့ဘွဲ့ကိုပါ စွန့်ပြီး လူသစ်တယောက်ဖြစ်လာတဲ့အနေနဲ့ဘွဲ့ပြောင်းချင်ပါပေါ့ကွာ"

ကျွန်တော်။ "လူသစ်တယောက် ဖြစ်လာအောင် ဆရာတော်က ဘယ်လိုဖန်တီးပစ်လိုက်လို့လဲ ဘုရား"

ဆရာတော်။ "ငါမှာလဲ သူ့ကို ဒီအစွဲတွေ ကျွတ်လောက်အောင် အချိန်ယူပြီး တရားမဟောနိုင်တော့ ဘယ်လိုလုပ်ပြီး ချွတ်ရပါ့မလဲလို့ အတော် စဉ်းစားရသေးတယ်။ နောက်တော့

ငါကသူ့ကို လမ်းရှောက် ခေါ်ခေါ်သွားပြီး လမ်းရှောက်ရင်း ဗုဒ္ဓတရားအစစ် တရားအမှန်ကို တဖြည်းဖြည်း ဟောယူရတယ် ကွ။ နောက်ဆုံးတော့ (Sir Edwin Arnold)ဆာအက်ဒွင် အားနိုးရေးတဲ့ "အာရှတိုက်ရဲ့လင်းရောင်ခြည်"(Light of Asia)ဆိုတဲ့ စာအုပ်ထဲက

> Pray not ! The darkness will not brighten! Ask Nought from the Silence, for it cannot speak! Vex not your mouthful minds with pious pains! Ah ! Brothers, Sisters, seek.
> Nought from the helpless gods by gifts and hymn, Nor bribe with blood, nor feed with fruit and cakes, within yourselves deliverence must be sought Each man his Prison makes.

ကို ရွတ်ပြပြီး သူ့ကို အကျက်ခိုင်းတယ်။ သဘောနဲ့ အနှစ်သာရကိုလဲ ထုတ်အကြည့်ခိုင်းတယ်။ အဲဒီလိုခိုင်းတော့ ဒီပရိတ်ရွတ်တာတွေ၊ ဂါထာမန္တန်းတာတွေ၊ စည်းချတာတွေဆိုတဲ့အစွဲတွေ အကုန်ပြုတ်ကုန်တော့တာဘဲကွ"

ဒီစာပိုဒ်ကလေးရဲ့ အဓိပ္ပာယ်အကျဉ်းကတော့

ဆုမတောင်းလင့်။ အမှောင်ထုက လင်းလာလိမ့်မည် မဟုတ်။ ဆိတ်ငြိမ်ထုမှလည်း ဆုမတောင်းလင့်။ ဆိတ်ငြိမ်ထု ကား စကားမပြောနိုင်။

သင်တို့၏ ငြိုငြင်ပင်ပန်းနေသည့် စိတ်ခါတ်တို့ကို ဘုရားတရားကို ကြည်ညိုသည့် ဇက္ကဆင်းရဲတို့ဖြင့် အနှောက်အရှက် မပြုပါလင့်။

အို ညီတော် နောင်တော် နှမတော်တို့၊ အားကိုးရာမဲ့ နတ်သိကြားတို့ထံတွင် ပူဇော်ခြင်း၊ ဓမ္မဂီတ သီဆိုခြင်းတို့ဖြင့် မမှီကိုးကြပါလင့်။

ယဇ်နတ်ပူဇော်ခြင်း၊ သစ်သီး မုန့်ဝဲသရေစာတို့ဖြင့် ပူဇော်ပသခြင်း အမှုတို့ကိုလည်း မပြုပါလင့်။

လွတ်မြောက်မှုကို အသင်တို့ ခန္ဓာကိုယ်အတွင်းမှာပင် ရှာဖွေကြကုန်လော့။

လူတိုင်း လူတိုင်း ကိုယ့်အကျဉ်းထောင်ကို ကိုယ် ဆောက်တည်နေခြင်းသာ ဖြစ်၏။

(ဘာသာပြန်ဆိုသူ့ အမှာ)

ကျွန်တော်။ "ဦးအရိယဓမ္မဟာ ဒီအစွဲတွေကို ဘယ်ကများ ရခဲ့ပါလိမ့်မလဲ ဆရာတော်"

ဆရာတော်။ "အို ဒီအစွဲတွေကို ရခဲ့ရုံဘင် ဘယ်ကမလဲကွ၊ သူ့ခများ ရဟန်းပြုရတာတောင် လွယ်လွယ်နဲ့ပြုခဲ့ရတာ မဟုတ်ဖူးကွ။ အင်္ဂလိပ်ဘာသာကနေပြီး ဗုဒ္ဓဘာသာကို ကူးလာခဲ့တဲ့ လူဆိုတော့ ဗုဒ္ဓဘာသာကို တကယ်တန်း စွဲလန်းယုံကြည်တဲ့လူမို့ ခံနိုင်ဒါပေါ့ကွာ"

ကျွန်တော်။ "ဘာများ လုပ်ခဲ့ရသေးသတဲ့လဲ ဘုရား"

ဆရာတော်။ "အို ဗုဒ္ဓဘာသာကို လိုလားသူအဖြစ် ဖိုးသူတော်ဘဝနဲ့ တနှစ်လောက် နေခဲ့ရတယ်ကွ။ အဲဒီနောက် အရပါတိဝင် သာမဏေအဖြစ်နဲ့ တနှစ်လောက် နေရပြန်တယ်။ အဲဒီလိုနေပြီးမှ ပါတိဝင်အဖြစ် ရဟန်းပြုခဲ့ရသတဲ့ကွ။ ဒီကြားထဲ နမက္ကာရတွေ၊ ပရိတ်ကြီးတွေ၊ မေတ္တာပို့တွေ၊ ဂါထာမန္တရားတွေကိုလဲ ကျက်ရ ရွတ်ရသေးတာပေါ့ကွာ"

ကျွန်တော်။ "သူ ဆရာတော့်ဆီကို ဘယ်ကနေပြီး ဘယ်[illegible]ဆက်မိလို့ ရောက်လာတာလဲ ဘုရာ့"

ဆရာတော်။ "သူက ဖွူးဘက်မှာ ရဟန်းလာပြုတာကွ။ သူက ဗုဒ္ဓအဘိဓမ္မာကို ပါဠိလိုတွေ ဘာတွေထက် အင်္ဂလိပ်လို လေ့လာချင်တဲ့စိတ်က ပိုများနေတော့ အင်္ဂလိပ်ဘာသာနဲ့ ဗုဒ္ဓဘာသာကို လေ့လာနိုင်ဘို့နေရာကို ရှာနေတာပေါ့ကွာ။ အဲဒီတော့ တောင်ငူလောကုတ္တရာ သိမ်ကုန်းဆရာတော် အရှင်ကုဿလက ငါ့ဆီလွှတ်လိုက်တာနဲ့ ရောက်လာတာဘဲ"

ကျွန်တော်။ "ဆရာတော် ဦးကုဿလနဲ့ ဆရာတော်တို့ အတော် ရင်းနှီးကြလား ဘုရား"

ဆရာတော်။ "အေး၊ ငယ်ငယ်က ရတနာပင်စည်ကျောင်းမှာ အတူတူနေခဲ့တယ်။ ကြီးတော့လဲ မန္တလေး မဟာဝိသုဒ္ဓာရုံတိုက်မှာ စာအတူတူ သင်ခဲ့ရတယ်ကွ"

(ရတနာပင်စည်ကျောင်းကား တောင်တွင်းကြီးမြို့၏ အရှေ့မြောက်ဖက် တမိုင်ခန့်တွင်ရှိသည့် တောရကျောင်း ဖြစ်၏။ ယခု ဆရာတော် ရှင်ဥက္ကဋ္ဌ သီတင်းသုံးနေတော်မူသည့် နတ်မိုးတောရနှင့် တဖာလုံခန့် ကွာ၏။ တောင်ငူ လောကုတ္တရာ သိမ်ကုန်းဆရာတော် အရှင်ကုဿလသည် ကျောက်ကွင်း ဗုဒ္ဓဘာသာနှင့် ခရစ်ယံဘာသာ ဝါဒပြိုင်ပွဲတွင် ဗုဒ္ဓဘာသာဘက်မှ နာယကဆရာတော်အဖြစ်နှင့် တာဝန်ယူခဲ့ပါသည်။ ဘာသာပြန်ဆိုသူ စကားချပ်)။

ဤနည်းဖြင့် အရှင်ဥဂ္ဂသသည် အရှင်အရိယဓမ္မ ဖြစ်လာခဲ့၏။ သူသည် အရှင်ဥက္ကဋ္ဌထံတွင် ဗုဒ္ဓဘာသာ အယူဝါဒ သာမက ကမ္ဘာတွင် ယနေ့ ထင်ရှား ကျော်ကြားလျက်ရှိသည့် ဟိန္ဒူ၊ ခရစ်ယံ၊ မဟာမေဒင်စသည့် ဘာသာကြီးများနှင့် ဆိုင်ရာကျမ်းဂန်များ၊ ခက်ရာခက်ဆစ် အချက်အလက်များကိုပါ

အားထက်သန်ရာ လေ့လာဆည်းပူးခဲ့၏။ ထိုအတွင်း ပြည်ခရိုင် ဝက်ထီးကန်အနီး ကျောက်ကွင်းရွာ၌ ဗုဒ္ဓဘာသာနှင့် ခရစ်ယာန်ဘာသာတို့ ဝါဒပြိုင်ပွဲ ကျင်းပရန်ကိစ္စ ပေါ်ပေါက်ခဲ့၏။ ဤကိစ္စ ပေါ်လာသဖြင့် အောင်လံမြို့ ဗုဒ္ဓသာသနာပြုကျောင်းမှ ကျောင်းအုပ်ဆရာတော် ဦးမေဓာနန္ဒသည် ဆရာတော်အား ဘာသာရေးဝါဒပြိုင်ပွဲဖြစ်တို့ရန် အခြေအနေသို့ ဆိုက်ရောက်နေကြောင်း၊ ဆရာတော်ကိုယ်တိုင် ဗုဒ္ဓဘာသာဘက်မှ တာဝန်ယူပြီး ဟောပြောမည်ဆိုလျှင် ဤပြိုင်ပွဲ ဖြစ်မြောက်အောင် စီစဉ်ပေးလိုကြောင်း ကိုယ်တိုင်လာရောက် လျှောက်ထားလေ၏။ ဤအကြောင်းကို ဆရာတော်က ကျောင်းမှ နာယကဆရာတော်များနှင့် ဆရာ၊ ဆရာမများကို ခေါ်ယူ ပြောပြသောအခါ အားလုံးက ဝမ်းပန်းတသာ ဖြစ်ကြ၏။ အားလုံးက ယခုပွဲသည် ဆရာတော်၏ စွမ်းရည်သတ္တိကို ပြရမည့်ပွဲဖြစ်ကြောင်း သိကြ၏။ ဆရာတော်သာ ဗုဒ္ဓဘာသာဘက်မှ ဝင်၍ ဟောပြောလိုက်လျှင် ဗုဒ္ဓဘာသာဘက်မှ မလွဲမသွေ အောင်ပွဲခံရမည်ကိုလည်း အခိုင်အမာ ယုံကြည်ထားကြ၏။ ထို့ကြောင့် ဝမ်းအသာကြီး သာနေကြခြင်းပင် မဟုတ်တုံလော။

ဤကဲ့သို့ ဝမ်းမြောက်ဝမ်းသာ ဖြစ်နေကြသူများအနက် သူများတကာထက် မနေနိုင် မထိုင်နိုင်လောက်အောင်၊ ဇွဲခြွေ မဆည်နိုင်လောက်အောင် ဝမ်းသာနေသူကား အရှင်အရိယမေဓပင် ဖြစ်၏။ သူသည် ဆရာတော်အား —

"ဒီပွဲမှာ တပည့်တော်ပါ ပါပါရစေ။ တပည့်တော်က ခရစ်ယာန်သူထွက်ပါ။ တပည့်တော်ကိုယ်တိုင်က ခရစ်ယာန်ဘာသာက ထွက်ပြီး ဗုဒ္ဓဘာသာဘက်ကို ဘာ့ကြောင့် ကူးပြောင်းလာ

ချသလဲ ဆိုတာကို ပြန်ပြီး ပြောလိုက်ရရင် တပည့်တော်တို့က အနိုင်ရမှာဘဲ ဘုရား'' ။

ဆရာတော်။ ''အေး၊ ကိုယ်တော်က ခရစ်ယာန်ထဲက ထွက်ပြီး ဗုဒ္ဓဘာသာ ဖြစ်လာသလို ခရစ်ယာန်ဘက်မှာလဲ ဗုဒ္ဓဘာသာ ရဟန်း စာတတ်ပေတတ်တွေကထွက်ပြီး ဓမ္မဆရာတွေ လုပ်နေကြတာလဲ ရှိသေးတယ်။ ဒါပေမယ့် ကိုယ်တော်နဲ့တော့ သူတို့နဲ့ ရည်ရွယ်ချက်ချင်း၊ မျှော်မှန်းချက်ချင်း မတူကြဘူးပေါ့။ ဒီပွဲမှာ ကိုယ်တော့်ကို ဘယ်လောက်ထိအောင် လေ့လာဆည်းပူးမိပြီ ဆိုတာ သိရအောင် မှတ်တင်ကြည့်ရမှာပေါ့''

ထို့နောက် ဆရာတော်သည် ဝါဒပြိုင်ပွဲသို့ ချီတက်ရန် သူ့တပ်ကို သူ တာစူပါတော့သည်။ သူ့တပ်ထဲတွင် ပါဝင်သည့် သူများမှာ အရှင်သုတ၊ အရှင်ရေဝတ၊ အရှင်အရိယဓမ္မ၊ တောင်တွင်းကြီးမြို့မှ မြန်မာပညာရှိ ဆရာကြီး ဦးကွန့်နှင့် ကျွန်တော်တို့ ဖြစ်ကြ၏။ ကျွန်တော်ကား ဟောပြောရန် မဟုတ်၊ ဆရာတော်၏ အတွင်းရေးမှူးအနေဖြင့် လိုက်ပါရန် ဖြစ်၏။ သို့နှင့် ဆရာတော်၏ တပ်ဖွဲ့သည် တောင်တွင်းကြီးမြို့မှ ထွက်ခဲ့ကြ၏။ အရှင်အရိယဓမ္မသည် စိတ်အားလည်း အလွန်ထက်သန်၊ ဗုဒ္ဓဘာသာကို သူတပါးက ထိပါးပြောဆိုလျှင်လည်း အနည်းငယ်မျှ မခံနိုင်တတ်သဖြင့် ဆရာတော်က သူ့အား တလမ်းလုံး ဒေါသမကြီးရန် သတိပေးခဲ့ရ၏။

ကျောက်ကွင်းဝါဒပြိုင်ပွဲသည် ကျွန်တော်တို့ မျှော်မှန်းခဲ့ကြသည်ထက် ပို၍ ကြီးကျယ်စည်ကား၏။ ထိုပွဲတွင် ကျွန်တော်တို့ မျှော်မှန်းခဲ့ကြသည်ထက် ပို၍ ပြောင်မြောက်သည့် အောင်ပွဲကိုလည်း ဆင်နွှဲနိုင်ခဲ့ကြ၏။ ထို့ကြောင့် ကျွန်တော်တို့အားလုံး

ဝမ်းအမြောက်ကြီး မြောက်ကြ၏။ အရှင်အရိယမေ့ကား မိုးမမြင် လေမမြင်နိုင်လောက်အောင် ပီတိလှိုင်းဖြင့် ဖုံးလျက်ရှိချေပြီ တကား။

သို့ ဝါဒပြိုင်ပွဲမှ ပြန်လာကြပြီးနောက် ဝါဒပြိုင်ပွဲတွင် ဆရာတော်၏ ဘာသာအယူဝါဒရေးဆိုင်ရာ ဗဟုသုတတို့မှာ ဟင်းလေးအိုးကြီးသဖွယ် စားမကုန် ဒေးမခန်းနိုင်လောက်အောင် ပြည့်ဝကြောင်း ပိုမို၍ ထင်ရှား သိလာသဖြင့် အရှင်အရိယမေ့သည် ယခင်ကထက်ပင် ဆရာတော်အား ကြည်ညို အားကိုးလာပြန်ပါသည်။

ထိုအတွင်း ဆရာတော် ဦးလောကနာထ၏ အိန္ဒိယသို့ ခြေလျင်ကြွရန် သံဃာ့အဖွဲ့သည် ပေါ်ပေါက်လာခဲ့၏။ အရှင်အရိယမေ့သည် ဤအဖွဲ့တွင် လိုက်လိုလှသဖြင့် ဆရာတော်အား အခွင့်ပြုပါရန် လျှောက်ထားရာ ဆရာတော်က လွယ်လင့်တကူနှင့်ပင် အခွင့်ပြုလိုက်ပါသည်။ သို့ရာတွင် အရှင်အရိယမေ့သည် မျှားမကြာမီ ပြန်ကြွလာသဖြင့် ကျွန်တော်က သူ့အား

"ဦးပဉ္ဇင်း၊ ဘယ့်နှယ်ကြောင့် မလိုက်ဘဲ ပြန်ကြွလာဒါတုန်း ဘုရား" ဟု လျှောက်ထားသောအခါ သူက

"ဦးပဉ္ဇင်းတို့ ဦးလောကနာထနဲ့ ဝါဒချင်း မတူဘူး။ အဲဒီတော့ တွဲလို့မဖြစ်ဒါနဲ့ မလိုက်ဘဲ ပြန်လာခဲ့ဒါဘဲ" ဟု ပြန်၍ ဖြေပါသည်။

ထို့နောက် ဆရာတော် အရှင်ဥက္ကဋ္ဌထံမှာပင် ဘာသာရေးဆိုင်ရာ စာပေကျမ်းဂန်တို့ကို လေ့လာပြန်ပါသည်။ ဤကား ဒုတိယအကြိမ် ဖြစ်၏။ ထိုအတွင်း တနေ့၌ ဘုံဘိုင်မြို့ဗုဒ္ဓဘာသာအသင်းကြီးကို ထူထောင်သူနှင့် ဥက္ကဋ္ဌလည်းဖြစ်သူ ဒေါက်တာ

နာယားထံမှ ဆရာတော်အား ထိုအသင်းကြီးမှ တည်ဆောက်လှူဒါန်းထားသည့် ဗုဒ္ဓဝိဟာရကျောင်းကြီး၌ ကျောင်းထိုင်ဓမ္မကထိကဆရာတော် အဖြစ်ဖြင့် ကြွရောက် သီတင်းသုံးတော်မူရန် ပင့်စာတစောင် ရောက်ရှိလာပါသည်။ ဆရာတော်မှာ တဖက်မှ ဗုဒ္ဓသာသနာပြု ပုဂ္ဂိုလ်များအဖြစ်ဖြင့် မြန်မာပြည်ဒေသ အနှံ့အပြားသို့ စေလွှတ်ရန် သံဃာများအား အင်္ဂလိပ်ဘာသာနှင့် ဗုဒ္ဓဘာသာကျမ်းဂန်တို့ကို ပို့ချခြင်းနှင့် တဖက်ကလည်း ပြိတိသျှနယ်ချဲ့သမားက သူ့အင်္ဂလိပ်စာကို တန်ဖိုးကြီးကြီး မြှင့်ထားပြီး လူဂုဏ်တန်လူ့ရေတတ်တို့ သားသမီးများကိုသာ သင်ကြားစေလျက် ကျောင်းထွက်လျှင် သူ့ကျွန်ဖြစ်အောင် ဖန်တီးနေသည့်စနစ်ကို တိုက်ဖျက်ရန်၊ ထွန်တုံးကိုစီးပြီး လယ်ကန်သင်းကြိုကန်သင်းကြားတွင် နွားကျောင်းနေကြသည့် ကျေးလက်မှ နွားကျောင်းသားများပါမကျန် အင်္ဂလိပ်ဘာသာကို သင်ပေး၍ ပြိတိသျှနယ်ချဲ့သမားကို တော်လှန်ကြမည့် တော်လှန်ရေးသမားများ ဖြစ်လာအောင် ဖန်တီးရန်ဗုဒ္ဓသာသနာပြု အမျိုးသားကျောင်းကြီးကို ဖွင့်လှစ်သင်ကြားပို့ချခြင်းဟူသော တာဝန်နှစ်ရပ်ဖြင့် မအားမလပ်နိုင်သောကြောင့် ဒေါက်တာနာယားလှူစု၏ဆန္ဒအတိုင်း မကြွနိုင်ချေ။ ထို့ကြောင့် အရှင်အရိယဓမ္မအား

"ကဲ ရှင်အရိယဓမ္မ၊ ဟောဒီက ဒေါက်တာ နာယားတို့လှူစုရဲ့စာကို ဖတ်ကြည့်စမ်းပါဦး"

အရှင်အရိယဓမ္မသည် စာကို ယူဖတ်ပြီးနောက် အလွန်အားရ ဝမ်းသာကျေနပ်ဖြင့်

"ဟာ ဆရာတော်ရဲ့ပညာဉာဏ်ဂုဏ်သတင်းကို ကြားလို့ ပင့်ထာ၊ ဆရာတော်နဲ့ အတော်ဆုံးတဲ့ ဘုရား။ ဟိုမှာ ဘာသာ ပေါင်းစုံနဲ့ ယှဉ်ပြိုင်ဟောရ၊ ပြောရမယ့် အခွင့်အရေးတွေကို ရမှာဘုရား။ ဆရာတော် ကြွသာကြွတော်မူပါ"

ဆရာတော်။ "ကိုယ်တော့်အမြင်နဲ့ ကိုယ်တော်က ကြွစေ ချင်တာကတော့ ဟုတ်ပါတယ်။ ဒီကျောင်းကြီးနဲ့ ဒီလိုဘာသာ ရေးအယူအဆတွေရော စာပေတွေကိုပါ လာရောက် သင်ကြား နေကြတဲ့ ဦးပဥ္စင်းတွေအတွက် ဘယ်သူက တာဝန်ယူမှာလဲ။ ပြီးတော့ ကျောက်ကွင်းဝါဒပြိုင်ပွဲကြီး ပြီးကတည်းက ဘာ သာရေးဆိုင်ရာ အမေးတွေကို ဖြေရ ရှင်းရ၊ ဟိုကဒီကပင့်လို့ သွားပြီး ဟောရပြောရနဲ့ နားရတယ်တောင် မရှိဘူး။ အဲဒီတော့ ဒီအလုပ်တွေကိုတိုးလို့တန်းလန်းနဲ့ထားလို့မဖြစ်ဖူး ကိုယ်တော်"

အရှင်အရိယဓမ္မ။ "ဒါဖြင့် ဒီကိစ္စကို ဆရာတော် ဘယ်လို စီမံမလဲ ဘုရား။ မကြွနိုင်ဘူးလို့ဘဲ စာပြန်လိုက်တော့မှာလား"

ဆရာတော်။ "ကိုယ်တိုင်ကြွဘို့ဆိုတာကတော့ ကိုယ်တော် မြင်ထဲ့အတိုင်းဘဲ မဖြစ်နိုင်ဘူး။ အိန္ဒိယ ဟံ့ဘိုင်မြို့ကနေပြီး ဗုဒ္ဓ သာသနာကို ပြုဘို့ကလဲ အခွင့်အခါကောင်းတခုဘဲ။ အဲဒီတော့ ကိုယ်တော့်ကို တပည့်တော့်ကိုယ်စား လွှတ်လိုက်ချင်တယ်။ ကိုယ်တော် ကြွမလား"

အရှင်အရိယဓမ္မ။ "ဖြစ်ပါ့မလား ဆရာတော်။ တပည့် တော်အနေနဲ့ အခြားဘာသာတွေနဲ့ ပြိုင်လို့ ဖြစ်နိုင်ပါဦးမလား ဘုရား"

ဆရာတော်။ "ဖြစ်နိုင်ပါတယ်။ ကိုယ်တော့်မှာ အခြေခံ တော်တော်ကောင်းသွားပြီဘဲ။ ရှေ့ဆက်လေ့လာရင် ဖြစ်နိုင်ပါ

တယ်။ ဘယ့်နှယ်လဲ။ ကိုယ်တော် သဘောတူရင် ဒေါက်တာ နာယားဆီကို ကိုယ်တော့်ကို တပည့်တော်ရဲ့ကိုယ်စားလှယ် အဖြစ်နဲ့လွှတ်လိုက်မယ်လို့ စာပြန်လိုက်မယ်"

အရှင်အရိယဝံသ။ "ဒီကိစ္စနဲ့ပတ်သက်လို့ကတော့ ဆရာတော်ဘဲ ဆုံးဖြတ်ပါဘုရား။ တပည့်တော်အနေနဲ့ကတော့ ဆရာတော်ကသင့်တော်တယ်၊ ဖြစ်နိုင်လောက်တယ်ဆိုပြီး လွှတ်လိုက်ရင်သွားပါတယ်ဘုရား။ အကူအညီလိုအပ်တဲ့အခါမှာလဲ ဆရာတော့်ဆီစာပေးပြီး အကူအညီ တောင်းရမှာပေါ့ဘုရား"

ဆရာတော်။ "ဒါတွေကတော့ ဖြစ်နိုင်ပါတယ်။ ကဲ ကိုယ်တော် သွားမယ်ဆိုရင် ဒေါက်တာနာယားဆီကို စာပြန်လိုက်ရုံဘဲ"

ဤကဲ့သို့ ပြောပြီးနောက် **ဆရာတော်သည် ဒေါက်တာ** နာယားတို့ထံသို့ သူကိုယ်တိုင် ဘုံဘိုင်မြို့သို့ မကြွနိုင်ကြောင်း၊ သို့ရာတွင် ကိုယ်စားလှယ်တပါး စေလွှတ်သည်ကို လက်ခံမည်ဖြစ်ပါက အရှင်အရိယဝံသကို စေလွှတ်မည်ဖြစ်ကြောင်းနှင့် တကွ အရှင်အရိယဝံသ၏ အတ္ထုပ္ပတ္တိအကျဉ်းချုပ်နှင့် အခြား လိုအပ်သည့် အချက်အလက်တို့ကို အပြည့်အစုံရေးသား၍ စာတစောင် ပြန်ကြားလိုက်ပါသည်။

များမကြာမီအတွင်း ဒေါက်တာနာယားတို့ထံမှ ဆရာတော့်ထံသို့ အရှင်အရိယဝံသကိုပင် သူ့ကိုယ်စား စေလွှတ်ဘို့ရန် စာနှင့်တကွ ခရီးစရိတ်ငွေ ၂၀၀ ရောက်ရှိလာရာ ဆရာတော်က အရှင်အရိယဝံသအား ခေါ်ကာ

"ကဲ ရှင်အရိယဓမ္မ၊ ဒေါက်တာနာဃားတို့ဆီက ကိုယ်တော်
ဲ ပင့်တဲ့စာနဲ့ ခရီးစရိတ်ငွေ ၂၀၀ဝ တော့ ပို့လိုက်ပြီလေ။ ကိုယ်
ဘာ်ကြွတို့သာ ပြင်စရာရှိတာတွေကို ပြင်ပေတော့"

အရှင်အရိယဓမ္မ။ "တပည့်တော်က ဆရာတော့်တပည့်ဘဲ
ုရား၊ သွားဆို ချက်ခြင်းထသွားရုံပါဘဲ။ ဘာပစ္စည်းမှ သိမ်း
ရာ ထည့်စရာမရှိပါဘူးဘုရား။ တပည့်တော်အနေနဲ့ကတော့
ာယ်ပြီး မသွားချင်လှပါဘူး ဘုရား။ ဆရာတော့်အနားမှာဘဲ
ာက်ပြီး ပညာဆည်းပူးချင်သေးတာဘဲဘုရား"

(အရှင်အရိယဓမ္မကား ဆရာတော့်ထံ၌ ပညာဗဟုသုတ
ာည်းပူးရာတွင် အားရတင်းတိမ်မှု မရှိသေးချေ။)

ဆရာတော်။ "အို ဒါတွေကတော့ ကိုယ်တော် ဆက်ပြီး
လှလာရင် ဖြစ်ပါပြီ။ ဒီကိစ္စနဲ့ပတ်သက်လို့တော့ ပူပင်သောက
ျားမနေပါနဲ့ ကိုယ်တော်"

အရှင်အရိယဓမ္မ။ "တင်ပါ့ဘုရား၊ ဆရာတော်က ဒီလို
အမိန့်ရှိပြန်တော့လဲ တပည့်တော် သွားအားရှိပါတယ်။ တပည့်
ာတော်ကိုဆုံးမသွန်သင်စရာရှိရင် အားမနာတမ်း ဆုံးမသွန်သင်
ါ ဘုရား"

ဆရာတော်၊ "ကိုယ်တော့်ကို အထူးသွန်သင် ဆုံးမစရာ
ာရှိပါဘူး။ သီလ ၃ ပါးကိုတော့ လုံအောင် ထိန်းရလိမ့်မယ်။
ဒီသီလ ၃ ပါးကို ကျကျနန ထိန်းနိုင်ရင် ကိုယ်တော်လုပ်ချင်တဲ့
ဗုဒ္ဓသာသနာပြုလုပ်ငန်းဟာ အိန္ဒိယမှာထမြောက်အောင်မြင်မှာ
အမှန်ဘဲ"

အရှင်အရိယဓမ္မ။ "တပည့်တော် စောင့်ထိန်းရမယ့်သီလ ၃ ပါးက ဘာတွေလဲဘုရား။ တပည့်တော် ဆရာတော်ပြော သမျှကို လိုက်နာပါ့မယ် ဘုရား"

ဆရာတော်။ "ကဲ ကိုယ်တော် မှတ်ထား။ ကိုယ်တော် စောင့်ထိန်းရမယ့် သီလ သုံးပါးဟာ နံပတ်(၁)က ဆေးလိပ် မသောက်နဲ့။ နံပတ်(၂)က စကား နည်းနည်းပြော။ တရား စကားကို လာမေးမှ၊ ဆွေးနွေးမှ၊ လျှောက်ထားမှ ပြောရ ဟောရမယ်။စည်းများလိုပေါ့၊မတီးဘဲနဲ့ မမြည်ရဘူး။မြည်နေရင် သူ့အထင်သေးတတ်တယ်။ တီးတဲ့အခါကျမှ ပြိုပြိုသသ ဟိန်းနေ အောင် မြည်ရတယ်။ နောက်ဆုံး နံပတ် (၃) သီလကတော့ စိတ်ရှည်ရှည်ထားပြီး တရားကို ဆွေးနွေး ဟောပြောရမယ်။ သည်းခံစိတ် မွေးပြီး ဒေါသကို ချုပ်တီးပါ။ ကိုယ်တော့်ကို သူများက ဒေါသဖြစ်အောင်၊ ဒေါသဖြစ်ရင် မှားအောင် တို့ တာ ဆိတ်တာတို့ကို မခံနိုင်ဘူး။ သေးငယ်တဲ့ကိစ္စတွေနဲ့ ပတ် သက်ရင် အလျှော့ပေးပါ။ အယူအဆနဲ့ သဘောတရားတို့နဲ့ ပတ်သက်လာရင်တော့ ကြံ့ကြံ့ခိုင်ခိုင် ရပ်တည်ရမယ်ပေါ့။ ကဲ တပည့်တော်ပြောဒါကို သဘောပေါက်ပြီလား"

အရှင်အရိယဓမ္မ။ "သဘောပေါက်ပါတယ်ဘုရား။ ဆရာ တော်က တပည့်တော်မှာရှိတဲ့ ချွတ်ယွင်းချက်တွေကို တကယ့် တပည့်ရင်းတယောက်အနေနဲ့ စေတနာထားပြီး တိတိကျကျ ပွင့်ပွင့်လင်းလင်း ထောက်ပြဝေဖန်ပေးတဲ့အတွက် အလွန်လဲ ကျေးဇူးတင်လှပါတယ် ဘုရား။ တသွေမတိမ်းလဲ လိုက်နာ ကျင့်သုံးပါ့မယ်ဘုရား"

---

ဆရာတော်က ဤသို့ သွန်သင်စရာရှိတာကို သွန်သင်၊အကြံ ဉာဏ်ပေးစရာရှိတာကို အကြံဉာဏ်ပေးပြီးနောက် ဆရာတော် အရှင်အရိယဓမ္မသည် အိန္ဒိယပြည် ဘုံဘိုင်မြို့သို့ ကြွသွားပါ သည်။

ဤကဲ့သို့ အိန္ဒိယပြည် ဘုံဘိုင်မြို့ ဗုဒ္ဓဝိဟာရတွင် ၄ကျောင်း ထိုင် ဓမ္မကထိကဆရာတော်အဖြစ်ဖြင့် သီတင်းသုံးတော်မူစဉ် အတွင်းမှာ ယခု ဤစာအုပ်တွင် ပါဝင်ကြသည့် ဒေါက်တာ အယ်(မ်)ဘောကာ အမှုးပြုသည့် ပါမောက္ခများ၊ ကုန်သည်ကြီး များ၊ ခရစ်ယာံဘုန်းကြီး၊ ဟိန္ဒူဆာဒူးကြီးစသည့် ပုဂ္ဂိုလ်တို့ မေးသည့် ဗုဒ္ဓဘာသာနှင့်ဆိုင်ရာ အမေးပုစ္ဆာတို့ကို ဖြေကြား ခဲ့ခြင်း ဖြစ်ပါသည်။ သို့ ဗုဒ္ဓဝိဟာရ၌ သီတင်းသုံးနေစဉ်အတွင်း ဒေါက်တာနာယားထံမှ ဆရာတော့်ထံသို့ အရှင်အရိယဓမ္မ စိတ် တိုကြောင်း၊ ဒေါသကြီးကြောင်း တိုင်စာတစောင် ရောက် လာသဖြင့် ဆရာတော်က သူ့ထံသို့ စာတစောင် ရေးသား ပေးပို့ခဲ့ရသေးသည်။ ထို့နောက် အိန္ဒိယပြည် ဘုံဘိုင်မြို့၌ ၂ နှစ် ကျော်မျှ သီတင်းသုံး၍ ၁၉၃၇ ခုနှစ်လောက်တွင် တောင်တွင်း ကြီးဆရာတော့်ထံတွင် ဘာသာအယူဝါဒမျိုးစုံနှင့်ဆိုင်ရာ ပညာ ဗဟုသုတတို့ကို ဆည်းကပ်လေ့လာပြန်ပါသည်။

သို့ လေ့လာရင်းနှင့် အမေရိကတိုက်သို့ ဗုဒ္ဓဘာသာနာတော် ကို သွားရောက်ပြုစုလိုသည့်အကြံ ပေါ်လာပြန်သဖြင့် ထိုစဉ်က အမေရိကပြည်ထောင်စုသမတ ရူစဘဲ့ (လ်) (တ်) ထံသို့ "ဒါယကာ သမတကြီးတို့နိုင်ငံသည် ပစ္စည်းဥစ္စာ ရတနာများ ကြွယ်ဝချမ်းသာသည်ကား မှန်၏၊ စက်မှုလုပ်ငန်းနှင့် သိပ္ပံ ပညာများ ဖွံ့ဖြိုးတိုးတက်၏။ သို့ရာတွင် အလင်းရောင်မဲ့ပြီး

အမှောင်ထု ဖုံးအုပ်နေသဖြင့် လူသားတို့ကျင့်အပ်သည့်လူ့ကျင့်ဝတ်၊ နီတိဓမ္မတို့ ခေါင်းပါးသောကြောင့် ရာဇဝတ်ပြစ်မှုများ ကြောက်ဖွယ်လိလိ အမြောက်အမြား ကျူးလွန်လျက် ရှိနေကြချေသည်။ ဗုဒ္ဓရှင်တော်မြတ်၏ မေတ္တာကရုဏာ အလင်းရောင်ဖြင့် ဤအမှောင်ထုကို ဖြိုခွင်းပါက ဒါယကာသမတကြီးနိုင်ငံသည် အလွန်တင့်တယ် သာယာသည့် နိုင်ငံကြီးတနိုင်ငံ ဖြစ်လာချေမည်။ ထို့ကြောင့် ဦးပဥ္စင်းသည် ဗုဒ္ဓ၏သားတော်သာသနာ့ဝန်ထမ်းတို့ ထမ်းဆောင်ရမည့် တာဝန်ဝတ္တရားကိုသိမြင် နားလည်သည့်အနေနှင့် လာရောက်၍ ဒါယကာကြီးတို့ပြည်တွင် ဗုဒ္ဓ၏ ဓမ္မရောင်ခြည်ကို ထွန်းညှိလိုပါသဖြင့် ဒါယကာသမတကြီးက အခွင့်ပြုနိုင် မပြုနိုင် အကြောင်းပြန်ကြားရန် မေတ္တာရပ်ခံအပ်ပါသည်'' ဟူ၍ စာတစောင်ရေးပြီး ပေးပို့လိုက်ရာ သမတရူစဘဲ့(လ်)(တ်)က သာသနာပြုရန် ကြွလိုပါက ကြွလာနိုင်ကြောင်း၊ ကန့်ကွက်ပိတ်ပင်စရာ အကြောင်းမရှိကြောင်း စာပြန်လိုက်ပါသည်။ သမတရူစဘဲ့(လ်)(တ်)၏ ဤပြန်စာကို ဆရာတော်အား အရှင်အရိယဓမ္မက ကပ်လိုက်ရာ ဆရာတော်၏ဦးနှောက်သည် ရှုတ်သွားလေ၏။ အရှင်အရိယဓမ္မကို သူ့ဆန္ဒအတိုင်း အမေရိကပြည်သို့ ကြွလည်းကြွစေလို၏။ သို့ရာတွင် သူ့ကိုထောက်ပံ့ဘို့ရန် ခရီးစရိတ်ကား တပြားမျှမရှိချေ။

နောက်ဆုံး ဘယ်ကမျှ ရှာကြံ၍ရရန်လမ်းစ မမြင်တော့သည်၏ အဆုံး၌ ရန်ကုန်မြို့ ဗုဒ္ဓဘာသာအသင်းမှ ပုဂ္ဂိုလ်ကြီးများထံ ရူစဘဲ့(လ်)(တ်)၏စာကိုပြပြီး ခရီးစရိတ်အလှူခံရလေတော့သည်။ ၎င်းတို့ထံမှ ခရီးစရိတ်ဖြင့် အမေရိကပြည်သို့ကြွ၍

ဗုဒ္ဓသာသနာကို ဆင်းဆင်းရဲရဲ ဇွဲနဘဲသန်သန်နှင့်ပြုရင်း မဏ္ဍစိ ကိုပြည့်မှာဝင် ပျံလွန်တော်မူကြောင်း သတင်းစကား ကြားရ၏။ ဘယ်နည်းဘယ်ပုံ ပျံလွန်တော်မူသည်ကိုမူ အတိအကျ မသိ ရပေ။

ဗုဒ္ဓ၏သားတော်မြတ် အာဇာနည် မော်ကွန်းကမ္ပည်းထိုး လောက်သည့် ပုဂ္ဂိုလ်တဆူ ပျံလွန်တော်မူသည်ကို ဘယ်သူမျှ မသိလိုက်ချေ။

တောင်တွင်းဆရာတော် အရှင်ဥက္ကဋ္ဌလည်း လက်ရုံးကောင်း တဆူ ပြုတ်တော်မူရှာချေပြီ။

သို့ရာတွင် အရှင်အရိယဓမ္မအစား ဗုဒ္ဓ၏သားတော် အာဇာ နည်ပုဂ္ဂိုလ်ထူးပွိုကား အမြောက်အမြား ပေါ်ပေါက်ဆဲ။

တောင်တွင်းကြီးဆရာတော် အရှင်ဥက္ကဋ္ဌလည်း အရှင် အရိယဓမ္မကိုယ်စား လက်ရုံးကောင်းများ အမြောက်အမြား ရရှိဆဲပင်တကား။

ဤကျမ်းငယ်ကို ဘာသာပြန်ဆိုရာတွင် အစစ သင်ပြတော်မူ သည့် တောင်တွင်းကြီးဆရာတော် အရှင်ဥက္ကဋ္ဌနှင့် အဖက်ဖက်မှ ကူညီကြသည့် ကိုတင်အောင်နှင့် ကိုခင်မောင်တုတ် (လုပ်သား ကောလိပ်)တို့အား ကျေးဇူးတင်ကြောင်း မပြော၍ မဖြစ်နိုင် ပါ ဟူလို။

ကိုကိုကြီး(တောင်တွင်းကြီး)

၂၆၊ ၂၊ ၆၇

## မေးခွန်း အမှတ် ၁။

ရှိရှိသမျှသော သတ္တဝါအားလုံးသည် အနတ္တသဘောချည်း ဖြစ်ခဲ့လျှင် မည်သည့်တရားသည် ဇာတိပဋိသန္ဓေ တဖန်ပြန်၍ နေပါသနည်း။ အကယ်၍ ဝိညာဉ်မရှိခဲ့လျှင် ဇာတိပဋိသန္ဓေ သည် အဘယ်နည်းဖြင့် တဖန်ပြန်၍ နေပါသနည်း။ ဗုဒ္ဓ၏ဝါဒ အရ ဇာတိပဋိသန္ဓေ တဖန် ပြန်၍နေခြင်းသဘောကို အနတ္တ သို့မဟုတ် ဝိညာဉ်မဲ့ တရားဒေသနာနှင့်အညီ ရှင်းလင်းဟော ကြားတော်မူပါဘုရား။

(မေးမြန်းလျှောက်ထားသူ ဒေါက်တာ ဓာ၊ အယ်(န်) ဘေတာ၊ အယ်(မ်)ဘာ၊ ပီ အိပ်(ချ်)ဒီ၊ဘား၊အက်(တ်)လော၊ ဒီအက်(စ်)စီ၊ ကွယ်လွန်သူ အိန္ဒိယ တရားဝန်ကြီးချုပ်ဟောင်း၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဝံသ။)

ဆရာတော်အရှင်အရိယဝံသ။ ဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေ တဖန် ပြန်နေခြင်းသဘောဟာ အလွန် နက်နဲတယ်။ ရှင်းလင်း ပြဘို့ရာလဲ ခက်ခဲတယ်။ နားလည် သဘောပေါက်ဘို့လဲ ခဲယဉ်း လှတယ်။ ဟိန္ဒူဝါဒ ဝိညာဉ်ကူးပြောင်းတယ်ဆိုတဲ့ သဘောနဲ့လဲ လုံးလုံးမတူဘူး။ ဒါကြောင့် ဒကာကြီး မှန်တချပ်ကို ယူလာ နိုင်ရင်တော့ မှန်ထဲမှာ အရိပ်ထင်လာတဲ့လူကို ရုတ်တရက် ဇာတိပဋိသန္ဓေ အသစ်တဖန် ပြန်လာတဲ့လူအဖြစ်နဲ့ လက် တွေ့ ဥပမာပြပြီးတော့ ရှင်းပြနိုင်ပါလိမ့်မယ်။

ဒေါက်တာ။ (အလွန်အံ့ဩသွားပြီး) အသက်ရှင်လျက် ရှိနေသူတယောက်ကို ဇာတိပင့်သန္ဓေ တဖန် ပြန်ပြီးနေအောင် လုပ်နိုင်ပါ့မလား ဆရာတော်။

ဆရာတော်။ ဗုဒ္ဓရဲ့ ရှုထောင့်မှနေပြီး ဒီလို အသက်ရှင်နေတဲ့ လူဟာ ဇာတိပင့်သန္ဓေပြန်နေလို့ ဖြစ်နိုင်တယ်လို့ ပြောရလိမ့်မယ်။ ဘာပြုလို့လဲဆိုတော့ ဒီ အခုတွေမြင်နေရတဲ့ ဒကာကြီးတို့ ဦးပဉ္ဇင်းတို့ရဲ့ ရုပ်သဏ္ဍာန်တွေမှာ အသွေးအသား၊ အရိုး၊ အကြောဆိုတဲ့ ရုပ်ကလာပ်တွေဟာ မျက်စိတမှိတ် လျှပ်တပြက်အတွင်းမှာပင် ချုပ်ငြိမ်း ပျက်သုဉ်းနေကြလို့ဘဲ။ ဒီသဘောကို ယခု ခေတ်သစ်သိပ္ပံပညာကလဲ ဟုတ်မှန်ကြောင်း ဝန်ခံထားပြီဘဲ။

(သို့နှင့် မှန်ယူလာသောအခါ)

ဆရာတော်။ (ဒကာကြီးအား ခေါ်ပြီး) ကဲ ဒကာကြီး၊ မှန်ရှေ့မှာ ခဏရပ်ပါဦး။ ပြီးတော့ မှန်ထဲကလူနဲ့ ပတ်သက်တဲ့ မေးခွန်းတွေကိုလဲ သတိထားပြီး ဖြေပါဦး။ ကဲ ဒကာကြီး၊ မှန်ထဲမှာ ဘယ်သူ့ကို မြင်သလဲ။

ဒကာကြီး။ မှန်ထဲကလူဟာ တပည့်တော်ပါဘဲ ဘုရား၊ တခြားသူ မဟုတ်ပါဘူး။

ဆရာတော်။ ကဲ ဒါဖြင့်ရင် မှန်ထဲကလူနဲ့ ဒကာကြီးဟာ နှစ်ယောက်လား၊ တယောက်တည်းလား။

ဒကာကြီး။ (ခေတ္တ စဉ်းစားနေပြီးနောက်) မှန်ထဲကလူနဲ့ တပည့်တော်ဟာ တယောက်ထဲပါဘဲ ဆရာတော်။ ဒီလူပါဘဲ။ တခြားလူ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ ကဲ ဒါဖြင့်ရင် မှန်ထဲကလူက ဘယ်ဘက်ကို မျက်နှာလှည့်ပြီး ဒကာကြီးက ဘယ်ဘက်ကို မျက်နှာလှည့် နေတုံး။

ဒကာကြီး။ တပည့်တော်က အရှေ့ဘက်ကို မျက်နှာလှည့် ပါတယ်၊ မှန်ထဲကလူက အနောက်ဘက်ကို မျက်နှာလှည့်ပါ တယ် ဆရာတော်။

ဆရာတော်။ ဒကာကြီးက အရှေ့ဘက်ကို မျက်နှာမူနေပြီး မှန်ထဲကလူက အနောက်ဘက်ကို မျက်နှာမူနေလို့ရှိရင် ဒကာ ကြီးနဲ့ အဲဒီ မှန်ထဲကလူဟာ တယောက်ထဲ၊ တဦးထဲဘဲလို့ ဘယ့်နှယ်လုပ်ပြီး ဒကာကြီး ပြောနိုင်ဒါလဲ။

ဒကာကြီး။ (အနည်းငယ် အကြံအိုက်သွားပြီး) တပည့် တော်အဖြေကို ပြင်ဖြေပါရစေ ဆရာတော်။

ဆရာတော်။ ဖြေနိုင်ပါတယ်။

ဒကာကြီး။ မှန်ထဲကလူဟာ တပည့်တော် မဟုတ်ပါဘူး။ တပည့်တော်ရဲ့ အရိပ်ပါ ဆရာတော်။

ဆရာတော်။ မှန်ထဲကလူဟာ ဒကာကြီးတော့ မဟုတ်ဘူး၊ ဒါပေမယ့် ဒကာကြီးရဲ့ အရိပ်ဘဲလို့ဆိုရင် အဲဒီအရိပ်က ဒကာ ကြီး လုပ်သမျှကို လိုက်လုပ်နိုင်မှာပေါ့၊ ဟုတ်ရဲ့လား ဒကာကြီး။

ဒကာကြီး။ မှန်ပါတယ် ဆရာတော်။

ဆရာတော်။ ဒီလို ဒကာကြီးရဲ့အရိပ်မို့လို့ ဒကာကြီး လုပ်သမျှ အကုန်လုံး လိုက်ပြီး လုပ်တယ်လို့ဆိုရင် ဒကာကြီးရဲ့ အရိပ်ထင်မှုဘဲဖြစ်တဲ့၊ တနည်းအားဖြင့် ဒကာကြီးရဲ့အရိပ်ဘဲ ဖြစ်တဲ့ ခေါင်းပုံရှေ့မှာ ဒကာကြီးက လက်ကို မြှောက်လိုက်ရင် ဒကာကြီးခေါင်းပုံကလဲ လက်ကိုလိုက်ပြီး မြှောက်ပါ့မလား။

ဒကာကြီး။ အရိပ်ထင်ထားတဲ့ ခေတ်ပုံကဒတော့ တပည့်တော် လုပ်သလို လိုက်လုပ်မှာ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်၊ ဒီလိုဆိုရင် လူတယောက်ရဲ့အရိပ်က အဲဒီလူ လုပ်သမျှ လိုက်ပြီးလုပ်တယ်ဆိုတဲ့ ဒကာကြီးရဲ့စကားဟာ မမှန်တော့ဘူးပေါ့။

ဒကာကြီး။ မမှန်ပါဘူး ဆရာတော်။

ဆရာတော်။ ကဲ ဒကာကြီး၊ မှန်ရှေ့မှာ ခဏ မတ်တတ်ရပ်ပါဦး။ ကဲ ဒကာကြီးရဲ့ ညာဘက်လက်ကို မြှောက်ပြီး ပြန်ချလိုက်ပါဦး။ ကဲ ဒကာကြီးလုပ်သလို မှန်ထဲကလူက လုပ်သလား။

ဒကာကြီး။ လုပ်ပါတယ် ဆရာတော်။

ဆရာတော်။ ကဲ ဒီလို မှန်ထဲကလူဟာ ဒကာကြီးလုပ်သလို လိုက်လုပ်လို့ရှိရင် မှန်ထဲကလူဟာ ခေတ်ပုံထဲကလူလို ဒကာကြီးရဲ့ အရိပ်ပါဘဲ။ ဒကာကြီးက မဟုတ်ပါဘူးလို့ ငြင်းနိုင်ပါ့မလား။ ဒကာကြီးက ငြင်းနေမယ်ဆိုရင် ပရိသတ်ထဲက လူတယောက်ကိုခေါ်ပြီး မေးရဦးမှာလား။

ဒကာကြီး။ ခေါ်ဘို့မလိုတော့ပါဘူး ဆရာတော်။ မှန်ထဲကလူဟာ တပည့်တော်ပါဘဲလို့ တပည့်တော်ရဲ့အဖြေကို ပြန်ပြင်ဖြေပါရစေ ဆရာတော်။

ဆရာတော်။ ကဲ ဦးပဥ္ဇင်းပြခဲ့တဲ့ အကြောင်းပြချက်တွေအရ မှန်ထဲကလူဟာ တခြားလူမဟုတ်ဘဲ ဒကာကြီးပါဘဲလို့ဆိုရင် ဒကာကြီးကို ဦးပဥ္ဇင်း တမျိုးမေးရဦးမယ်။ တကယ်လို့ မှန်ကို ဦးပဥ္ဇင်းက တူနဲ့ထုပြီး ခွဲလိုက်ရင် မှန်ထဲကလူဟာ တခါတည်းပျောက်ကွယ်သွားလိမ့်မယ်။ အဲဒီလို ပျောက်ကွယ်သွားရင် ဒကာကြီးကော တခါတည်းပျောက်ကွယ်သွားမှာလား

ဒကာကြီး။ တပည့်တော်ကတော့ ဘယ်ပျောက်ကွယ်သွားပါမလဲ ဆရာတော်။

ဆရာတော်။ ဒီလို မှန်ထဲကလူ ပျောက်ကွယ်သွားပါလျက်နဲ့ ဒကာကြီးက ပျောက်ကွယ်မသွားဘူးလို့ဆိုရင် ဒကာကြီးနဲ့ မှန်ထဲကလူဟာ တယောက်တည်းမဟုတ်တော့ဘူး။ တခြားစီပေါ့။

ဒကာကြီး။ တခြားစီလဲ မဟုတ်ပါဘူး ဆရာတော်။ တပည့်တော်တော့ ဆရာတော်ရဲ့မေးခွန်းတွေကို ဖြေကိုမဖြေတတ်တော့ပါဘူး ဆရာတော်။ ဆရာတော်ကသာ ဇာတိပဋိသန္ဓေ တဖန်ပြန်နေခြင်းဆိုတဲ့ သဘောကို ပိုပြီး ထင်ထင်ရှားရှား သိမြင်နားလည်အောင် ရှင်းပြပါတော့။

ဆရာတော်။ မှန်ထဲမှာ လာထင်တဲ့အရိပ်ဟာ ဗုဒ္ဓအလိုတော်ကျ ဇာတိပဋိသန္ဓေ တဖန်ပြန်နေတဲ့သဘောနဲ့ တထပ်ထဲဘဲ။ ဟိန္ဒူဝါဒအရ ဝိညာဉ်ကူးပြောင်းတဲ့သဘောနဲ့ လုံးဝမတူဘူးဆိုတာကိုလဲ ထင်ရှားစေတယ်။ မှန်ထဲကအရိပ်ဟာ ဇာတိပဋိသန္ဓေ တဖန်ပြန်နေသူသည် ကွယ်လွန်စုတေသူလည်း မဟုတ်၊ သို့သော် အခြားသူလည်း မဟုတ်ဆိုတဲ့ ဗုဒ္ဓရဲ့စကားနဲ့လဲ ကိုက်ညီတယ်။ ကဲ ဒီဥပမာကိုကြည့်ပြီးတော့ မှန်ထဲမှာ အရိပ်ထင်တဲ့လူဟာ မှန်ရှေ့မှာရပ်နေတဲ့လူလဲ မဟုတ်၊ သို့ရာတွင် တခြားသူလည်း မဟုတ်ဆိုတဲ့စကားကို ဒကာကြီး သဘောပေါက်ပြီမဟုတ်လား။

သဗ္ဗညုတဉာဏ်တော်ရှင် ဗုဒ္ဓကိုယ်တော်တိုင် ပြည့်ပြည့်စုံစုံ ဟောကြားတော်မူတဲ့ ဗုဒ္ဓရဲ့ဝါဒဟာ ပဋိစ္စသမုပ္ပါဒ် တရားတော်မှာ အခြေတည်ထားတယ်။ ပြီးတော့ အကြောင်းတရား

မရှိဘဲနဲ့ အကျိုးတရားဆိုတာ မပေါ်ပေါက်နိုင်ဘူးလို့ အတိအလင်းမြွက်ဆိုထားတယ်။ ဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေ အသစ်တဖန် ပြန်နေခြင်းသဘောနဲ့ဆိုင်တဲ့ပြဿနာမှာ ဒီပဋိစ္စသမုပ္ပါဒ်တရားကို ပိုပြီးရှင်းလင်းအောင် မှန်ထဲကလူနဲ့ မှန်ရှေ့မှာရပ်နေတဲ့ လူတွေကို လက်တွေ့ပြခဲ့ပြီ။ ဒီနေရာမှာ မှန်ရှေ့မှာ ရပ်နေတဲ့လူက အကြောင်းတရားဘဲ။ မှန်ထဲမှာ လာထင်တဲ့အရိပ်က အကျိုးတရားဘဲ ဗကာကြီး။

တနည်းအားဖြင့်ဆိုရရင် မှန်ထဲကအရိပ်ဟာ မှန်ရှေ့ကလူရဲ့ ဇာတိပဋိသန္ဓေ တဖန်ပြန်နေတဲ့လူဘဲ။ ဒါပေမဲ့ မှန်ထဲကအရိပ်နဲ့ မှန်ရှေ့ကလူဟာ တယောက်တည်းဘဲလို့ဆိုရင် မှားလိမ့်မယ်။ ဒီလိုမဆိုနိုင်ပေမဲ့ မှန်ထဲကအရိပ်ဟာ မှန်ရှေ့ကလူ မဟုတ်ဘဲ တခြားလူလို့လဲ မဆိုနိုင်ဘူး။ ဒါဖြင့် ဒီအရိပ်နဲ့လူဟာ ဘာလဲလို့မေးရင် အခုနကပြောခဲ့သလို တခုက အကြောင်းတရားဖြစ်ပြီး တခုက အကျိုးတရားဖြစ်ရလိမ့်မယ်လို့ဘဲ ဆိုရမယ်။

ဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေ အသစ်တဖန် ပြန်နေခြင်းသဘော ပိုပြီး ရှင်းသည်ထက် ရှင်းအောင် သမုတိသစ္စာနဲ့ ပရမတ္ထသစ္စာဆိုတဲ့ တရားနှစ်ပါးကိုလဲ ဆန်းစစ်ဘို့ လိုသေးတယ်။ သမုတိသစ္စာဆိုတာက ဒီကမ္ဘာလောကကြီးနဲ့တကွ ဘုံအသီးသီးမှာရှိတဲ့ သတ္တဝါတွေ၊ တရားစုတွေကို မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်၊ စိတ်စတဲ့ တရားစုနဲ့ မြင်၊ ကြား၊ နမ်း၊ စား၊ တွေ့၊ ထိ၊ ခံစားရတဲ့အတိုင်း အမှန်တကယ် ဟုတ်တယ်လို့ ယူဆထားတဲ့ သစ္စာတရားဘဲ။ ဒီသစ္စာတရားအရ အကြင်လူတဦးတယောက်က ငါဟာ ငါတို့ရဲ့ ကုသိုလ်ကောင်းမှုကြောင့် ငါသေလို့ရှိရင် နတ်ဘုံကို ရောက်လိမ့်မယ်လို့ ပြော

နိုင်အောင်ဒါဝေမဲ့ ဒီသစ္စာတရားဟာတကယ့်သစ္စာတရား မဟုတ်ဘူး။ လူ၊ နတ်၊ ဗြဟ္မာဆိုတဲ့ ပုဂ္ဂိုလ်တဦးဦးဟာ တကယ်ထာဝတည်ရှိမယ်ဆိုရင် အဲဒီ ခန္ဓာကိုယ်ရုပ်ကောင်ကြီးဟာ သူ့ကိုယ်သူ ထိန်းသိမ်းနိုင်ရမယ်။ မအိုရဘူး။ မနာရဘူး။ မသေရဘူး။ တကယ်လို့ ဒီခန္ဓာကိုယ် ရုပ်ကောင်တိုင်းမှာ မူလဗီဇကတည်းက အိုမင်းခြင်း၊ ပျက်စီးခြင်း၊ နာခြင်း၊ သေခြင်းဆိုတဲ့ သဘောတွေ ပါလာကြတယ်ဆိုရင် ဒီတရားစုတွေဟာ အနိစ္စပေါ့။ မမြဲဘူး။ အိုမင်းခြင်း၊ နာဖျားခြင်း၊ သေဆုံးခြင်းဆိုတာတွေကလဲ ဒုက္ခဆင်းရဲခြင်းပေါ့။ နောက်ဆုံး မအိုအောင်၊ မနာအောင်၊ မသေအောင် မလုပ်နိုင်ဘူးဆိုတာတွေက အနတ္တဘဲ။ တာဝန်ခံ အနှစ်သာရမရှိတဲ့ သဘောဘဲ။

ပရမတ္ထသစ္စာကမှ တကယ့်သစ္စာတရား ဖြစ်တယ်။ ဒီတရားအရ ဘယ်ခန္ဓာကိုယ်ရုပ်ကောင်မှ မရှိဘူး။ ဘယ်ကမ္ဘာ၊ ဘယ်ဘုံရယ်လို့မှ မရှိဘူး။ ရူပက္ခန္ဓာ၊ ဝေဒနက္ခန္ဓာ၊ သညက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာဆိုတဲ့ ခန္ဓာငါးပါးသာ ရှိတယ်။ ဒီခန္ဓာငါးပါးမှအပ အခြားသော သတ္တဝါရယ်လို့မှ မရှိဘူး။ သစ္စာလေးပါးတရားကို မသိမမြင်တဲ့သူ၊ ဒီမြင့်မြတ်တဲ့ တရားစုကို မသိမမြင်တဲ့သူ၊ ဒီမြင့်မြတ်တဲ့တရားစုကို အလေးဂရု မပြုသူ၊ နားမလည်သူတို့ကသာ ဒီရုပ်တရားတွေကို ငါ့ရဲ့ခန္ဓာကိုယ်လို့ စွဲမှတ်ကြတယ်။ ဒီလိုရုပ်တရားတွေကို ငါ့ရဲ့ခန္ဓာကိုယ်လို့ဘဲ စွဲမှတ်ကြသလို ဝေဒနက္ခန္ဓာတို့၊ သညက္ခန္ဓာတို့၊ သင်္ခါရက္ခန္ဓာတို့၊ ဝိညာဏက္ခန္ဓာတို့ကိုလဲ သူပိုင်တရားတွေလို့ဘဲ စွဲမှတ်ကြတယ်။ ဒီစွဲမှတ်ချက်တွေကို အရင်းခံပြီး အတ္တအစွဲ၊ အတ္တတရားတွေဟာ ပေါ်ပေါက်လာကြဒါဘဲ ဒကာကြီးရဲ့။

ဒါကြောင့် ဗုဒ္ဓရဲ့ဝါဒအရ ဇာတိပဋိသန္ဓေ အသစ်တဖန် ပြန်နေခြင်းဆိုတဲ့ သဘောအရ အတိတ်ဘဝက ခန္ဓာငါးပါး ဟာ အကြောင်းတရားဖြစ်ပြီး ပစ္စုပ္ပန်ဘဝမှာရှိတဲ့ ခန္ဓာငါးပါး က အကျိုးတရား ဖြစ်တယ်။ တဖန် ပစ္စုပ္ပန်ဘဝက ခန္ဓာ ငါးပါးဟာ အကြောင်းတရားဖြစ်ပြီး ရှေ့အနာဂတ်ဘဝမှာ ဖြစ်ပေါ်လာရမဲ့ ခန္ဓာငါးပါးဟာ အကျိုးတရား ဖြစ်ရမယ်။ ဒါပေမဲ့ အတိတ်ဘဝက ခန္ဓာငါးပါးတရားတွေနဲ့ ယခုပစ္စုပ္ပန် ဘဝမှာရှိတဲ့ ခန္ဓာငါးပါးတရားတွေဟာ အတူတူဘဲလို့ ဆိုရင် မှားမယ်။ တဖန် အတိတ်ဘဝက ခန္ဓာငါးပါးတရားတွေနဲ့ ကင်းလွတ်တဲ့ တခြားခန္ဓာငါးပါးတရားတွေဖြစ်တယ်လို့ ဆိုရင် လဲ မမှန်ဘူး။ ဘာပြုလို့ လဲဆိုတော့ ယခု ပစ္စုပ္ပန်ဘဝမှာရှိတဲ့ ခန္ဓာငါးပါးတရားတွေနဲ့ အဲဒီခန္ဓာငါးပါးတရားစုတို့ရဲ့ လှုပ်ရှား မှု၊ ပြုလုပ်မှုတွေကနေပြီး အနာဂတ်ဘဝမှာ ခန္ဓာငါးပါး တရားတွေ ပေါ်လာရမှာကိုး ဒကာကြီးရဲ့။ အဲဒီတော့ ဘယ် တရားဟာ ဇာတိပဋိသန္ဓေ တဖန်ပြန်နေသလဲဆိုတဲ့ ပြဿနာ ဟာ ရှင်းသွားပြီ မဟုတ်လား ဒကာကြီး။

ရူပက္ခန္ဓာတရားတွေ၊ ဝေဒနာက္ခန္ဓာတရားတွေ၊ သညာက္ခန္ဓာ တရားတွေ၊ သင်္ခါရက္ခန္ဓာတရားတွေ၊ ဝိညာဏက္ခန္ဓာတရားတွေ ဒီတရားတွေထဲက ဘယ်တရားမှ မှန်ထဲကို ဝင်သွားတာ မမြင်ရ ဘူး။ ဒါပေမဲ့ မှန်ရှေ့မှာရပ်နေတဲ့လူကို မှန်ထဲမှာတထေရာတည်း လုံးဝဥဿုံ အကုန်မြင်နေရတယ်။ မှန်ရှေ့ကလူက ဘာလုပ်လုပ်၊ မှန်ထဲကလူက တခုမကျန် တိတိကျကျ အကုန်လိုက်လုပ်တယ်။ ဘယ်လောက် လိုက်လုပ်သလဲဆိုတော့ အနားက[illegible]နေတဲ့ လူကတောင် မှန်ထဲကလူနဲ့ မှန်ရှေ့ကလူဟာ တယော[illegible]ည်း

ဘဲလို့ ပြောရတယ် မဟုတ်လား။ တကယ်တော့ မှန်ထဲကလူနဲ့ မှန်ရှေ့ကလူဟာ တယောက်တည်းလဲ မဟုတ်ဘူး၊ တခြားလူလဲ မဟုတ်ဘူး။ ကဲ ဒကာကြီး၊ ဇုဒ္ဒဝါဒအရဇာတိပဋိသန္ဓေ အသစ် တဖန် ပြန်နေခြင်းသဘောကို သဘောပေါက်သွားပြီလား။

ဒကာကြီး။ ဆရာတော် လက်တွေ့ဥပမာပေးပြီး ရှင်းလင်း ပြတဲ့အတွက် သဘောပေါက် နားလည်ပါပြီ။

ထိုနောက် တရားနာပရိသတ်ထဲမှ ဒကာကြီးတယောက်က ထ၍-

ဒီဇာတိပဋိသန္ဓေ နေခြင်းသဘောနဲ့ပတ်သက်လို့ အခုလို နားလည် သဘောပေါက်အောင် ဟောပြောပြတာကို ဒီတခါ ပထမဆုံး ကြားနာရပါတယ်။ ကြားနာရတဲ့အတိုင်းလဲ ရှင်း ရှင်းလင်းလင်း နားလည်သဘောပေါက်ပါတယ် ဆရာတော်။

ဆရာတော်။ (မေးခွန်းရှင် ဒေါက်တာအေအယ်(မ်)တေ ကာဘက်လှည့်ကာ) ကဲ ဒကာကြီး၊ ဇုဒ္ဒဝါဒအရ ဇာတိပဋိ သန္ဓေ တဖန်ပြန်နေတဲ့နေရာမှာ ဝိညာဉ်ဆိုတာ တွေ့သေးရဲ့ လား၊ တနည်းအားဖြင့် အတ္တဆိုတဲ့တရားတွေကို တွေ့သေး ရဲ့လား။

ဒကာကြီး။ မှန်ပါ၊ ဝိညာဉ်တို့၊ အတ္တတို့ဆိုတဲ့ တရားတွေ ဟာ လူတွေရဲ့စိတ်တွေပေါ်မှာ ဖုံးအုပ်နေတဲ့ အဝိဇ္ဇာတရား ကြောင့် တကယ်ရှိတယ်လို့ ထင်မြင်နေကြရတဲ့ တရားတွေပါဘဲ ဆရာတော်။ ဒီတရားတွေဟာ ရှေးသမရိုးကျ ယုံကြည် ယူဆ လာခဲ့ကြတဲ့ တရားတွေပါ။ ယခုတော့ ကွယ်ပျောက်ကုန်ပါပြီ ဆရာတော်။ တပည့်တော်မေးတဲ့ မေးခွန်းကို ကျေနပ်ရှင်းလင်း အောင် ဆရာတော် ဟောကြားပြီးပါပြီ။ တပည့်တော်ရဲ့

မေးခွန်းကို ဆရာတော်က အနတ္တသဘောနဲ့ ရှင်းလင်းအောင် ဖြေဆိုပြီးပါပြီ။ သာဓု ဆရာတော် သာဓု သာဓု။

ပရိတ်သတ်အားလုံးသည် ဆရာတော်၏ ဖြေရှင်းချက်ကို သဘောကျသဖြင့် သာဓု အနုမောဒနာ ခေါ်ကြကုန်လေသည်။

## မေးခွန်း အမှတ် ၂။

ကံ၏ အကျိုးတရားကြောင့် ဇာတိဝဋ်သံသရာ တဖန် ပြန်၍နေရသည်ဟူသောအချက်ကို ရှင်းပြနိုင်ပါမည်လော ဆရာတော်။ ထိုကံ၏အကျိုးတရားသည် အကြင်ပုဂ္ဂိုလ်တဦးတယောက် မစုတေမီ အဘယ်အရပ်၊ အဘယ်ဌာနတွင် တည်ရှိနေပါသနည်း။ ဤကံ၏ အကျိုးတရားကို ဆရာတော် ပြနိုင်ပါမည်လော။ (ကံ၏အကျိုးဟူသောစကားနှင့် ကမ္မဝိပါက စကားသည် အတူတူပင် ဖြစ်ပါသည်။ မှတ်ချက်)

(မေးခွန်းလျှောက်ထားသူ ဒေါက်တာ ဇေ အယ်(လ်) ဇေကာ၊ အယ(မ်)ဇေ၊ ဗီ အိပ(ချ်)ဒီ၊ ဘာ၊ အက်(တ်)လော၊ ဒီအက်(ဇ်)စီ၊ ကွယ်လွန်သူ အိန္ဒိယ တရားဝန်ကြီးချုပ်ဟောင်း၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဓမ္မ၊)

ဆရာတော် အရှင်အရိယဓမ္မ။ ကံရဲ့ အကျိုးတရား၊ တနည်းအားဖြင့် ကာယကံ၊ ဝစီကံ၊ မနောကံတို့ရဲ့ အကျိုးတရားဟာ လက်နဲ့ကိုင်ဖမ်းလို့လဲ မဖြစ်ဘူး၊ မျက်စိနဲ့ ကြည့်လို့လဲ မမြင်အပ်ဘူး။ ဒီကံရဲ့ အကျိုးတရားဆိုတာဟာ ကံဆိုတဲ့တရားရဲ့ ပင်ကိုယ် အနုသယအားသာလျှင် ဖြစ်တယ်။ အကြောင်းတရား

တိုင်းမှာ အကျိုးတရားရှိတာချည်းဘဲ။ အခု ဟောဒီပရိသတ်မှာ ရှိနေတဲ့ လူတိုင်းလူတိုင်းဟာ အတိတ်ဘဝက ကံအကြောင်းတရားကြောင့် စွမ်းရည်သတ္တိ အမျိုးမျိုး၊ ဂုဏ်သတ္တိ အမျိုးမျိုး၊ စိတ်နေသဘောထား အမျိုးမျိုး၊ အကျင့်စာရိတ္တ အမျိုးမျိုး၊ ပတ်ဝန်းကျင်အမျိုးမျိုးနဲ့ ရုပ်လက္ခဏာအမျိုးမျိုး ကွဲပြားနေကြရတယ်။ ဒါဟာ အတိတ်ဘဝကကံရဲ့ မျက်မြင်အကျိုးတရားတွေဘဲ။ ဒီကံတရားရဲ့ အဓိကစေ့ဆော်တိုက်တွန်းမှုဟာ စေတနာနှင့်တကွသောစိတ် ဖြစ်တယ်။ ရိုးရိုးပြောနေ ဆိုနေကျစကားနဲ့ ပြောရမယ်ဆိုရင်တော့ "ရည်ရွယ်ချက်"လို့ဘဲ ခေါ်ရမှာပေါ့။ ယခုမျက်မြင်လောက တရားရုံးတွေမှာလဲ "ရည်ရွယ်ချက်"ကို အဓိကထားပြီး တရားစီရင်နေကြတာဘဲမဟုတ်လားဒကာကြီး။

ဒကာကြီး။ ယခုမျက်မှောက်ဘဝမှာ တွေ့ကြုံ ခံစားနေကြရတဲ့ ကံရဲ့အကျိုးကိုတော့ တပည့်တော်တို့ ယုံကြည်ပါတယ် ဆရာတော်။ ဒီအကျိုးတရားကြောင့် အချို့က လစာတွေ၊ အမြတ်တွေ၊ ဆုတွေရပြီး တချို့က အပြစ်ဒဏ်တွေ ခံကြရတာလဲ မျက်မြင်ကိုယ်တွေ့ပါဘဲ ဆရာတော်။ ဒါပေမဲ့ ယခု မျက်မှောက်ဘဝရဲ့ ကံအကြောင်းတရားကြောင့် အနာဂတ်ဘဝမှာ ဇာတိပဋိသန္ဓေအသစ်တဖန်ပြန်နေခြင်း ဆိုတာကိုတော့ မယုံကြည်နိုင်ဘဲ ဖြစ်နေပါတယ် ဆရာတော်။ ထကယ်လို့ ကံရဲ့ အကျိုးတရားကြောင့် ဇာတိပဋိသန္ဓေ တဖန်ပြန်နေရတယ်ဆိုတဲ့ သဘောနဲ့ဘဲ ယုံကြည်လက်ခံထားအုံးတော့ ဒီကံရဲ့အကျိုးတရားဟာ အကြင်သူ တဦးဟာယောက် အသက်ရှင်နေစဉ်ကာလအတွင်း ဦးခေါင်းထဲမှာဘဲ ကိန်းဝပ်နေသလား၊ ဦးနှောက်ထဲမှာဘဲ ကိန်းဝပ်နေသလား၊ အသဲနှလုံးထဲမှာဘဲ ကိန်းဝပ်

နေသလား၊ ဝမ်းပိုက်ထဲမှာဘဲ ကိန်းဝပ်နေသလား၊ လက်တွေ ထဲမှာဘဲ ကိန်းဝပ်နေသလား၊ သူ့အနားမှာဘဲ ကိန်းဝပ်နေ သလားဆိုတာ သိလိုလှပါတယ် ဆရာတော်။

ဆရာတော်။ အင်း ဒီခက်ခဲနက်နဲတဲ့ပြဿနာကို ပုံဥပမာနဲ့ ရှင်းပြမှဘဲ ဒကာကြီး နားလည်သဘောပေါက်မှာဆိုတော့ ကံရဲ့အကျိုးတရားဟာ အကြောင်းသူ့တဦးတယောက် မစုတေ မချင်း မည်သည့်နေရာ၊ မည်သည့်ဌာနမှာ ကိန်းဝပ်နေတယ်ဆို တာ ဥပမာနဲ့ ရှင်းပြမယ်။ ကဲ ဒကာကြီး၊ နှလုံးသွင်းပေတော့။

ဥပမာ၊ လူတယောက်ဟာ ညအချိန် စာရေးချင်တယ်တဲ့။ အဲဒီတော့ သူဟာ ဖယောင်းတိုင်တတိုင်ကို ထွန်းတယ်။ ပြီးတော့ စာရွက်တရွက်ကို ယူတယ်။ အဲဒီနောက် မင်အိုးထဲမှာ မင်တံကို စိုက်ပြီး စာတစောင်ကို ရေးတယ်။ အဲဒီလို စာရေးပြီးတဲ့နောက် သူဟာ မင်အိုးတွေ မင်တံတွေကို သိမ်းပြီးတော့ကာ မီးမှုတ်ပြီး အိပ်လိုက်တယ်။ စိတ်နဲ့ခန္ဓာကိုယ်ဆိုတဲ့ မင်တံနဲ့ မင်အိုးကိုလဲ သိမ်းလိုက်ပြီ။ စေတနာနဲ့တူတဲ့ မီးကိုလဲ ငြိမ်းလိုက်ပြီ။ နောက် ဆုံး ကာယကံမှုနဲ့တူတဲ့ လက်ကလဲမရေးတော့ဘူး။ ရပ်လိုက်ပြီ။ ဒါပေမဲ့ အကျိုးတရားဆိုတဲ့ စာဟာကတော့ ဟိုစာရွက်ပေါ်မှာ ဘဲ ရှိနေတယ် မဟုတ်လား။ အဲဒီအကျိုးတရားဟာ နှစ်ကာလ ရှည်လျားစွာ တည်ရှိနေဦးမှာပေါ့။ အဲဒီလိုဘဲ ကံရဲ့အကျိုး တရားဟာလဲ ထိုသူ့သေသည်အထိ တည်ရှိနေပြီး ဇာတိပဋိ သန္ဓေ တဖန်ပြန်နေစေတာပေါ့ ဒကာကြီး။

ဒကာကြီး။ ဒီကိစ္စမှာတော့ ရေးလိုက်တဲ့စာဟာ • စာရွက် ပေါ်မှာ တင်ပြီး ကျန်နေခဲ့တော့ မျက်မြင်ဖြစ်ပြီး ရှင်းပါတယ်

ဆရာတော်။ ဒါပေမဲ့ ကံရဲ့အကျိုးတရား ကိန်းဝပ်တဲ့နေရာ ဌာနနဲ့ ပတ်သက်လို့တော့ မရှင်းသေးဘူး ဆရာတော်။

ဆရာတော်။ ကဲ ဒါဖြင့် ဒကာကြီးကို ဦးပဉ္ဇင်းက မေးရဦးမယ်။ ဒကာကြီး ဖြေပါဦး။

ဒကာကြီး။ မှန်ပါ့၊ ဖြေပါ့မယ် ဆရာတော်။

ဆရာတော်။ လေဟာ ဘယ်နေရာမှာ ကိန်းဝပ်နေသလဲ ဒကာကြီး။

ဒကာကြီး။ ဘယ်နေရာမှာမှ မကိန်းဝပ်ပါဘူး ဆရာတော်။

ဆရာတော်။ လေဟာ ဘယ်နေရာမှာမှ ကိန်းဝပ်မနေသော်လဲ တကယ်ကတော့ ရှိသလိုဘဲ ကံရဲ့အကျိုးတရားဟာလဲ ကိန်းဝပ်တဲ့နေရာ မရှိသော်လဲ အကြောင်းသူတဦးတယောက် စုတေသည်အထိ ရှိနေပြီး ထိုသူကို ဇာတိပဋိသန္ဓေ တဖန်ပြန်နေစေတယ် ဒကာကြီး။

ဒကာကြီး။ တပည့်တော်ဖြင့် ဆရာတော် အခုပေးတဲ့ ဥပမာနဲ့လဲ ဒီပြဿနာကို ရှင်းရှင်းလင်းလင်း နားမလည်သေးပါဘူး ဆရာတော်။ ကံရဲ့အကျိုးတရားကြောင့် ဇာတိပဋိသန္ဓေ တဖန်ပြန်နေရတယ်ဆိုတဲ့ သဘောနဲ့ ပတ်သက်လို့ မယုံတဝက်၊ ယုံတဝက်ဖြစ်နေပါသေးတယ်။ အဲဒီတော့ ဒီ့ထက် ထင်ရှားပြတ်သားတဲ့ဥပမာကို ဆောင်တော်မူပါဦး ဆရာတော်။

ဆရာတော်။ ဒီလိုထင်ရှားပြတ်သားတဲ့ ဥပမာကို ဆောင်ရအောင် ဒကာကြီးကို ဦးပဉ္ဇင်းက ပြန်ပြီး မေးခွန်းထုတ်ရသိမ့်မယ်။

ဒကာကြီး။ ထုတ်တော်မူပါ ဆရာတော်။

ဆရာတော်။ ဒကာကြီးမှာ ပညာအရည်အချင်းနဲ့ ပတ်သက်လို့ ဘွဲ့ဘယ်နှစ်ဘွဲ့ ရှိပါသလဲ။

ဒကာကြီး။ ပညာအရည်အချင်းနဲ့ ပတ်သက်လို့ တပည့်တော် ဘွဲ့ငါးဘွဲ့ ရထားပါတယ် ဆရာတော်။

ဆရာတော်။ အဲဒီဘွဲ့တွေကို ပြောပြစမ်းပါဦး ဒကာကြီး။

ဒကာကြီး။ ဒီဘွဲ့တွေကတော့ အယ်(မ်)အေ၊ ပီ အိပ်(ချ်) ဒီ၊ ဒီအက်(စ်)စီ၊ ဒီ လစ် (တ်) နဲ့ ဘားအက် (တ်) လော ဘွဲ့များ ဖြစ်ပါတယ် ဆရာတော်။

ဆရာတော်။ ဒီ ဘွဲ့တွေကိုရအောင် ဒကာကြီး ဘယ် နှစ်နှစ်ကြာအောင် ကြိုးစားရသလဲ။

ဒကာကြီး။ ဒီဘွဲ့အားလုံးကို ရဘို့ရန် အနှစ်သုံးဆယ် လောက် ကြိုးစားခဲ့ရပါတယ် ဆရာတော်။

ဆရာတော်။ အခုနက ဒကာကြီး ပြောခဲ့တဲ့ ဘွဲ့ငါးဘွဲ့လုံး ဟာ ဒကာကြီးမှာ ရှိသလား။

ဒကာကြီး။ တပည့်တော်မှာ ဒီဘွဲ့ငါးဘွဲ့လုံး ရှိပါတယ် ဆရာတော်။

ဆရာတော်။ ဒကာကြီးမှာ ဒီဘွဲ့ငါးဘွဲ့လုံးနဲ့ ပတ်သက်တဲ့ အရည်အချင်းတွေ ရှိမယ်ဆိုရင် အဲဒီ အရည်အချင်းတွေထဲက ဒီအက်(စ်) စီ (သိပ္ပံပညာပါရဂူဘွဲ့) ဘွဲ့ရဲ့ အရည်အချင်းတွေ ကို ရွေးထုတ်ပြီးတော့ ဦးပဉ္ဇင်းကို ပြစမ်းပါ။

ဒကာကြီး။ (ခေတ္တခဏမျှ စဉ်းစားပြီးနောက်) ဒီ သိပ္ပံ ပညာဘွဲ့နဲ့ ပတ်သက်တဲ့လက်မှတ်ကို တပည့်တော် ထုတ်ပြနိုင် ပါတယ် ဆရာတော်။

ဆရာတော်။ ဦးပဥ္စင်းက ဒကာကြီးဟာ ဒေါက်တာ အယ်(မ်)ဘောကာလို တိတိကျကျမပြောနိုင်ဘူး။ အဲဒီတော့ ဒကာကြီးက စာရွက်စာတမ်းတွေ၊ လက်မှတ်တွေကို ထုတ်ပြလို့ အပိုဘဲ။ ဦးပဥ္စင်း တိတိကျကျ လိုချင်တာကတော့ ဒကာကြီးမှာရှိတဲ့ ဒီ သိပ္ပံပညာပါရဂူဘွဲ့နဲ့ဆိုင်ရာ အရည်အချင်းတွေကိုသာ လိုချင်တာဘဲ။

ဒကာကြီး။ ဒီလို ဒီဘွဲ့နဲ့ဆိုင်တဲ့ အရည်အချင်းတွေကို သီးသန့်ထုတ်နုတ်ပြဘို့ကတော့ လုံးဝ မဖြစ်နိုင်ပါဘူး ဆရာတော်။

ဆရာတော်။ ဒကာကြီးပြောတဲ့အတိုင်းဆိုရင် ဒကာကြီး အခုနက ပြောခဲ့တဲ့ ဘွဲ့ငါးဘွဲ့နဲ့ ပတ်သက်တဲ့ အရည်အချင်းတွေ ဒကာကြီးမှာ မရှိဘူးလို့ဘဲ ဦးပဥ္စင်း ယူဆရတော့မှာပေါ့။

ဒကာကြီး။ အမှန်ကတော့ တပည့်တော်မှာ ဒီဘွဲ့ငါးဘွဲ့နဲ့ ပတ်သက်တဲ့ အရည်အချင်းတွေ ရှိပါတယ်ဆရာတော်။ ပြီတိသျှ အစိုးရကတောင် ဒီအရည်အချင်းတွေ တပည့်တော်မှာ ရှိတယ်လို့ အသိအမှတ်ပြုထားပါတယ်။

ဆရာတော်။ ဒကာကြီးက အခုလို အခိုင်အမာပြောရင်ဖြင့် ဒကာကြီးရဲ့ အရည်အချင်းတွေဟာ ဒကာကြီးရဲ့ ဦးခေါင်းခွံထဲမှာ ရှိတယ်ပေါ့။

ဒကာကြီး။ ဦးခေါင်းထဲမှာတော့ မရှိပါဘူး ဆရာတော်။

ဆရာတော်။ ဒါဖြင့် အသဲနှလုံးထဲမှာလား။

ဒကာကြီး။ အသဲနှလုံးထဲမှာလဲ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ ဒါဖြင့် ဝမ်းပိုက်ထဲမှာလား။

ဒကာကြီး။ ဝမ်းပိုက်ထဲမှာလဲ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ ဒါဖြင့် လက်တွေထဲမှာလား။

ဒကာကြီး။ လက်တွေ့ထဲမှာလဲ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ ဒါဖြင့် ဒကာကြီးအနားမှာဘဲလား။

ဒကာကြီး။ အနားမှာလဲ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ ဒကာကြီးဟာ နှစ်ပေါင်း ၃၀ နီးပါး ဒီဘွဲ့ ငါးဘွဲ့နဲ့ပတ်သက်တဲ့ အရည်အချင်းတွေနဲ့ ပြည့်စုံအောင် ကြိုးစားလာခဲ့ရတယ်။ ဒီအရည်အချင်းတွေနဲ့ ပြည့်စုံလာတာလဲ နှစ်ပေါင်း ၂၀ နီးပါး ရှိပြီ။ ဒီအရည်အချင်းတွေနဲ့ ဒကာကြီးဟာ တကယ်ပြည့်စုံတယ်ဆိုပြီး ဗြိတိသျှအစိုးရက ဒကာကြီးကို ဥပဒေပညာဆိုင်ရာ ကောလိပ်ကျောင်းမှ ကျောင်းအုပ်ကြီးရာထူးကို ပေးအပ်ခဲ့တယ်၊ ဒါပေမဲ့ ဒကာကြီးဟာ ဒကာကြီးရဲ့ အရည်အချင်းတွေကို ဘယ်မှာ သိုလှောင်ထားတယ်ဆိုတာကို ဒကာကြီးပြောမပြနိုင်ဘူး။ ဒီအရည်အချင်းတွေ ဘယ်မှာ ကိန်းဝပ်နေတယ်ဆိုတာကိုလဲ မပြောပြနိုင်ဘူး။ ဒါတွင်မကဘူး ဒကာကြီးမှာ အခုရှိနေတဲ့ အရည်အချင်းတွေဟာ ယခုမျက်မှောက်ဘဝမှာ ဒကာကြီးရဲ့ အားထုတ်မှု၊ ကြိုးစားမှုတို့မှ ပေါ်ထွက်လာရတဲ့အကျိုးတရားတွေဘဲ။ တနည်းအားဖြင့် ပြောမယ်ဆိုရင် ဒကာကြီးရဲ့ မျက်မှောက်ဘဝကံရဲ့ အကျိုးတရားတွေချည်းဘဲ။ ဒီအကျိုးတရားတွေကို ဒကာကြီးဟာ သေသည့်တိုင်အောင် ခံစားရမယ်။ ဒါပေမဲ့ ဒကာကြီးဟာ ဒီအကျိုးတရားတွေကို ပြလဲမပြနိုင်ဘူး။ ဘယ်နေရာမှာ သူတို့ ကိန်းဝပ်နေတယ်လို့လဲ မပြောနိုင်ဘူး။ ဒီကံရဲ့အကျိုးတရားဆိုတာ အကြင်သူတဦးတယောက် သေသည်အထိ ထိုသူလုပ်ခဲ့ကိုင်ခဲ့တဲ့ လုပ်ရပ်များအတိုင်း သူလုပ်ခဲ့တာ ကောင်းရင်လဲ ကောင်းသလို၊ ဆိုးရင်လဲ ဆိုးသလို၊ ကောင်းကျိုး၊ ဆိုးကျိုးတို့ကို ပေးနေတာ

ဘဲ။ ပြီးတော့ အနုဘဝမှာ လုပ်တဲ့လုပ်ရပ်အလိုက် အနာဂတ်ဘဝမှာလဲ ကံရဲ့အကျိုးပေးတရား ကောင်းရင်လဲ ကောင်းမွန်စွာနဲ့ ဇာတိပဋိသန္ဓေ တဖန် ပြန်နေရမယ်။ ဆိုးရင်လဲ ဒုက္ခဆင်းရဲကြီးစွာနဲ့ ဇာတိပဋိသန္ဓေ တဖန် ပြန်နေရမယ်။ ကဲ ဒကာကြီး၊ ဒီမမြင်အပ်၊ မမြင်နိုင်တဲ့ ကံရဲ့အကျိုးတရားကြောင့် ဇာတိပဋိသန္ဓေ တဖန် ဘယ်လို ပြန်နေရတယ်ဆိုတဲ့ သဘောကို နားလည်သွားပြီလား။

ဒကာကြီး။ ။ မှန်ပါ့၊ ဆရာတော်ရဲ့ဥပမာကြောင့်တပည့်တော် ဒီပြဿနာကို ကောင်းကောင်းကြီး နားလည် သဘောပေါက်သွားပါပြီ။ ဒီကံရဲ့အကျိုးတရားနဲ့ ပတ်သက်လို့ တပည့်တော်မှာ သံသယမရှိ၊ ချင်းချက်မရှိ ယုံကြည်ပါပြီ ဆရာတော်။ ဒါတွင်မကဘူး၊ မှားယွင်းတဲ့ သမရိုးကျ ဖန်ဆင်းရှင်ဝါဒများတွေလဲ ပြေပျောက်ကုန်ပါပြီ ဆရာတော်။

ထိုအချိန်တွင် ပရိသတ်ထဲမှ ဖာရစီလူမျိုး ဒကာတယောက်က ထ၍-

ဆရာတော်ရဲ့ ကံ၏အကျိုးတရားနဲ့ပတ်သက်တဲ့ အသိဉာဏ်၊ ပညာသားပါတဲ့ ဟောပြောမှုကြောင့် အမျိုးမျိုးသော အယူအဆများတွေ၊ သမရိုးကျ အမြင်များတွေဟာ အားလုံး အမှောင်ထုကို နေရောင်ခြည်က နှင်းလိုက်သလို ကွယ်ပျောက်ကုန်ပါပြီ။ ဒီ အကြောင်းတရားရှိရင် အကျိုးတရားဟာလဲ မသွေ ရှိရမယ်ဆိုတဲ့ မြင့်မားမှန်ကန်လှတဲ့ ဒေသနာကို ဘယ်သူ

ကမ္ဘာ မချုပ်မပျက်နိုင်ဘူး ဆိုတာကိုလဲ တပည့်တော်တို့ အခိုင်အမာ ယုံကြည်ကြပါပြီ ဆရာတော်။

ထိုနောက် ဝရိအတ်ထုကြီးတရပ်လုံးက သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၃။

ဗုဒ္ဓဝါဒအရ ဓာတ်ပဋိသန္ဓေ အသစ်တဖန် ပြန်နေခြင်း သဘောနှင့် ဟိန္ဒူဝါဒအရ ဝိညာဉ်ကူးပြောင်းခြင်း သဘောတို့သည် မည်ကဲ့သို့ ကွဲပြားခြားနားကြသနည်း။

(မေးမြန်းလျှောက်ထားသူ ဗေါက်တာ မော အယ် (မ်) ဗေဘကာ၊ အယ်(လ်)ဗော၊ ဝီ အိစ်(ရ်)ဒီ၊ ဘားအက်(တ်)ဗလား၊ ဒီ အက်(စ်)စီ၊ ကွယ်လွန်သူ အိန္ဒိယ တရားဝန်ကြီးချုပ်ဟောင်း၊ ဖြေဆိုသူ ဆရာတော် အရှင်အရိယဝံသ၊)

ဆရာတော် အရှင်အရိယဝံသ။ ဗုဒ္ဓဝါဒအရ ဓာတ်ပဋိသန္ဓေ အသစ်အဖန် ပြန်နေခြင်းသဘောဟာ ပဋိစ္စသမုပ္ပာဒ်တရားပေါ်မှာ အခြေတည်တယ်။ ယခု မျက်မှောက်ဘဝမှာရှိနေတဲ့ ရူပက္ခန္ဓာ၊ ဝေဒနက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာနဲ့ ဝိညာဏက္ခန္ဓာတို့ဟာ ယခုဘဝမှာ ပြုလုပ်ခဲ့တဲ့ ကံရဲ့အကျိုးတနည်းအားဖြင့် ကာယကံ၊ ဝစီကံ၊ မနောကံတို့ရဲ့အကျိုးတရားဖြင့် အားလုံးပျက်စီးမှ ဓာတ်ပဋိသန္ဓေဟာ အသစ်တဖန် ပြန်နေတယ်။ ဒီလို ဓာတ်ပဋိသန္ဓေ အသစ်တဖန်ပြန်နေတဲ့ နေရာမှာ ဘဝဟောင်းက ဒီပြောခဲ့တဲ့ ခန္ဓာတွေထဲက ဘယ်ခန္ဓာမှ ပါမသွားဘူး။ ယခု မျက်မှောက်ဘဝမှာ လုပ်ကိုင်ခဲ့သမျှ

ကံတရားတို့ဟာ အကျိုးတရားချည်းဘဲ။ ပြီးတော့ ယခု မျက်မှောက်ဘဝမှာ ပြုလုပ်ခဲ့သမျှ၊ လုပ်ကိုင်ခဲ့သမျှ ကံတရားတို့ရဲ့ အကျိုးတရားတွေနဲ့ ဇာတိပဋိသန္ဓေ အသစ်တဖန် ပြန်ခနေရာမှ ပေါ်ပေါက်လာတဲ့ ခန္ဓာငါးပါးတရားတွေဟာ အနာဂတ်ဘဝမှာ မလွှဲသာမရှောင်သာ ဖြစ်ပေါ်လာရမယ့် အကျိုးတရားတွေဘဲ ဒကာကြီး။

အဝိဇ္ဇာတရားနဲ့ ဥပါဒါန်တရားတို့ရဲ့ လောင်းရိပ်အောက်မှာ ပြုလုပ်နေသမျှ ကာလပတ်လုံး ဒီလုပ်ရပ်များ တနည်းအားဖြင့် ကံတရားများရဲ့ အကျိုးတရားဟာ ဇာတိပဋိသန္ဓေ တဖန်ပြန်နေခြင်း ဖြစ်တယ်။တမျိုးပြောမယ်ဆိုရင် အဝိဇ္ဇာနဲ့ ဥပါဒါန်တရားတို့ကို အရင်းခံပြီး လုပ်နေကြသမျှ ကာလပတ်လုံး ဇာတိပဋိသန္ဓေဟာ တဖန် ပြန်နေရမှာချည်းဘဲ။ ဒါကြောင့် ဗုဒ္ဓကဝိပဿနာတရားကို အကြိုးထကုတ် အားထုတ်ပြီး ဒီအဝိဇ္ဇာနဲ့ ဥပါဒါန်တရားတွေကို ဖြတ်တောက်ပစ်ရမယ်။ နောက်ဆုံး ကံတရားတွေကို ပယ်ဖျက်ပြီး နောက်ဆုံး နိဗ္ဗာန်ရအောင် ကြိုးစားရမယ်လို့ ဟောတော်မူခဲ့ဒါပေါ့။ တပည့်တယောက်က ဆရာရဲ့ပါးစပ်က ရွတ်ဖတ်တဲ့ ကဗျာလင်္ကာတွေကို ဆရာကသူ့ပါးစပ်ထဲမှ တပည့်ပါးစပ်ထဲကို ကူးပြောင်းထည့်ပေးခြင်း မပြုဘဲနဲ့ ရွတ်ဖတ်နိုင်သလိုဘဲ ဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေဟာလဲ တဖန်ပြန်နေခြင်း ဖြစ်တယ်။ တနည်းအားဖြင့်ဆိုရင် မှန်တချပ်ရှေ့မှာ ရပ်နေတဲ့လူရဲ့ ခန္ဓာငါးပါးထဲမှ ဘယ်ခန္ဓာမှ မှန်ထဲကို ဝင်မသွားဘဲ ထိုလူရဲ့ အရိပ်ဟာ မှန်ထဲမှာ လာထင်သလို ဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေဟာလဲ ဘယ်တရားမျှ ကူးပြောင်းခြင်း မရှိဘဲနဲ့ အသစ်တဖန် ပြန်နေခြင်း ဖြစ်တယ် ဒကာကြီး။

ဒါကြောင့်ဟိန္ဒူဝါဒအရ ဝိညာဉ်ကူးပြောင်းခြင်းနဲ့ ဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေ တဖန် ပြန်နေခြင်းတို့ဟာ အလွန်ပင် ကွဲပြားခြားနားတယ်။ ဟိန္ဒူဝါဒအရ အတ္တ သို့မဟုတ် ဝိညာဉ်လို့ ခေါ်တဲ့ တရားဟာ ချုပ်ငြိမ်းပျက်စီးသွားတဲ့ ယခု မျက်မှောက်ဘဝရဲ့ ခန္ဓာကိုယ်ထဲကနေပြီးတော့ နောင်ဘဝမှာ အသစ်ဖြစ်ပေါ်လာတဲ့ ခန္ဓာကိုယ်ထဲကို ကူးပြောင်းသွားရတယ်တဲ့။ ဒါဟာ ဟိန္ဒူဝါဒကို ထူထောင်တည်ဆောက်နေကြတဲ့ ဗြဟ္မဏတို့ရဲ့စိတ်ကူးနဲ့ တီထွင်ခဲ့ကြတဲ့ အယူဝါဒပဲ။ ဒီအယူဝါဒဟာ အခြေအမြစ် မရှိတဲ့ အဓပ္ပါယ်သဘောမျှသာဖြစ်တဲ့ အယူဝါဒပဲ။ ဒါကြောင့် ဒီအတ္တ သို့မဟုတ် ဝိညာဉ်လို့ ခေါ်တဲ့ တရားရဲ့ ဂုဏ်သတ္တိနဲ့ အရည်အချင်းတို့ကို ဘယ်သူကမှ အခု အချိန်အထိ ရှင်းရှင်းလင်းလင်း ပြောမပြနိုင်ဘူး။ အသစ်ဖြစ်တဲ့ ခန္ဓာကိုယ်ထဲမှာလဲ ဘယ်နေရာမှာ ဒီအတ္တ သို့မဟုတ် ဝိညာဉ်တရားဟာ တည်ရှိတယ်လို့လဲ ပြောမပြနိုင်ဘူး ဒကာကြီး။

မြွေဘကောင်ဟာ သူ့ရဲ့အရေဟောင်းကို ဆွဲထုတ်ပြီး အရေသစ်ထဲမှာ အသစ်တဖန် ပြန်ပြီးဝင်နေသလို၊ တနည်းအားဖြင့် သူတဦးတယောက်ဟာ သူ့ရဲ့အင်္ကျီဟောင်းကို ချွတ်ပြီး အင်္ကျီအသစ်တထည်ကို လဲဝတ်ကာ အဲဒီအင်္ကျီအသစ်နဲ့ အလုပ်သွားလုပ်သလို အတ္တ သို့မဟုတ် ဝိညာဉ်ဟာလဲ ခန္ဓာကိုယ်အဟောင်းကို စွန့်ပြီး ခန္ဓာကိုယ်အသစ်ထဲမှာ ဘဝသစ်တဖန် ပြန်နေတယ်လို့ ဘဂဝဂီတာထဲမှာ (ဗိဿနိုးဘုရား ဝင်စားတယ်လို့ ဆိုသားတဲ့) ရှရီခရစ်ရှနဘုရားက ဟောခဲ့တယ်လို့ ပုရာဏ်ကျမ်းပြုဆရာတွေက ရေးသားခဲ့တယ် ဒကာကြီး။

တခါ မဟာဘာရတကျမ်းထဲမှာတော့ အဇ္ဇုနက သူ့ရဲ့ ဝမ်းကွဲ ညီအစ်ကိုတော်သူ ဒုရိယောဒနကို မသတ်လိုကြောင်း ပြင်းဆန်တဲ့အခါမှာ ရှရီခရစ်ရှနဘုရားက "အဇ္ဇုန၊ အချင်း အဇ္ဇုန သတ်သူရယ်လို့လဲ မရှိဘူး။ သေသူရယ်လို့လဲ မရှိဘူး။ သင့်ရဲ့ အလွန်ထင်ရှား ကျော်ကြားတဲ့ လေးညှို့ကိုဆွဲပြီး သင်ရဲ့ အလွန် စွမ်းပကား ကြီးမားလှတဲ့ မြားဖြင့် ဒုရိယောဒနကို ပစ်လေလော့"လို့ အမိန့်ရှိတယ်လို့ ရေးသားထားပြန်တယ်။ ဒီစကားနှစ်ခွန်းလုံးဟာ ရှရီခရစ်ရှနဘုရားကိုယ်တော်မြတ် ဟောခဲ့တဲ့ တရားချည်းဘဲတဲ့။ တခုက ဘဂဝါဂီတာထဲမှာ ပါတယ်။ တခုက မဟာဘာရတထဲမှာ ပါတယ်။ တခုနဲ့တခုဟာ မကိုက်ညီဘူး။ ဆန့်ကျင်နေတယ်။ အမှန်ကတော့ အခြေအမြစ် မရှိတဲ့ စိတ်ကူးချက်များ၊ ယူဆချက်များသာ ဖြစ်တယ် ဒကာကြီး။

ဗုဒ္ဓဟောတော်မူခဲ့တဲ့ အဘိဓမ္မာထဲမှာ စိတ်နှင့်စေတသိက် နှစ်ရပ်ပေါင်း နာမ်(၅၃)ပါး၊ အာရုံ(၆)ပါး၊ အာရုံ ဖြစ်ပွား စေနိုင်တဲ့ရုပ်(၂၈)ပါး၊ အာရုံထင်ရာ ဒွါရ(၆)ပါး၊ (၆)ဒွါရ မှာ (၆)အာရုံ ထင်ဟပ်တိုင်း ဖြစ်ပေါ်လာတဲ့ ဝိညာဉ်(၆)ပါး၊ တဏှာ(၆)ပါးနဲ့ ဥပါဒါန်(၄)ပါး၊ အဲဒီ တဏှာနဲ့ ဥပါဒါန် တို့ကို ဖြစ်ပွားစေတဲ့ ရေသောက်မြစ် ဝေဒနာ(၆)ပါး စသည် အားဖြင့် ပိုင်းခြားထားတယ်။ နာမ်ပိုင်းမှာလဲ စိတ်နှင့် စေတသိက် ၂ မျိုးရှိပြီး အာရုံထင်ဟပ်မှု၊ အာရုံခံစားမှုအလိုက် စိတ်အမျိုးမျိုး ခွဲခြားထားသေးတယ်။ အဲဒီဟာတွေကတော့ လောဘအရင်းခံတဲ့ လောဘမူစိတ်(၈)ပါး၊ ဒေါသအရင်းခံတဲ့ ဒေါသမူစိတ်(၂)ပါး၊ မောဟအရင်းခံတဲ့မောဟမူစိတ်(၂)ပါး

ပေါင်း (၁၂)ပါးပါတဲ့။ ဒီ (၈၂)ပါးသော စိတ်ဘုံကို အကုသိုလ်စိတ်လို့ ခေါ်တယ် ဆရာကြီး။

ဒါ့ပါအပြင် အဟိတ်စိတ်(၁၈)ပါး၊ ကာမသောဘဏစိတ်(၂၄)ပါး၊ ရူပစိတ် (၁၅)ပါး၊ အရူပစိတ် (၁၂) ပါး၊ လောကုတ္တရာစိတ် အကျဉ်း(၈)ပါး၊ အကျယ်(၄၀)စုစုပေါင်း စိတ်အကျဉ်း(၈၉)ပါးရှိတယ်၊ အကျယ်အားဖြင့်ဆိုရင်(၁၂၁) ရှိတယ်။ စိတ်နဲ့ယှဉ်တွဲနေတဲ့ စေတသိက်တွေကလဲ ဖဿ(တွေ့ထိမှု)၊ ဝေဒနာ(ခံစားမှု)၊ သညာ(မှတ်သားမှု)၊ စေတနာ (စေ့ဆော်မှု)၊ ဧကဂ္ဂတာ(အာရုံစုပေါင်းမှု)၊ ဇီဝိတိန္ဒြိယ(ရုပ် နှင့် နာမ်ကို ရှင်သန်အောင် စောင့်ထိန်းမှု)၊မနသိကာရ(နှလုံး သွင်းမှု)၊ ဝိတက် (အာရုံကို ရှေးရှုစေလွှတ်မှု)၊ ဝိစာရ(အာရုံ၌ ဆင်ခြင်မှု)၊ အဓိမောက္ခ(အာရုံကို ဆုံးဖြတ်မှု)၊ ဝီရိယ(လုံ့လ ပြုမှု)၊ ပီတိ(နှစ်သက်မှု)၊ ဆန္ဒ(ပြုလိုမှု)၊ မောဟ(တွေဝေမှု)၊ အဟိရိက(အကုသိုလ်ကို မရှက်မှု)၊ အနောတ္တပ္ပ (အကုသိုလ် ကို မကြောက်မှု)၊ ဥဒ္ဓစ္စ(ပျံ့လွင့်မှု)၊ လောဘ(တပ်မက်မှု)၊ ဒိဋ္ဌိ(အယူမှားမှု)၊ မာန(ထောင်လွှားမှု)၊ ဒေါသ(အမျက် ထွက်မှု)၊ ဣဿာ(သူတပါးစည်းစိမ်ကို မနာလိုမှု)၊ မစ္ဆရိယ (မိမိစည်းစိမ်ကို ဝန်တိုမှု)၊ ကုက္ကုစ္စ(ပြုပြီး အကုသိုလ်၊ မပြုမိ သော ကုသိုလ်တို့ကြောင့် စိတ်ပင်ပန်းမှု)၊ ထိန(ကိုယ်၏ ထိုင်း မှိုင်းမှု)၊ မိဒ္ဓ(စိတ်၏ ထိုင်းမှိုင်းမှု)၊ ဝိစိကိစ္ဆာ(သံသယရှိမှု)၊ သဒ္ဓါ(ယုံကြည်မှု)၊ သတိ(မမေ့မှု)၊ ဟိရိ(အကုသိုလ်ပြုရမည် ကို ရှက်မှု)၊ ဩတ္တပ္ပ (အကုသိုလ်ပြုရမည်ကို ကြောက်မှု)၊ အလောဘ(စွန့်လွှတ်မှု)၊အဒေါသ(ချစ်ခင်မှု)၊ တတြမဇ္ဈတ္တတာ (အလယ်အလတ် သဘောထားမှု)၊ ကာယပဿဒ္ဓိ(ကိုယ်၏

ငြိမ်းအေးမှု)၊ စိတ္တပဿဒ္ဓိ(စိတ်၏ ငြိမ်းအေးမှု)၊ ကာယလဟုတာ (ကိုယ်၏ ပေါ့ပါးမှု)၊ စိတ္တလဟုတာ(စိတ်၏ ပေါ့ပါးမှု) ကာယမုဒုတာ(ကိုယ်၏ နူးညံ့မှု)၊စိတ္တမုဒုတာ(စိတ်၏ နူးညံ့မှု)၊ ကာယကမ္မညတာ (ကိုယ်၏အမှု၌ ခိုင်ခံ့မှု)၊ စိတ္တကမ္မညတာ (စိတ်၏အမှု၌ ခိုင်ခံ့မှု)၊ ကာယပါဂုညတာ (ကိုယ်၏ ကျွမ်းကျင်မှု)၊ စိတ္တပါဂုညတာ (စိတ်၏ ကျွမ်းကျင်မှု)၊ ကာယုဇုကတာ (ကိုယ်၏ ဖြောင့်မတ်မှု)၊ စိတ္တုဇုကတာ (စိတ်၏ ဖြောင့်မတ်မှု)၊ သမ္မာဝါစာ(မကောင်းတာကို မပြောခြင်း)၊ သမ္မာကမ္မန္တ (မကောင်းသောအလုပ်ကို မလုပ်ခြင်း)၊ သမ္မာအာဇီဝ (ကောင်းစွာအသက်မွေးခြင်း)၊ ကရုဏာ(ဆင်းရဲသူကို သနားခြင်း)၊ မုဒိတာ(ချမ်းသာမှု ရသူတို့အတွက် ဝမ်းမြောက်ခြင်း)အစရှိသည်ဖြင့် (၅၂)ပါးရှိတယ် ဒကာကြီး။

ရုပ်အနေအားဖြင့်လဲ မြေ၊ ရေ၊ လေ၊ မီး ဓာတ်ကြီးလေးပါးလို့ ခေါ်နေကြတဲ့ မဟာဘုတ်လေးပါးနှင့် အရံရုပ်သေး(၂၄)ပါး၊ပေါင်း(၂၈)ပါးရှိပြန်တယ်။အဲဒီပြောခဲ့တဲ့စိတ် စေတသိက်တွေ ရုပ်တွေကို တူရာတူရာစုပုံပြီး ဖွဲ့စည်းကြည့်လိုက်တော့ ရူပက္ခန္ဓာ၊ ဝေဒနက္ခန္ဓာ၊ သညက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊ ဝိညာဏက္ခန္ဓာဆိုတဲ့ ခန္ဓာငါးပါးဘဲ ရတယ်။ အာယတနအားဖြင့် ဖွဲ့ရင် (၁၂)ပါးရှိတယ်။ ဓာတ်အားဖြင့် ဖွဲ့ရင်(၁၈)ပါးရှိတယ်။ အဲဒါတွေအားလုံးကို အကျဉ်းဆုံး ထပ်ပြီး ချုပ်လိုက်တော့ နာမ်နဲ့ရုပ်(၂)ပါးသာ ရှိတယ်။

အမှန်အားဖြင့် အထက်ပါ ရုပ်နာမ်(၂)ပါး သင်္ခါရတရားတွေဟာ မီးစာနှင့် ဆီကြောင့် တောက်လောင်နေတဲ့ မီးတောက်မီးလျှံလို အဆက်မပြတ် ချုပ်ငြိမ်းနေပြီး အဆက်မပြတ်

တောက်လောင်နေတဲ့တရားမျှသာ ဖြစ်တယ်။ အစဉ်ထာဝရ တည်တံ့ခိုင်မြဲနေတို့ မပြောထားနဲ့ မျက်စိတမှိတ် လျှပ်တပြက် အတွင်းမှာပင် ကုဋေတသိန်းခန့် ချုပ်ငြိမ်းပျက်စီးရတဲ့ တရားသာ ဖြစ်တယ်။ အဲဒီတော့ အတ္တ သို့မဟုတ် ဝိညာဉ်ဆိုတဲ့တရားက ဒီတရားတွေကို ဖန်ဆင်းတယ်၊ ပြဋ္ဌာန်းတယ်၊ ပြုပြင်တယ်ဆိုတာ ဘာမျှ ယုတ္တိယုတ္တာ မရှိဘူးဆိုတာ ထင်ရှားနေပြီ မဟုတ်လား။ ဒီအတ္တ သို့မဟုတ် ဝိညာဉ်ဆိုတဲ့ တရားဟာ ရှိလဲ မရှိဘူး။ လူအချို့ရဲ့စိတ်ထဲမှာ ရှိတယ်လို့ ထင်မြင်ယူဆထားတဲ့ တရားမျှသာဖြစ်တယ် ဒကာကြီး။

အတ္တ သို့မဟုတ် ဝိညာဉ်နဲ့ဆိုင်ရာ သဘောတရားကို ပဉ္စလက် နှင့် ပရိတ်မန္တာန်ခေတ်အတွင်းမှ ရစ်(ဂ်)ဝေဒကျမ်း၊ သာမဝေဒကျမ်း၊ ခုဒ္ဒဂီတကျမ်း၊ အတ္ထာရဝဝေဒကျမ်းစတဲ့ ဟိန္ဒူကျမ်းဂန်တို့ထဲမှာ မတွေ့ရဘူး ဒကာကြီးရဲ့။ ဒါပေမဲ့ ကျောက်တုံး၊ ကျောက်ရုပ်တို့ကို ဘုရားအသွင်ထားပြီး ကိုးကွယ်တဲ့ ခေတ် နောက်ပိုင်းကျတော့မှ ပြဟ္မဏတွေက အတ္တဝါဒ သို့မဟုတ် ဝိညာဉ်နဲ့ဆိုင်ရာ သဘောတရားကို ဆွဲသွင်းလာကြတယ်။ ဒီဝါဒအရ ပရမတ္တမ (အမြတ်ဆုံး ဘုရားသခင်) ကိုယ်တော်မြတ်ကို ဖန်ဆင်းရှင်အနေနဲ့ မဟုတ်မမှန် ဖန်တီးထားပြီး စကြာဝဠာတခုလုံးအတွင်းမှာရှိတဲ့ လူ၊ တိရစ္ဆာန်သတ္တဝါ ရှိရှိ သမျှတို့ရဲ့ အတ္တတွေဟာ ဒီပရမတ္တမ ကိုယ်တော်မြတ်ရဲ့ ခန္ဓာကိုယ်မှ လွင့်စင်ကျနေတဲ့ မီးပေါက် မီးဖွားတွေသာ ဖြစ်တယ်လို့ ဟောကြ၊ ပြောကြ၊ ရေးသားကြဘယ်။ ရစ်(ဂ်)ဝေဒ၊ သာမဝေဒ၊ အတ္ထာရဝဝေဒကျမ်းတို့ရဲ့ ပဉ္စလက်ခေတ်အတွင်းက ပဉ္စလက်အတတ်တွေ၊ မန္တာန်အတတ်တွေကို ဖြန့်ချိနေကြ

တဲ့ ဗြဟ္မဏတွေဟာ ပရမတ္တမင်္ဂလိုယ်တော်မြတ်ရဲ့ ကိုယ်စားလှယ်တော်များအနေနဲ့ အပူဇော် အကန်တော့ခံခဲ့ကြတယ် ဒကာကြီး။ အဲဒါ ဟိန္ဒူအယူဝါဒထဲကို အတ္တ သို့မဟုတ် ဝိညာဉ်ဝါဒကို ထိုးသွင်းလာခဲ့ပုံဘဲ ဒကာကြီး။

ဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေ တဖန် ပြန်လည်နေခြင်းနှင့် ဟိန္ဒူဝါဒအရ ဝိညာဉ်ကူးပြောင်းခြင်းသဘောတို့ကို ကျကျနန ထင်ထင်ရှားရှား နားလည်သဘောပေါက်ရင် ဒီသဘောတရားနှစ်ခုဟာ တခုနဲ့တခု အဝီစိနဲ့ဘဝဂ်လောက် ကွာခြားလျက် ရှိတာကို တွေ့ရပါလိမ့်မယ်။

ဒေါက်တာ။ ဒီဗုဒ္ဓဝါဒအရ ဇာတိပဋိသန္ဓေ တဖန်ပြန်နေခြင်း၊ သဘောနဲ့ ဟိန္ဒူဝါဒအရ ဝိညာဉ်ကူးပြောင်းခြင်း သဘောတို့ကို ဆရာတော်က ယခုကဲ့သို့ အခြေအမြစ်ကစပြီး ပြန်လည်ရှင်းပြတော်မူလိုက်တဲ့အတွက် ဒီဗြဟ္မဏတွေဟာ သူတို့ကိုယ်ကျိုးအတွက် လူတွေအချင်းချင်း ဇာတိတွေ ခွဲခြားထားသလို ဒီအတ္တဝါဒကိုလဲ တီထွင်ထားကြတယ်ဆိုတာကို တပည့်တော်တို့ ထင်ထင်ရှားရှားကြီး သိမြင်သဘောပေါက်လာကြပါပြီ ဆရာတော်။

ထိုအတွင်း ပရိသတ်ထဲမှ ဒကာကြီးတယောက်က ထ၍—

ဆရာတော်ဘုရား၊ တပည့်တော်တို့ကိုယ်တိုင် ဟိန္ဒူဘာသာကို ကိုးကွယ်ကြတယ်ဆိုပေမဲ့ တပည့်တော်တို့ကို အလှူမှ ကောက်ကျစ် ပါးနပ်လှတဲ့ ဗြဟ္မဏတွေက ဒေဝကျမ်းတွေဟာ သူတို့လို မြင့်မြတ်တဲ့ ဗြဟ္မဏတွေနဲ့သာ ဆိုင်တယ်၊ သာမန်လူတွေ မကိုင်ရ၊ မထိရလို့ တင်းတင်းကြပ်ကြပ် တားမြစ်ထားကြတဲ့အတွက် တပည့်တော်တို့ရဲ့ ဟိန္ဒူတရားရဲ့ အခြေ

ခံဖြစ်တဲ့ ဒေဝကျမ်းတွေနဲ့ ပတ်သက်လို့ ဘာမျှနားမလည်ဘဲ ဖြစ်ကြရပါတယ်။ ကနေ့မှာတဲ ဆရာတော်က အတ္တဝါဒရဲ့ အရင်းအမြစ်ကို ရှင်းလင်း ဟောပြောတော်မူလိုက်တဲ့အတွက် တပည့်တော်တို့ဟာ အတ္တနဲ့ ပရမတ္တမတို့နဲ့ ပတ်သက်တဲ့ ပြဿနာကို နားလည်ကြပါတယ် ဘုရား။ ဒါကြောင့် တပည့်တော်တို့ကို ဖိထားတဲ့ သမရိုးကျ အယူအဆတွေကို ဖယ်ရှားတော်မူလိုက်ပြီး လမ်းမှန်ကို ညွှန်ပြတော်မူလိုက်တဲ့အတွက် ဆရာတော်အား ကျေးဇူး အထူးတင်လှပါတယ်ဘုရား။

ထိုနောက် ပရိသတ်က သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၄။

နိဗ္ဗာန်ဟူသော တရားသည် တကယ်ပင် ရှိပါသလား ဘုရား။ အကယ်၍ ရှိပါက ထိုတရားသည် အဘယ်မှာနည်း။ မည်သည့်တရားနှင့် တူပါသနည်း ဘုရား။

(လျှောက်ထားမေးမြန်းသူ ဘုံဘိုင်မြို့ ပွဲစားကြီးမစ္စတာလက်(က်)ဒါဝါးလား၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဝံသ။)

**ဆရာတော်အရှင်အရိယဝံသ။** ဒကာကြီးရဲ့ အမေးပုစ္ဆာဟာ တချက်ခုတ် သုံးချက်ပြတ် မေးခွန်းတဲ ဒကာကြီးရဲ့။ မေးခွန်းကို ဖြေရာမှာ ဦးပဥ္စင်းဟာ တာဝန်သုံးခုကို တခါတည်း ထမ်းဆောင်ရလိမ့်မယ်။

ပထမတာဝန်က နိဗ္ဗာန်ဆိုတဲ့တရားဟာ တကယ်ရှိကြောင်းပြဘို့ ဖြစ်တယ်။

ဒုတိယတာဝန်ကတော့ နိဗ္ဗာန်ဟာ ဘယ်နေရာမှာရှိတယ် ဆိုတာပြဖို့ ဖြစ်တယ်။

တတိယတာဝန်ကတော့ နိဗ္ဗာန်ရဲ့ အသွင်အပြင် လက္ခဏာကို ဖော်ထုတ်ပြဖို့ ဖြစ်တယ်။

ပထမဆုံးတာဝန်ဖြစ်တဲ့ နိဗ္ဗာန်ဆိုတဲ့အရာဟာ တကယ်ရှိကြောင်း ပြဖို့ရာ ဒကာကြီးကို ဦးပဉ္ဇင်းက ပြန်ပြီး စမ်းရလိမ့်ဦးမယ်။ ကဲ ဒကာကြီးကလဲ ဖြေပါဦး။

ဆရာတော်။ ယနေ့ ကမ္ဘာပေါ်မှာ ရှိနေကြတဲ့ လူတွေအားလုံးဟာ အသက်တရာထိအောင် နေကြရပါ့မလား။

ဝါးလား။ အသက်တရာထိအောင် နေကြရမှာ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ သူတို့တတွေ ဘာဖြစ်ကုန်ကြပါမလဲ ဒကာကြီး။

ဤတွင် ဆရာတော်က သင်ပုန်းပေါ်၌ တဖက်မှ နိဗ္ဗာန်ဟူသောတရား တကယ်တမ်း တည်ရှိနေပုံနှင့် အခြားတဖက်မှ စကြာဝဠာကြီးနှင့်တကွ ဤစကြာဝဠာကြီးပေါ်တွင် ရှိရှိသမျှသော သတ္တဝါတို့၏ မတည်မမြဲ ဖောက်ပြန်တတ်သည့် သဘောတို့ကို အောက်ပါအတိုင်း နှိုင်းယှဉ် ရေးသားပြပါသည်။

| စကြာဝဠာကြီး | နှင့် | ဆန့်ကျင်ဘက်နိဗ္ဗာန် |
|---|---|---|
| ၁။ သေခြင်းတရား ရှိ၏။ | | ၁။ သေခြင်းတရား မရှိ။ |
| ၂။ အိုခြင်းတရား ရှိ၏။ | | ၂။ အိုခြင်းတရား မရှိ။ |
| ၃။ နာခြင်းတရား ရှိ၏။ | | ၃။ နာခြင်းတရား မရှိ။ |

| | |
|---|---|
| ၄။ ဒုက္ခနှင့် ဆင်းရဲခြင်း ရှိ၏။ | ၄။ ဒုက္ခနှင့် ဆင်းရဲခြင်းတို့မှ ကင်းငြိမ်းသည့် တကယ့်ချမ်းသာသုခ ရှိ၏။ |
| ၅။ မတည်မြဲ။ | ၅။ တည်မြဲ၏။ |
| ၆။ စိတ်နှင့်ကံတို့၏ဖန်ဆင်းမှု။ | ၆။ စိတ်နှင့် ကံတို့က မဖန်ဆင်း။ (အသင်္ခတဓာတ်) |
| ၇။ ပျက်စီး၏။ (အနိစ္စ) | ၇။ မပျက်စီးနိုင်။ (နိစ္စ) |
| ၈။ အစအဆုံးရှိ၏။ (အာဒိအနန္တ) | ၈။ အစအဆုံးမရှိ။ (အနာဒိအနန္တ) |
| ၉။ မသန့်ရှင်းချေ။ | ၉။ သန့်ရှင်း၏။ |
| ၁၀။ မွေးဖွားကြရ၏။(ဇာတိ) | ၁၀။ မွေးဖွားကြရခြင်း မရှိ။ (အဇာတိ) |
| ၁၁။ မသိမမြင်ခြင်း၊ စွဲလမ်းခြင်း၊ လိုချင်တပ်မက်ခြင်း၊စိတ်ဆိုးခြင်း၊ ကြမ်းတမ်းခြင်း၊ ရန်ငြိုးဖွဲ့ခြင်း စသည့် တရားများ ရှိ၏။ (အဝိဇ္ဇာ၊ ဥပါဒါန်၊ လောဘ၊ ဒေါသ) | ၁၁။ ဤတရားများအားလုံးမှ ကင်းစင်၏။ |
| ၁၂။ သံယောဇဉ်ကြိုး (၁၀)ချောင်းဖြင့် နှောင်ဖွဲ့ထား၏။ | ၁၂။ မည်သည့် သံယောဇဉ် ကြိုးမျှ မရှိ။ |
| ၁၃။ အနှောင်အဖွဲ့ ရှိ၏။ | ၁၃။ လွတ်လပ်၏။ |
| ၁၄။ သံသရာအတွင်း၌ ရှိ၏။ | ၁၄။ သံသရာမှ လွတ်မြောက်၏။ |

| | |
|---|---|
| ၁၅။ အရသာများ ရှိ၏။ | ၁၅။ လွတ်မြောက်သည့် အရသာတခုတည်းသာ ရှိ၏။ |
| ၁၆။ အာသာပြေမှု မရှိ။ | ၁၆။ အာသာပြေလျက်ရှိ၏။ |
| ၁၇။ ချိုးနှိမ်၍ရ၏။ (သံဝရ သဘော ရှိ၏။) | ၁၇။ ချိုးနှိမ်၍မရ။(အသံဝရ သဘောရှိ၏။ |
| ၁၈။ အကန့်အသတ် ရှိ၏။ | ၁၈။ အကန့်အသတ် မရှိ။ |
| ၁၉။ ခံစားခြင်း (ဝေဒနာ) နှင့် တပ်မက်ခြင်း (တဏှာ)တရားတို့ဖြင့် အိနေ၏။ | ၁၉။ ဝေဒနာနှင့် တဏှာ တရားတို့မှ လွတ်မြောက်၏။ |
| ၂၀။ တကယ်မရှိ (ပရမတ် မဟုတ်)၊ မမြဲ။ | ၂၀။ တကယ်ရှိ၏(ပရမတ်)၊ မြဲ၏။ |
| ၂၁။ စကြာဝဠာသည် တကယ် မရှိ။ | ၂၁။ နိဗ္ဗာန်သည် တကယ် ရှိ၏။ |

ဆရာတော်။ (အထက်ပါအတိုင်း သင်ပုန်းကြီးပေါ်၌ ရေးသားပြပြီးနောက်) ကဲ ဒကာကြီး၊ အခု ဦးပဉ္ဇင်း ရေးပြထားတဲ့ ဆန်းစစ်ချက်အရ နိဗ္ဗာန်ဆိုတဲ့တရားဟာ တကယ်တမ်း ရှိတယ်ဆိုတာကို လက်ခံနိုင်ရဲ့လား။

ဝါ။လား။ နိဗ္ဗာန်ဆိုတဲ့တရားဟာ တကယ်ရှိတယ် ဆိုတဲ့ အချက်နဲ့ ပတ်သက်လို့ ဆရာတော် ရှင်းပြတဲ့အချက်အားလုံးကို တပည့်တော် လက်ခံပါတယ်။ ဒါပေမဲ့ သတ္တဝါတွေမှာ ဇာတိတရားချုပ်ငြိမ်းသွားရတယ် ဆိုတဲ့အချက်ကိုတော့ တပည့်တော် ဦးခေါင်းထဲမှာ မရှင်းသေးဘဲ ဖြစ်နေပါတယ် ဆရာတော်။

ဆရာတော်။ ဒါဖြင့် ဦးပဥ္စင်းက ရှင်းပြရသေးဒါပေါ့။ ဒကာကြီး၊ မွေးဖွားခြင်း (ဇာတိတရား)ဆိုတာဟာ သေခြင်းရဲ့ အကြောင်းတရားဘဲ။ နိဗ္ဗာန်ရောက်ပြီးမှ သတ္တဝါ တဦးဦး ဟာ ဖွားရအုံးမယ်ဆိုရင် ထိုသတ္တဝါဟာ သေရမှာ အမှန်ဖြစ် တယ်။ အဲဒီလို သေခြင်းတရား ရှိနေရင် နိဗ္ဗာန်ဟာ မွေးဖွား ခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်းဆိုတဲ့တရားတွေ ချုပ်ငြိမ်းရာ တရား မဟုတ်တော့ဘူး။ မြစ်တစင်းဟာ မြစ်ဖျားခံရာဒေသမှာ မွေးဖွားပြီး မြစ်ဝအထိဟာ ဒီမြစ်ရဲ့ တသက်တာဘဝဘဲ။ ဒီနည်းအတိုင်းဘဲ သတ္တဝါတဦးဦးရဲ့ ဘဝတသက်တာဟာ မွေးဖွားတဲ့အခါကစပြီး သေတဲ့အခါမှာ အဆုံးသတ်ရတယ်။ ဒါကြောင့် နိဗ္ဗာန်ဆိုတဲ့ တရားထဲမှာ မွေးဖွားခြင်းဆိုတဲ့တရား မရှိတော့ဘူး။ မွေးဖွားခြင်းနဲ့ သေခြင်းဟာ ကြိုးတချောင်းထဲ ဘဲ။ အစတဖက်က မွေးဖွားခြင်းဆိုတာ ဖြစ်ပြီး ကျန်အစ တဖက်က သေခြင်းဘဲ။ သည့်ပြင် အချက်တချက်လဲ ရှိသေး တယ်။ အဲဒါက မွေးဖွားခြင်းနဲ့ သေခြင်းတို့ဟာ ဒုက္ခတရား တွေလဲ ဖြစ်တယ်၊ မြဲလဲမြဲတဲ့ တရားတွေလဲ မဟုတ်ကြဘူး ဒကာကြီး။

ဝါးလား။ ဆရာတော်ရဲ့ ရှင်းလင်းချက်ဖြင့် မွေးဖွားခြင်းနဲ့ သေခြင်းတရားတို့အကြောင်းကို တပည့်တော် ရှင်းရှင်းလင်း လင်း နားလည်ပါပြီ [illegible]ာ်၊ နိဗ္ဗာန်ဆိုတဲ့တရားဟာလဲ မွေး ဖွားခြင်း၊ သေခြင်းဆို[illegible]ရားတို့ရဲ့ ကင်းငြိမ်းရာဖြစ်တယ်ဆို တာကိုလဲ သိမြင် န[illegible]ပြီ ဆရာတော်။

ဆရာတော်၊ အခု ဒကာကြီးက နိဗ္ဗာန်ဆိုတဲ့ တရားဟာ အဟုတ်အမှန် ရှိကြောင်းကို ယုံယုံကြည်ကြည်နဲ့ လက်ခံပါပြီ

ဆိုတော့ ဦးပဥ္စင်းက နိဗ္ဗာန်ဆိုတဲ့တရားဟာ ဘယ်နေရာမှာ ရှိပါသလဲဆိုတဲ့ ဒုတိယအဆင့် မေးခွန်းကို ဖြေကြားရဦးမယ်။

အထက်က ဦးပဥ္စင်း ရှင်းလင်းပြခဲ့တဲ့ အချက်အလက်များ အရ နိဗ္ဗာန်ဆိုတဲ့တရား ကိန်းဝပ်ဘို့ရာ နေရာဌာနရှိလို့ မဖြစ် တော့ဘူး။ အကယ်၍ နေရာဌာနတခု ရှိခဲ့လျှင် ထိုနေရာဌာနနဲ့ မူလဗီဇတရား ရှိရမယ်။ မူလဗီဇတရား ရှိတာနဲ့ တပြိုင်နက် ထိုတရားဟာ ပျက်စီးချုပ်ငြိမ်းသွားရမယ်။ အမှန်ကတော့ နိဗ္ဗာန်ဆိုတဲ့တရားဟာ ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဆိုတဲ့ မဟာဘုတ်ကြီး (၄)ပါးနဲ့ ဘာမျှမပတ်သက်ဘူး။ ကင်း လွတ်တယ်။ ဒီမဟာဘုတ်ကြီး(၄)ပါးနဲ့ ကင်းလွတ်လိုက်တာနဲ့ တပြိုင်နက် ဘာတရားမျှ မရှိဘူး။ ဘာရုပ်ဝတ္ထုမျှ မရှိဘူး။ ဘာ အသွင်သဏ္ဍာန်မှလဲ မရှိဘူး။ ဘယ်နေရာဌာနမှလဲ မရှိဘူး။ ဒီမဟာဘုတ်ကြီး(၄)ပါး စုပေါင်းဖြစ်ပေါ်နေတဲ့တရားတွေသာမှ မှာ ပျက်စီး ချုပ်ငြိမ်းရတာချည်းဘဲ။ ဘာဖြစ်လို့လဲဆိုတော့ စတင်ဖြစ်ပေါ်ခြင်း (ဇာတိ)၊ တိုးတက်ဖွံ့ဖြိုးခြင်း၊ ပျက်စီး ယိုယွင်းခြင်း၊ ချုပ်ငြိမ်းခြင်းဆိုတဲ့ တရားတွေဟာ ဒီမဟာဘုတ် ကြီး(၄)ပါးတို့ရဲ့ မူလဗီဇက ပါလာတဲ့ သဘောတွေ ဖြစ်လို့ဘဲ ဒကာကြီး။ ဒါကို ကြည့်ခြင်းအားဖြင့် နိဗ္ဗာန်ဆိုတဲ့ တရား တည်ရှိဘို့အတွက် နေရာဌာနဆိုတာ မလိုဘူးဆိုတဲ့ အချက်ဟာ ထင်ရှားသွားပြီ ဒကာကြီး။

ဝါးလား။ ဒီလို နိဗ္ဗာန်ဆိုတဲ့တရား ကိန်းဝပ်ဘို့ နေရာဌာန ရယ်လို့ မရှိရင် ဒီတရားဟာ ဘယ်လိုလုပ်ပြီးရှိနိုင်ပါမလဲဘုရား။

ဆရာတော်။ ကဲ ဒါဖြင့်ရင် ဒကာကြီးကို ဦးပဥ္စင်းက ပြန် မေးရဦးမယ်။

ဝါးလား။ မှန်ပါ့ ဆရာတော်။

ဆရာတော်။ လောကမှာ "ဉာဏ်ပညာ"ဆိုတဲ့တရား ရှိပါ သလား ဒကာကြီး။

ဝါးလား။ ရှိပါတယ် ဆရာတော်။

ဆရာတော်။ ဒကာကြီး ဒီ"ဉာဏ်ပညာ"ဆိုတဲ့ တရားကို မြင်ဘူးသလား။

ဝါးလား။ မမြင်ဘူးပါဘူး ဆရာတော်။ ဒီတရားဟာ မမြင် နိုင်၊ မမြင်အပ်တဲ့တရားပါ ဆရာတော်။

ဆရာတော်။ ဒါဖြင့်ရင် ဒီ"ဉာဏ်ပညာ"ဆိုတဲ့ တရားဟာ ရှိတယ်လို့ ဒကာကြီး ဘယ်လိုလုပ်ပြီး သိပါသလဲ။

ဝါးလား။ "ဉာဏ်ပညာ"ဆိုတဲ့တရားကို စိတ်အာရုံနဲ့ သညာသဘောနဲ့ သိပါတယ် ဆရာတော်။

ဆရာတော်။ "ဉာဏ်ပညာ"ဆိုတဲ့ တရားဟာ အဘယ် အရပ် အဘယ်ဒေသမှာ ကိန်းစပ်ပါသလဲ ဒကာကြီး။

ဝါးလား။ "ဉာဏ်ပညာ"ဆိုတဲ့ တရားဟာ ဘယ်နေရာ ဘယ်ဌာနမှ မကိန်းဝပ်ပါဘူး ဘုရား။ ဒါပေမဲ့ အဲဒီတရားဟာ ပေါ်ပေါက်လိုက်၊ ပျောက်ကွယ်လိုက် တဖန် ပေါ်ပေါက် လိုက်နဲ့ အစဉ်တစိုက် ဖြစ်ပျက်နေပါတယ် ဘုရား။

ဆရာတော်။ "လေ"ဆိုတဲ့တရားဟာ ရှိသလား။

ဝါးလား။ လေဆိုတဲ့တရားဟာ ရှိပါတယ်။ ဒီလေဆိုတဲ့ တရား မရှိဘဲနဲ့ တပည့်တော်တို့ဟာ အသက်ရှင် မနေနိုင်ပါဘူး ဆရာတော်။

ဆရာတော်။ ဒကာကြီး လေကို မြင်ရသလား။

ဝါးလား။ မမြင်ရပါဘူး ဆရာတော်။ လေဟာ မြင်နိုင်တဲ့ တရား မဟုတ်ပါဘူး။

ဆရာတော်။ လေဟာ ရှိတယ်ဆိုတာကို ဘယ်လိုလုပ်ပြီး သိအောင်လုပ်သလဲ ဒကာကြီး။

ဝါးလား။ လေကို တဝည့်တော်ရဲ့ ခန္ဓာကိုယ်အတွင်းမှာရော၊ အပြင်မှာပါ လေရဲ့အားကို စမ်းသပ် တွေ့ထိခြင်းအားဖြင့် လေဆိုတဲ့ တရားဟာ တကယ်ရှိတယ်ဆိုတာ သိရပါတယ် ဆရာတော်။

ဆရာတော်။ ဒါဖြင့် လေဟာ ဘယ်မှာ ကိန်းဝပ်နေသလဲ ဒကာကြီး။

ဝါးလား။ "ဉာဏ်ပညာ"ဆိုတဲ့ တရားလိုပါဘဲ ဆရာတော် လေဟာလဲ အဆက်မပြတ် ဖြစ်ပေါ် ကွယ်ပျောက်နေတဲ့တရား ပါဘဲ ဘုရား။

ဆရာတော်။ "ဉာဏ်ပညာ"တို့၊ "လေ"တို့ဆိုတဲ့တရား တွေဟာ တကယ်တမ်း ရှိပါလျက်နဲ့ ဘယ်နေရာ ဘယ်ဒေသမှာ ကိန်းဝပ်လျက် ရှိတယ်လို့ မပြနိုင်သလိုဘဲ နိဗ္ဗာန်ဆိုတဲ့ တရားဟာလဲ တကယ်ရှိသော်လဲ ဘယ်နေရာ ဘယ်ဒေသမှာ ကိန်းဝပ်တယ်လို့ မပြနိုင်ဘူး ဒကာကြီး။ "ဉာဏ်ပညာ"ဆိုတဲ့ တရားနဲ့ "လေ"ဆိုတဲ့ တရားတို့ တကယ်တမ်း ရှိတယ်ဆိုတာကို အာရုံခံစားခြင်း၊ တွေ့ထိခြင်းဆိုတဲ့ သဘောတို့နဲ့သာ သိနိုင် နားလည်နိုင်သလို နိဗ္ဗာန်ဆိုတဲ့တရားဟာ တကယ်ရှိတယ် ဆိုတာကိုလဲ အရဟတ္တမဂ်၊ အရဟတ္တဖိုလ် ရနေကြတဲ့ ပုဂ္ဂိုလ်များရဲ့ လောကုတ္တရာဉာဏ်၊ အာသဝက္ခယဉာဏ်တို့ဖြင့်သာ သိမြင် နားလည်နိုင်တယ်။ ကဲ ဒကာကြီး၊ ကျေနပ်ပြီလား။

ဝါးလား။ ကျေနပ်ပါပြီ ဆရာတော်။ "ဉာဏ်ပညာ"နဲ့ "လေ"ဆိုတဲ့ တရားတွေလိုဘဲ နိဗ္ဗာန်ဆိုတဲ့တရားဟာ တကယ် ရှိသော်လဲ ဘယ်နေရာ ဘယ်ဌာနမှာ ကိန်းဝပ်တယ်လို့ ပြလို့ မဖြစ်နိုင်တာကိုလဲ သဘောပေါက်ပါပြီ ဆရာတော်။

ဆရာတော်။ ကဲ ဒုတိယပြဿနာ ရှင်းသွားပြီဆိုရင် တတိယ ပြဿနာဖြစ်တဲ့ နိဗ္ဗာန်ဟာ မည်သည့်တရားနဲ့ တူပါသလဲဆိုတဲ့ အချက်ကို ဆက်ရှင်းကြရလိမ့်ဦးမယ်။ နိဗ္ဗာန်ဆိုတဲ့တရားဟာ အထက်က ရှင်းပြခဲ့သလိုဘဲ ဒီလောကကြီးနဲ့ သတ္တိ၊ အရည် အချင်း၊ အသွင်အပြင်၊ ဂုဏ်လက္ခဏာတို့မှစ၍ ဘယ်ဘက်ကမျှ မတူဘဲ လုံးလုံးဆန့်ကျင်နေတဲ့တရား ဖြစ်နေလေတော့ နိဗ္ဗာန် ကို ယခု တွေ့မြင်နေကြတဲ့ အရာဝတ္ထုတွေ၊ ရုပ်ဝတ္ထုတွေနဲ့ ဘယ်လိုမှ နှိုင်းယှဉ်ပြလို့တော့ မဖြစ်ပေဘူး ဒကာကြီးရဲ့။ ဒါပေမဲ့ ဥပမာကလေးတခုနဲ့တော့ ရှင်းပြရလိမ့်မယ်။ ဒကာ ကြီး၊ နားထောင်ပေတော့။

ဝါးလား။ မှန်ပါ၊ နာလျက်ပါ ဆရာတော်။

ဆရာတော်။ ရှေးက ဘုရင်ကြီးတပါး ရှိသတဲ့။ ဒီဘုရင်ကြီး ဟာ အခြားဘုရင်အဆူဆူက ကြောက်ရွံ့ရိုသေပြီး လက် ဆောင်ပဏ္ဏာတွေ ကြို့ရလောက်အောင် ဘုန်းတန်ခိုးကြီးသတဲ့။ ရွှေငွေ ကျောက်သံပတ္တမြားတွေဆိုတာကလဲ ခန့်မှန်းရေတွက် လို့ မရနိုင်အောင် ပေါသတဲ့။ စစ်သည်အင်အားကလဲ အလွန် ကြီးမားတောင့်တင်းသတဲ့။ သူ့ကို လုပ်ကျွေးပြုကြတဲ့ မောင်းမ မိဿံကလဲ ထောင်သောင်းမကဘူးတဲ့။ အချက်အပြုတ် အကျော် အမော်တွေကလဲ ရသာမျိုးစုံတဲ့ ခဲဘွယ်ဘောဇဉ် ချိုချဉ် ယမကာတွေကို အမျိုးပေါင်း မရေမတွက်နိုင်အောင် စီမံပြီး

ပွဲတော်များ ဆက်သကြရသတဲ့။ ဒီလို အမျိုးမျိုးသော စည်းစိမ်ချမ်းသာတွေကို ခံစားစံစားနေရတဲ့ ဘုရင်ကြီးဟာ တနေ့ကျတော့ ကုဋ္ဌနာရောဂါ စွဲကပ်လာသတဲ့။ ဒီရောဂါ စွဲကပ်လာတာနဲ့ တပြိုင်နက် ဘုရင်ကြီးဟာ အထက်ကပြောခဲ့တဲ့ စည်းစိမ်တွေကိုလဲ မခံစားနိုင်တော့ဘူး၊ မောင်းမမိသားတွေနဲ့လဲ မပျော်ပါးနိုင်တော့ဘူး။ နောက်ဆုံး အာရုံငါးပါးမှာ ဘယ်အာရုံမှ မခံစားနိုင်တော့ဘူး။ ဒီဇက်ဆုတ် ရွံရှာဘွယ်ကောင်းလှတဲ့ ရောဂါအတွက် အချိန်ရှိသရွေ့ စိတ်နှလုံး ဆင်းရဲနွမ်းရိနေရသတဲ့။ နောက်ဆုံးတော့ ဘုရင်ကြီးဟာ ကျန်းမာရေးနဲ့ ထီးနန်းစည်းစိမ်ကို လဲပစ်ရသည်အထိ ကျန်းမာအောင် လုပ်မယ်ဆိုပြီး သန္နိဋ္ဌာန်ချလိုက်သတဲ့။ အဲဒီလို သန္နိဋ္ဌာန်ချပြီးတဲ့နောက် "ဘယ်သူမဆို သူ၏ ရောဂါကို ပျောက်ကင်းအောင် ကုသနိုင်လို့ရှိရင် ထီးနန်းစည်းစိမ်နဲ့တကွ သူ့ရဲ့ရတနာရွှေငွေတွေကိုပါ ဆုလာဘ်အဖြစ်နဲ့ ရလိမ့်မယ်" လို့ တိုင်းပြည်အတွင်း ကြေညာလိုက်သတဲ့။ သူကိုယ်တိုင်ကတော့ ရောဂါဝေဒနာ ကင်းရှင်းသွားပြီး အရင်ကလို ကျန်းမာလာဒါနဲ့တပြိုင်နက် ထီးနန်းကို စွန့်ပြီး ရသေ့အသွင်နဲ့ တောရမှီးနေတော့မယ်လို့ စိတ်ကို ပိုင်းဖြတ်ထားသတဲ့။ ဒီလို ကြေညာလိုက်တော့ တိုင်းပြည်အတွင်း အလွန်နာမည်ထင်ရှား ကျော်ကြားလှတဲ့ သမားတော်ကြီးတွေဟာ ဘုရင့်ရောဂါကို လာရောက်ကုသကြသတဲ့၊ ဒါပေမဲ့ သမားတော်ကြီးများစွာဟာ ဘုရင်ကြီးရဲ့ရောဂါကို ပျောက်ကင်းအောင် မကုသနိုင်ကြရှာဘူးတဲ့။ နောက်ဆုံး သမားတော်ကြီးတဆူ ရောက်လာပြီး ဘုရင်ကြီးရဲ့ရောဂါကို "သုံးလနဲ့ ပျောက်ကင်းအောင် ကုသနိုင်ပါတယ်။ တကယ်လို့

သုံးလနဲ့ ပျောက်ကင်းရင် အရှင်မင်းမြတ် ကတိထားတော်မူတဲ့ အတိုင်း ထီးနန်းကိုသာ ပေးပါ။ မပျောက်ရင် ကျွန်တော်မျိုးရဲ့ ဦးခေါင်းကို ဖြတ်ပစ်ပါ ဘုရား''လို့ လျှောက်ထားပြီး ကုသတဲ့။

ဒီသမားတော်ကြီးဟာ တကယ့်ကို ကျွမ်းကျင်တတ်မြောက်တဲ့ သမားတော်ကြီးဆိုတော့ ပြောတဲ့အတိုင်းပဲ သုံးလလဲ ကြာရော ဘုရင်ကြီးဟာ ပကတိအတိုင်း ကျန်းမာသွားသတဲ့။ ရောဂါနဲ့ ပတ်သက်လို့ ဘာအငုတ်အရင်းမှ မရှိတော့ဘူးတဲ့။ ဒါနဲ့ ဘုရင်ကြီးက သူ့ကတိအတိုင်း ထီးနန်းနှင့်တကွ ရတနာ ရွှေငွေတွေကို သမားတော်ကြီးလက်ထဲအပ်ပြီး တောထွက်ကာ ရသေ့ဘဝနဲ့ သစ်တပင်ရင်း ဝါးတပင်အောက်မှာ ကျောင်းသခ်မ်းကလေးဆောက်ပြီး တရားကျင့်နေသတဲ့။ သူ့ရဲ့စိတ်ခေတ် ဟာလဲ ချမ်းသာသုခနဲ့ အလွန်ပြည့်စုံနေသတဲ့။ ဒီတော့ ဘုရင်ကြီးဟာ ထီးနန်းစည်းစိမ်နဲ့တကွ ရတနာရွှေငွေတွေထက် ကျန်းမာရေးဟာ တကယ်ကျတော့ တယ်ပြီး အဘိုးတန်ပါ ကလားလို့ ကိုယ်တွေ့ သိမြင်နားလည်လာပြီး ''အော် လောက တွင် ကျန်းမာခြင်းထက် အဘိုးတန်တဲ့ရတနာကား မရှိချေ တကား''လို့ ဥဒါန်းကျူးလိုက်သတဲ့။

(ထိုနောက် ဆရာတော်က မစ္ဆတာ လင်္ကာဧါ ဝါးလား အား)

ကဲ ဒကာကြီး၊ တကယ်ဘဲ ကျန်းမာခြင်းဆိုတဲ့ တရားဟာ ဒီဘုရင်ကြီး ဥဒါန်းကျူးသလို လူတဦးတယောက်အား စိတ်ခေတ်အားဖြင့် ချမ်းသာသုခနဲ့ပြည့်စုံအောင် ဖန်တီးနိုင်ရဲ့လား။ ဒီတရားဟာ အမှန်ကော ရှိရဲ့လား။

ဝါးလား။ ဒီဘုရင်ကြီးပြောသလို တကယ်တဲ လူတွေရဲ့ စိတ်ဓာတ်ကို ချမ်းသာသုခပေးနိုင်တဲ့၊ အဘိုးဖြတ်လို့ မရ ကောင်းတဲ့ ကျန်းမာခြင်းဆိုတဲ့တရား ရှိကြောင်းကို ကိုယ်တိုင် အတွေ့အကြုံနဲ့ ဝန်ခံပါတယ် ဆရာတော်။

ဆရာတော်။ ကဲ ဒါဖြင့် ဒီကျန်းမာခြင်းဆိုတဲ့ တရားဟာ ဘယ်လိုပုံပန်းသဏ္ဌာန် ရှိတယ်ဆိုတာကို ဒကာကြီး ပြောပြနိုင် ပါ့မလား။

ဝါးလား။ ဒီကျန်းမာခြင်းဆိုတဲ့တရားမှာ အသွင်သဏ္ဌာန် ရုပ်ခြုပ်ရယ်လို့ မျက်စိနဲ့ကြည့်လို့တော့ မမြင်ရပါဘူး ဘုရား။ ဒါပေမဲ့ ဒီတရားရဲ့ အကျိုးကျေးဇူးကိုတော့ ဘယ်သူမျှ မငြင်း ပယ်နိုင်ပါဘူး ဘုရား။

ဆရာတော်။ အဲ ဒကာကြီးပြောတဲ့အတိုင်း ကျန်းမာခြင်း ဆိုတဲ့တရားဟာ တကယ်ရှိပြီး ဒီတရားရဲ့ အကျိုးကျေးဇူးကို လူသားတွေဟာ ခံစားနေရသော်လဲ ဘယ်သူကမျှ ကျန်းမာခြင်း ဆိုတဲ့တရားဟာ ဘာနဲ့တူတယ်၊ ဘယ်လို ကိုင်တွယ်စမ်းသပ်လို့ ရတယ်၊ ဘယ်လို အဘိုးတန်တယ်ဆိုတာကို ကိုင်တွယ်ပြသလို့ မဖြစ်သလိုဘဲ နိဗ္ဗာန်ဆိုတဲ့တရားဟာလဲ စကြာဝဠာကြီးအတွင်း မှာရှိတဲ့ သတ္တဝါအနန္တတို့ ခံစားနေကြရတဲ့ ပဋိသန္ဓေနေရခြင်း၊ အိုရခြင်း၊ နာရခြင်း၊ သေရခြင်းဆိုတဲ့ ဆင်းရဲဒုက္ခတွေနဲ့တကွ အခြား ဒုက္ခတွေကပါ လွတ်ငြိမ်းအောင်ဖန်တီးနိုင်တာကတော့ မှန်ပါတယ်။ ဒါပေမဲ့ ဒီနိဗ္ဗာန်ဆိုတဲ့တရားဟာ ဖြူတယ်၊ ဝါတယ်၊ နီတယ်၊ ညိုတယ်လို့လဲ ပြောပြလို့ မဖြစ်နိုင်ဘူး။ လုံးတယ်၊ ပြားတယ်၊ ရှည်တယ်၊ တိုတယ်လို့လဲ ပြောပြလို့ မဖြစ်ဘူး။ ဒီတရားကို ရတဲ့လူမှာဘဲ ကိုယ်တိုင် တွေ့ကြုံ ခံစားပြီး သိအပ်တဲ့

တရားတဲ့ ဒကာကြီးရဲ့ ကဲ နိဗ္ဗာန်ဟာ ဘယ်လိုအဆင်းသဏ္ဌာန်နဲ့ ပြည့်စုံသလဲဆိုတဲ့ ဒကာကြီးရဲ့ ပုစ္ဆာနဲ့ပတ်သက်ပြီး ဒကာကြီး ရှင်းသွားပြီလား။

ဝါးလား။ မှန်ပါ၊ ဆရာတော် ယခုပြလိုက်တဲ့ ဥပမာနဲ့တဲ့ ရှင်းသွားပါပြီ ဆရာတော်။

ထိုနောက် တရားနာပရိသတ်က သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၅။

အသိဉာဏ်သည် ဦးနှောက်ထဲတွင် မရှိဘဲ ဟဒယရုပ်ဝတ္ထု ထဲ၌သာ ရှိသည် ဟူသောအချက်ကို ဆရာတော် ထင်ထင်ရှားရှား ပြတော်မူပါဘုရား။

**(မေးမြန်းလျှောက်ထားသူ ပါမောက္ခ ဂျေ၊ အယ် (မ်) ဖေ့ာစတာ၊ အယ်(မ်)ဘေ၊အယ် (မ်) အက်စ်၊ ဘုံဘိုင်တက္ကသိုလ်မှ သိပ္ပံဗေဒပါမောက္ခ၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဝံသ။)**

(ဆရာတော်က သူ၏ပုစ္ဆာအတွက် အဖြေကို ဖော်ထုတ်ရန် ပါမောက္ခ ဂျေ၊ အယ်(မ်)ဖော့စတာအား အောက်ပါမေးခွန်းကို ပြန်လှန်၍ မေးပါသည်။)

**ဆရာတော်အရှင်အရိယဝံသ။** အသိဉာဏ်ဟာ ဦးနှောက်ထဲတွင် ရှိသည်ဟူ၍ ဒကာကြီး အဘယ်ကြောင့် ယူဆပါသလဲ။

ဖော့စတာ။ ယခုကမ္ဘာမှာ ထိပ်တန်းရောက်နေတဲ့ ဆေးသိပ္ပံအရ ဦးနှောက်ခွံကို ခွဲခြမ်းစိတ်ဖြာကြည့်တော့ အသိဉာဏ်ဟာ ဦးနှောက်ခွံမှာ ဆုံးတဲ့အကြောတွေထဲမှာ ဖြစ်ပွားတယ်

လို့ အခိုင်အလုံ တွေ့ရှိပါတယ် ဆရာတော်။ ဒီဦးနှောက်ထဲရှိတဲ့ အကြောတွေရဲ့ အမျိုးအမည်ကို ခွဲကြည့်တော့ ဝေဒနာကြော၊ သညာကြော၊ ဆန္ဒကြော၊ သမာဓိကြော၊ ရောင်ပြန်ကြော၊ ပညာကြော၊ သောတကြော၊ ဂန္ဓကြော၊ ရသကြော၊ စက္ခုကြော၊ ပြန်လည်တွေးတောတတ်တဲ့ အကြော၊ စုံစမ်းတဲ့ အကြော၊ ဆုံးဖြတ်တဲ့ အကြော၊ ဖဿကြော၊ အတွေးကြော စတဲ့ အကြောတွေကို တွေ့ရပါတယ်။

ဒါတင်မကသေးပါဘူး။ အခု နောက်ဆုံးပေါ် စူးစမ်းချက် အရ သေတဲ့လူတွေရဲ့ ဦးနှောက်ထဲမှာ မော်တော်ကားတွေ၊ မီးရထားတွေ၊ အဆောက်အဦတွေ အစရှိတဲ့ အမျိုးမျိုးသော ရုပ်ဝတ္ထုတို့ရဲ့ ပုံသဏ္ဌာန်တွေဟာ ဓာတ်ပုံရိုက်ထားသလို ပေါ် နေတာကိုလဲ တွေ့ရပါတယ် ဆရာတော်။ ဒါကြောင့် ဦးနှောက် ဟာ အသိဉာဏ်နဲ့ဆိုင်ရာ လုပ်ရှားမှုအားလုံး သိုလှောင်ရာ အခန်း ဖြစ်တယ်လို့ ခေါ်နေကြပါပြီ ဆရာတော်။

ဆရာတော်။ မြင်ထားတဲ့၊ ကြားထားတဲ့၊ နံထားတဲ့၊ အရသာ ခံထားတဲ့၊ တွေးတောထားတဲ့ ရုပ်ဝတ္ထုတွေကို သိမြင်နားလည် နိုင်တဲ့သတ္တိ ဦးနှောက်မှာ ရှိသလား ဒကာကြီး။

ဖော့စတာ။ ဒီအာရုံတွေနဲ့ တွေ့ထိတဲ့ တရားတွေ သိမြင် နားလည်နိုင်တဲ့သတ္တိ ဦးနှောက်မှာ ရှိပါတယ် ဆရာတော်။

ဆရာတော်။ ဓာတ်စက် ဓာတ်ပြားတွေက သီချင်းဆိုသံ၊ စကားပြောသံတွေကို သိုလှောင်ထားသလား။

ဖော့စတာ။ သိုလှောင်ထားပါတယ် ဆရာတော်။

ဆရာတော်။ ဒါဖြင့်ရင် ဓာတ်ပြားတချပ်ကို ယူပြီး ဘာသီ ချင်းကို သိုလှောင်ထားသလဲလို့ မေးရင် ဘာသီချင်းကို

သိုလှောင်ထားတယ်လို့ အဲဒီခေတ်ပြားက ပြန်ပြောမှာလား ဒကာကြီး။

ဖော့စတာ။ ခေတ်ပြားဟာ ရုပ်ဝတ္ထုတခုမျှသာ ဖြစ်ပြီး သိမြင်နားလည်တတ်တဲ့သတ္တိ မရှိတဲ့အတွက် ဘာသီချင်းကို သိုလှောင်ထားတယ်လို့ပြောနိုင်တဲ့သတ္တိ မရှိပါဘူး ဆရာတော်။

ဆရာတော်။ ဦးနှောက်၊ သို့မဟုတ် ဟာဒယရုပ်ဝတ္ထု၊ သို့မဟုတ် မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်ခန္ဓာဆိုတဲ့တရားတွေဟာလဲ ရုပ်ဝတ္ထုတွေသာဖြစ်တော့ သိမြင်ခြင်း၊ နားလည်ခြင်းဆိုတဲ့သတ္တိ မရှိကြဘူး။ ဝိညာဏခေတ်ဆိုတဲ့ တရားမှသာ သိမြင်နားလည်ခြင်းဆိုတဲ့သတ္တိ ရှိတယ်။ အဲဒီတော့ ဒီဝိညာဏခေတ် ဖြစ်ပွားလာပုံကို သိသာထင်ရှားလာအောင် ဦးပဥ္ဇင်းမေးတဲ့ မေးခွန်းတွေကို ဒကာကြီး ဖြေစမ်းပါဦး။

ဖော့စတာ။ မှန်ပါ့ ဆရာတော်။

ဆရာတော်။ ဝိညာဏခေတ်ဟာ တနေရာတည်းမှာ ဖြစ်နိုင်သလား၊ နှစ်နေရာမှာ ဖြစ်နိုင်သလား ဒကာကြီး။

ဖော့စတာ။ ဝိညာဏခေတ်ဟာ တနေရာတည်းမှာသာ ဖြစ်နိုင်ပါတယ် ဆရာတော်။

ဆရာတော်။ အကြောင်းသူတဦးတယောက်ဟာ ထိတ်လန့်တုန်လှုပ်သွားတဲ့အခါ ဦးနှောက်ထဲမှာ ဒီထိတ်လန့် တုန်လှုပ်မှု ဖြစ်သလား၊ ဒါမှ မဟုတ်ရင် ဟာဒယရုပ်ဝတ္ထုထဲမှာ ဖြစ်သလား။ တကယ်လို့ ချစ်ခင်ခြင်း၊ ကြင်နာခြင်းဆိုတဲ့ တရားဟာ ရုတ်တရက် ဖြစ်ပေါ်လာမယ်ဆိုရင်ကော ဦးနှောက်ထဲမှာ ဖြစ်ပေါ်လာသလား၊ ဟာဒယရုပ်ဝတ္ထုထဲမှာ ဖြစ်ပေါ်လာသလား။

ဖော့စတာ။ အမှန်အားဖြင့် ဟဒယရုပ်ဝတ္ထုထဲမှာဘဲ ဖြစ်ပေါ်လာပါတယ် ဆရာတော်။

ဆရာတော်။ တကယ်လို့ ဝမ်းမြောက်ရွှင်မြူးမှု ဖြစ်လာပြန်တော့ကော ဘယ်နေရာမှာ ဖြစ်ပေါ်လာသလဲ ဒကာကြီး။

ဖော့စတာ။ ဟဒယရုပ်ဝတ္ထုထဲမှာ ဖြစ်ပေါ်လာတယ်လို့ ထင်ပါတယ် ဆရာတော်။

ဆရာတော်။ တခါ ဒေါသအမျက် ထွက်လာပြန်တော့ကော ဘယ်နေရာမှာ ဖြစ်တယ်လို့ ထင်သလဲ ဒကာကြီး။

ဖော့စတာ။ ဟဒယရုပ်ဝတ္ထုထဲမှာဘဲ ဖြစ်ပွားတယ်လို့ ထင်ပါတယ် ဆရာတော်။

ဆရာတော်။ တကယ်လို့ အကြင်သူတဦးတယောက်ဟာ အခြားသူတဦးတယောက်ကို ချစ်ခင်ကြင်နာမိတဲ့အခါမှာ "ငါဟာ မင်းကို ဦးနှောက်ထဲက ချစ်တယ်"လို့ ပြောသလား၊ "အသဲနှလုံးထဲက ချစ်ခင်တယ်"လို့ ပြောသလား။

ဖော့စတာ။ အသဲနှလုံးထဲက ချစ်ခင်တယ်လို့ ပြောပါတယ် ဆရာတော်။

ဆရာတော်။ တကယ်လို့ မုန်းပြန်တော့ကော ဦးနှောက်ထဲက မုန်းတယ်လို့ ပြောသလား၊ အသဲနှလုံးထဲက မုန်းတယ်လို့ ပြောသလား။

ဖော့စတာ။ အသဲနှလုံးထဲက မုန်းတယ်လို့ဘဲ ပြောပါတယ် ဆရာတော်။

ဆရာတော်။ ကဲ အခု ဒကာကြီးပြောသလို ချစ်ခြင်း၊ မုန်းခြင်း၊ ဝမ်းမြောက်ခြင်း၊ ဒေါသဖြစ်ခြင်းစတဲ့ တရားတွေ

ဟာ အသဲနှလုံးထဲမှာ ဖြစ်ပွားတယ်လို့ ဆိုရင် ဒီဇ-ရားတွေဟာ ဦးနှောက်ထဲမှာ ဖြစ်တယ်လို့ ဆိုနိုင်ပါဦးမလား ဒကာကြီး။

ဖော့စတာ။ ဆရာတော် အခုလို ရှင်းလင်းဝေဖန်ပြလိုက်တဲ့အတွက် ဒီဝိညာဏ်တရားဟာ ဦးနှောက်ထဲမှာ စတင်ဖြစ်ပေါ်တာ မဟုတ်ဘဲ အသဲနှလုံးထဲမှသာ စတင်ဖြစ်ပွားတယ်လို့ တပည့်တော် သိမြင် သဘောပေါက်ပါပြီ ဆရာတော်။

ဆရာတော်။ ဒကာကြီးဟာ ဘယ်တရားမှာမဆို အရင်းခံ အကြောင်းတရားနှစ်ပါး ရှိတယ်ဆိုတဲ့ ဒွိတ္တဝါဒအဘိဓမ္မာကို လက်ခံရဲ့လား။

ဖော့စတာ။ သိပ္ပံပညာသည်တဦးအနေနှင့် လောကအတွင်း ရှိရှိသမျှသော သဘောတရားတို့တွင် အရင်းခံ အကြောင်းတရားနှစ်ပါးရှိတယ်ဆိုတဲ့ ဒွိတ္တဝါဒကိုတပည့်တော် ကောင်းကောင်းကြီး လက်ခံပါတယ် ဆရာတော်။

ဆရာတော်။ ခေတ်ဖိုနဲ့ခေတ်မ၊ တနည်းအားဖြင့် ရုပ်တရားနဲ့ နာမ်တရား မရှိဘဲနဲ့ ဘာတရားမျှ မဖြစ်ပွားနိုင်ဘူး ဆိုတာကိုကော သဘောတူရဲ့လား။

ဖော့စတာ။ ဒီသဘောတရားကိုလဲ တပည့်တော် သဘောတူပါတယ် ဆရာတော်။

ဆရာတော်။ ကဲဒီအချက်ကို သဘောကျ လက်ခံနိုင်လို့ရှိရင် ဒကာကြီးတို့ရဲ့ဆေးပညာက ဒီဝိညာဏခေတ်၊ တနည်းအားဖြင့် အသိဉာဏ်ပညာနဲ့ဆိုင်ရာရုပ်တရား၊ နာမ်တရားတို့ရဲ့သဘောကို လေ့လာစူးစမ်းပြီးအထင်အရှားရှင်းလင်းဖော်ထုတ်နိုင်ပြီလား။

ဖော့စတာ။ တိတိကျကျ အထင်အရှား မရှင်းလင်း မဖော်ထုတ်နိုင်သေးပါဘူး ဆရာတော်။

ဆရာတော်။ ဒါဖြင့် ဒကာကြီးတို့ဆေးပညာက နာမ်တရားနဲ့ ပတ်သက်လို့ တကယ်တမ်း ထိထိရောက်ရောက် မလေ့လာမဆုံးဖြတ်နိုင်သေးဘူးပေါ့။

ဖော့စတာ။ တကယ်တမ်း ပြည့်ပြည့်စုံစုံမလေ့လာ မစူးစမ်းရသေးဘူးလို့ဘဲ ဆိုရမှာပါ ဆရာတော်။

ဆရာတော်။ ဒါဖြင့် ဒကာကြီးတို့ရဲ့ ဆေးပညာက အသိဉာဏ်ပညာဟာ ဦးနှောက်ထဲမှ စတင်ဖြစ်ပွားတယ် ဆိုတာဟာ မှန်းဆချက်လောက်ဘဲ ရှိသေးတာပေါ့၊ တိတိကျကျ ကောက်ချက် တသတ်မချ မပြောနိုင်သေးဘူးပေါ့။

ဖော့စတာ။ ဒီသဘောဘဲ ဆိုက်နေတော့ဘာပေါ့ ဆရာတော်၊

ဆရာတော်။ သဗ္ဗညုတဉာဏ်တော်ကို ရရှိတော်မူပြီး ရှိရှိသမျှသော တရားစုတို့ကိုလဲ ယထာဘူတကျကျ သိမြင်ထားတော်မူတဲ့ ဗုဒ္ဓကိုယ်တော်မြတ်ဟာ ရုပ်တရား၊ နာမ်တရားတို့ကို ဖြစ်စဉ်၊ ပျက်စဉ် ဒီတရားနှစ်ပါးတို့ရဲ့ တပါးနဲ့တပါး ဆက်စပ်နေပုံ၊ အမှီသဟဲပြုနေပုံ စသည်တို့ကို အကြွင်းမဲ့ ဟောတော်မူထားခဲ့တယ်။ အဲဒီလို ဟောတော်မူခဲ့တဲ့ တရားတော်တွေထဲမှာ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ကိုယ်ခန္ဓာဆိုတဲ့ တရားတွေနဲ့ ဒီတရားတွေနဲ့ တွေ့ထိရိုက်ခပ်တဲ့အဆင်း၊ အသံ၊ အနံ့၊ အရသာနဲ့ ရုပ်ဝတ္ထုဆိုတဲ့ တရားတွေဟာ ရုပ်တရားဖြစ်ပြီး ဒီတရားတွေ အချင်းချင်း တွေ့ထိရိုက်ခပ်လို့ ပေါ်ပေါက်လာတဲ့ အသိဉာဏ်ဆိုတဲ့ နာမ်တရားတွေဟာ ဟဒယအိမ်မှာ ဖြစ်ပေါ်လာတယ်လို့ အတိအလင်း ပါရှိတယ်။ ဒီအသိတရားဟာ ဟဒယနှလုံးအိမ်မှာ ဖြစ်ပေါ်လိုက်၊ ချုပ်ငြိမ်းလိုက်နဲ့ အဆက်မပြတ်

နေ့အလယ်ဥဲစီးသလို ဖြစ်နေတဲ့တရားဘဲ။ ဝိပဿနာဉာဏ်နဲ့ ကျကျနန ရှုနိုင်မှ ဒီသဘာဝကို မြင်နိုင်တယ်။

ယခင် ဒကာကြီးရဲ့ မေးခွန်းကို ဦးပဥ္စင်း ဖြေဆိုခဲ့စဉ်က အသိပညာဆိုတာ လူ့ရဲ့ခန္ဓာကိုယ်အတွင်း ဘယ်အစိတ်အပိုင်း ထဲမှာမှ သိုလှောင်ထားတာ မရှိဘူး။ မီးတောက်ဟာ မီးခြစ် ဆံထဲမှာရော မီးခြစ်ဘူးပေါ်မှာ ကပ်ထားတဲ့ ယမ်းပြားထဲမှာ ပါ မရှိသလိုဘဲ အသိဉာဏ်ဆိုတာကလဲ မီးခြစ်ဆံနဲ့ ယမ်းပြား ကို ခြစ်လိုက်မှ မီးတောက် ပေါ်လာသလို အထက်ကပြောခဲ့တဲ့ မျက်စိ၊ နား၊ နှာခေါင်း၊ လျှာဆိုတဲ့ တရားတွေနဲ့ အပြင်အပမှ ရုပ်ဝတ္ထုတို့ရဲ့ ရိုက်ခပ်မှုမှ ဟဒယဝတ္ထုဆိုတဲ့ နှလုံးအိမ်မှာ ဖြစ်ပေါ်လာရတဲ့ တရားဖြစ်တယ် ဒကာကြီး။

အဲဒီတော့ အသိဉာဏ်ပညာဟာ ဦးနှောက်ထဲမှာ ဖြစ်ပွား လာရတဲ့တရား မဟုတ်ဘဲ ဟဒယရုပ်ဝတ္ထုဆိုတဲ့ နှလုံးအိမ်ထဲ မှာသာဖြစ်ပွားလာရတယ်ဆိုတဲ့ အချက်ကို ဒကာကြီး သဘော ပေါက် လက်ခံနိုင်ပြီလား။

ဖေ့စတာ။ ဆရာတော် ယခု ရှင်းလင်းပြောပြတော်မူ လိုက်တဲ့အတွက် အသိဉာဏ်ပညာဟာ ဦးနှောက်ထဲမှာ စတင် ဖြစ်ပေါ်လာရတယ်ဆိုတဲ့ မှန်းဆချက်ကို တပည့်တော် ပယ်နိုင် ပြီး အသိဉာဏ်ပညာဟာ ဆရာတော် အမိန့်ရှိတော်မူတဲ့အတိုင်း ဟဒယဝတ္ထုထဲမှာ ဖြစ်ပွားရတယ်ဆိုတဲ့အချက်ကို သဘော ပေါက်ပါပြီ။ ဒီပြဿနာနဲ့ပတ်သက်လို့ တပည့်တော်တို့အား ယခုလို ရှင်းလင်း ဟောပြတော်မူတဲ့အတွက် ပရိသတ်ရဲ့ကိုယ် စား ကျေးဇူးတင်လှပါတယ် ဆရာတော်။

ဤတွင် ပရိသတ်က သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၆။

ဗုဒ္ဓဝါဒသည် ခေတ်သစ်သိပ္ပံပညာထက်ပင် မြင့်မားသည်ဟု အဘယ်ကဲ့သို့သော အထောက်အထား သက်သေသာဓကတို့ဖြင့် ပြောနိုင်ပါသနည်း ဆရာတော်။

(မေးမြန်းလျှောက်ထားသူ မစ္စတာရော်၊ အယ်(မ်)ဖော့စတာ၊ အယ်(မ်)အေ၊ အယ်(မ်)အက်စီ၊ ဘုံဘိုင်တက္ကသိုလ် သိပ္ပံပညာပါမောက္ခ၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဓမ္မ။)

**ဆရာတော် အရှင်အရိယဓမ္မ။** ဗုဒ္ဓဝါဒဆိုတဲ့ တရားထဲမှာ သမန်လူသားတို့ရဲ့ အတွေ့အကြုံမှုသာ မဟုတ်ဘဲ ကနေ့ အနောက်ခြမ်း သိပ္ပံပညာက မချဉ်းကပ်နိုင်၊ မချဉ်းကပ်ဝံ့တဲ့ အလွန်မြင့်မားလှတဲ့ အတွေ့အကြုံသဘောတရားတွေပါ ပါဝင်နေလေတော့ ဒီဝါဒဟာ အတော့်ကို ကျယ်ပြန့်လှပါတယ်။ စမ်းသပ်ချက်မှု၊ အတွေ့အကြုံမှုဆိုတဲ့ တရားတွေပေါ်မှာ အခြေတည်ပြီး တစုံတခုသော ရထားချက်တို့မှ ကောက်နုတ်ထားတဲ့ တရားသေ အယူအဆများ၊ အရမ်းအကန်း ယုံကြည်မှုများကို စုစည်းထားတဲ့ ဒေသနာမျိုး မဟုတ်ဘဲ ဥပ္ပာဒ-ဝယ ဖြစ်ခြင်း၊ ပျက်ခြင်းဆိုတဲ့ ပဓာနဥပဒေသပေါ်မှာ အခြေတည်ပြီး စကြာဝဠာတခုလုံးအတွင်း ဖြစ်ပျက်နေကြတဲ့ ရုပ်၊ နာမ်၊ ဝိညာဉ် တရား အစုစုကို တခုမကျန်အကြွင်းမဲ့ သိမြင်နိုင်သည့်သဗ္ဗညုတ ရွှေဉာဏ်တော်ရှင် ဗုဒ္ဓကိုယ်တော်မြတ်က ရှင်းလင်းထုတ်ဖော် ဟောပြောတော်မူခဲ့တဲ့ ဒေသနာတော်မြတ် ဖြစ်တယ် ဒကာကြီးရဲ့။

ဖော့စတာ။ မှန်ပါ ဆရာတော်။

ဆရာတော်။ တဖက်ကကြည့်ရင် ခေတ်သစ် သိပ္ပံပညာဟာ များပြားလှတဲ့ သိပ္ပံပညာရှင်တွေ၊ အဘိဓမ္မာဆရာတွေက ရုပ်လောကကြီးအပေါ်မှာ စမ်းသပ်၊ စူးစမ်း၊ လေ့လာလို့ ရသမျှ အချက်တွေပေါ် မူတည်ပြီး ထူထောင်ထားတဲ့ ပညာတရပ်ဖြစ်တယ်။ အဲဒီလူစုထဲမှာ ခရစ်မပေါ်မီ သက္ကရာဇ် ၅၄၆၊ တနည်းအားဖြင့် လွန်ခဲ့တဲ့နှစ်ပေါင်း(၂၅၀၀)ကျော်လောက်က ဂရိတ်ပြည်မှာ ထွန်းကားခဲ့ဘူးတဲ့ သေး(လ်)(စ်)ဆိုတဲ့ အဘိဓမ္မာဆရာကြီးဟာ ပထမဦးဆုံးဘဲ။ သူဟာ မီးကျည်းခဲမှ မီးဖြစ်တာကို ကြည့်ပြီးလျှင် လျှပ်စစ်ဓာတ်သဘောကို စတင်မှန်းဆကြည့်ခဲ့တယ်။ ပြီးတော့ ရှိရှိသမျှသော ရုပ်ဝတ္ထုတွေရဲ့ မဟာဘုတ်တရားဟာ ရေနဲ့လေ ဖြစ်တယ်လို့ ဖော်ထုတ် ဟော ပြောခဲ့တယ်။ အဲဒီကစပြီး အနုမြူဓာတ်ကို ဖော်ထုတ်ပြန်တယ်။ သူ့နောက်မှ သိပ္ပံပညာရှင်တွေနဲ့ အဘိဓမ္မာဆရာတွေက သူ့ရဲ့ တွေ့ရှိမှန်းဆချက်ပေါ် အခြေတည်ပြီး စမ်းသပ်လေ့လာကြပြန်တယ်။ ခေတ်သစ်သိပ္ပံပညာဟာ အခု တိုးတက်တဲ့အဆင့်ကို ရောက်နေပြီလို့ ဆိုတာတောင်မှ မပြည့်စုံသေးဘူး။ လျှပ်စစ်ဓာတ်အားနဲ့ သတ္တိတို့ရဲ့ မူလဘူတတရားကို မပြောပြနိုင်သေးဘူး။ ဒါတင်မကသေးဘူး၊ ဗုဒ္ဓဝါဒလို စိတ်နဲ့ပတ်သက်တဲ့ အခန်းမှာ တကယ်တမ်း နက်နက်နဲနဲ စူးစူးရှရှ မတွေ့မြင်နိုင်သေးဘူး။ ဒါကြောင့် ဗုဒ္ဓဝါဒဟာ ပြီးပြည့်စုံတဲ့ တရားတခုသာ ဖြစ်တဲ့အပြင် ရုပ်တရား၊ နာမ်တရားတို့နဲ့ ပတ်သက်လို့လဲ ကျကျနန အကြွင်းမဲ့ သိမြင်ထားတဲ့တရားဖြစ်တဲ့အတွက် ခေတ်သစ်သိပ္ပံပညာထက် မြင့်မားတယ်လို့ ဦးပဉ္ဇင်းက အခိုင်အမာ ပြောဆိုရခြင်းဖြစ်တယ် ဒကာကြီး။

ဖော့စတာ။ ဆရာတော် အခုအမိန့်ရှိတဲ့စကားဟာ အဘိဓမ္မာသဘောနဲ့ကြည့်ရင် ကျိုးကြောင်းယုတ္တိနဲ့ ပြည့်စုံတဲ့ လက္ခဏာရှိသော်လဲ ခေတ်သစ်သိပ္ပံပညာထက် ဗုဒ္ဓဝါဒက မြင့်မြတ်တယ်ဆိုတဲ့အချက်ကို တပည့်တော်တို့ ကြားနာလိုပါတယ် ဆရာတော်။ ဒါကြောင့် အခုခေတ် သိပ္ပံပညာရှင်တွေ၊ ပါမောက္ခတွေရဲ့ မျက်မှောက်မှာ ဆရာတော် ယခု ရဲရဲငံ့ငံ့ကြီး မိန့်တော်မူလိုက်တဲ့ "ယနေ့ ကမ္ဘာတဝှမ်းလုံးက အသိအမှတ်ပြုထားတဲ့ ခေတ်သစ်သိပ္ပံပညာထက် ဗုဒ္ဓဝါဒက မြင့်မြတ်တယ်၊ သာလွန်ကျယ်ပြန့် နက်နဲတယ်" ဆိုတဲ့စကားကို ခိုင်လုံထင်ရှားစေတဲ့ သာဓကတရပ်ကို မိန့်တော်မူပါလို့ တောင်းပန်ပါရစေ ဆရာတော်။

ဆရာတော်။ ဒါဖြင့်ရင် ဒကာကြီးကို ရူပဗေဒနဲ့ပတ်သက်လို့ ဦးပဥ္စင်း မေးလိုတယ်။

ဖော့စတာ။ မေးတော်မူပါ ဆရာတော်။

ဆရာတော်။ လျှပ်စစ်ဓာတ်ဟာ ဘယ်လိုသဘော ဖြစ်တယ်ဆိုတာ တိတိကျကျ ဖြေစမ်းပါ ဒကာကြီး။

ဤကဲ့သို့ မေးလိုက်သောအခါ ပါမောက္ခ မစ္စတာဖော့စတာ အပါအဝင် ဘုံဘိုင်တက္ကသိုလ်မှ ပညာရှင်များနှင့် ကျောင်းသားများသည် တဦးမျက်နှာကိုတဦး ကြည့်ကြပြီး (၅)မိနစ်မျှ အံ့အားသင့်ကာ ဘာမျှ မဖြေဆိုနိုင်ကြဘဲ ငိုင်သွားကြပါသည်။ ထိုအခါ

ဆရာတော်။ ကဲ ဒကာကြီးတို့ ဘယ်သူမှ မဖြေနိုင်ကြပါကလား၊ (၅)မိနစ်တောင် ရှိသွားပြီ။ ဒကာကြီးရဲ့တပည့်တွေ မပြောထားနဲ့ ဒကာကြီးကိုယ်တိုင်ကပင် ဘာအဖြေမျှ မပေး

နိုင်ဘဲ ဖြစ်နေပြီ။ အဲဒီတော့ ဦးပဉ္ဇင်းရဲ့မေးခွန်းကို ဦးပဉ္ဇင်း ကိုယ်တိုင်ဘဲ ဗုဒ္ဓကိုယ်တိုင် ဟောတော်မူခဲ့တဲ့ တရားတော်နဲ့ အညီ ဗုဒ္ဓဒေသနာတော်ကို အခြေခံသွားပြီး ပြန်ဖြေရပါပေါ့။ ဦးပဉ္ဇင်းရဲ့ အဖြေကို ဒကာကြီးတို့အားလုံးက ဝိုင်းဝန်းပြီး ဝေဖန်ဘို့ရန်လဲ ဦးပဉ္ဇင်းက တောင်းပန်လိုတယ်။

ဖော့စတာ။ ဆရာတော် အခုမေးလိုက်တဲ့ မေးခွန်းကို တပည့်တော်တို့သာ မဟုတ်ပါ၊ သိပ္ပံပညာရှင်ထိပ်သီးတွေ တောင် ဖြေနိုင်ဘို့ရာ အကြောင်းမရှိပါဘူး ဘုရား။ အဲဒီတော့ ဆရာတော်ကိုယ်တိုင်ဘဲ ဆရာတော်ရဲ့မေးခွန်းကို ပြန်ပြီးဖြေပြ တော်မူပါ။ တပည့်တော်များ ကျကျနန မှတ်သားထား ပါရစေ။

ဆရာတော်။ ကဲ ဦးပဉ္ဇင်း ပြောခဲ့ အချက်တွေကို ဒကာကြီး ကျကျနနသာ မှတ်သားထားပေတော့။ လျှပ်စစ်ဓာတ်ဟာ အမှန်အားဖြင့် (၁)မြေ၊ (၂)ရေ၊ (၃)မီး၊ (၄)လေဆိုတဲ့ ဓာတ်ကြီး(၄)ပါးတို့ ဖွဲ့စည်းထားတဲ့ဓာတ်ဘဲ။ ဒီဓာတ်ကြီး(၄) ပါး မပါဘဲနဲ့ ဘယ်ရုပ်ဝတ္ထုမျှ မဖြစ်ပေါ်နိုင်ဘူး။ အခု ဦးပဉ္ဇင်းပြောတဲ့ အချက်ဟာ မှန်မမှန် အခု လက်တွေ့သဘော နဲ့ ဆန်းစစ်ကြည့်ရင် ဖြစ်ပါသယ်။ လျှပ်စစ်ဓာတ်ကို လက်နဲ့ တို့ကြည့်ရင် ချောမွေ့တဲ့ သဘောကို တွေ့ရလိမ့်မယ်။ အဲဒီ ချောမွေ့တဲ့သဘောနဲ့ တွေ့ထိတဲ့သဘောဟာ မြေ(ပထဝီ)ဓာတ် ရဲ့ သဘောဘဲ။ နောက်သတ္တိတခုကတော့ လျှပ်စစ်ဓာတ်မှာ အသွင်သဏ္ဌာန် ရှိတယ်။ အဲဒီအသွင်သဏ္ဌာန်ဟာ ရေ(အာ ပေါ) ဓာတ် သဘောဘဲ။ ဒီ ရေ(အာပေါ)ဓာတ် မပါဘဲနှင့် ဘယ်ရုပ်ဝတ္ထုမျှ အသွင်သဏ္ဌာန် မရှိဘူး။ နောက်သတ္တိတခု

ကတော့ အဲဒီ လျှပ်စစ်ဓာတ်ကို စမ်းသပ်ကြည့်ရင် ပူတာကို တွေ့ရလိမ့်မယ်။ အဲဒီပူတာဟာ မီး (တေဇော)ဓာတ်ရဲ့ သတ္တိဘဲ။ ဒီ တေဇောဓာတ် မပါဘဲနှင့် ဘယ်ရုပ်ဝတ္ထုမျှ မပူနိုင်ဘူး။ နောက်သတ္တိတခုကတော့ လျှပ်စစ်ဓာတ်ဟာ ဖြောင့်တန်းနေတဲ့ သဘောဘဲ။ ဒီလို ဖြောင့်တန်းနေတာဟာ လေ(ဝါယော) ဓာတ်ရဲ့ သတ္တိဘဲ။ ဒီ လေဓာတ်မပါရင် ဘယ်နည်းနဲ့မျှ ဖြောင့်တန်းမနေနိုင်ဘူး။ ဒါကိုကြည့်ခြင်းအားဖြင့် လျှပ်စစ်ဓာတ်ဟာ ရေ၊ မြေ၊ လေ၊ မီး ဆိုတဲ့ ဓာတ်ကြီးလေးပါးတို့ ဖွဲ့စည်းသားတာ ဖြစ်တယ်ဆိုတာကို ဘယ်သူမျှ မငြင်းနိုင်ဘူး။ ငြင်းလဲငြင်းလို့ မဖြစ်ဘူး။ ဒီအချက်ကို ဒကာကြီးတို့က လက်မခံနိုင်ဘူးဆိုတာကို ခိုင်လုံတဲ့အကြောင်းပြချက်နဲ့ ပြောနိုင်ပါတယ်။

ဖော့စတာ။ ဆရာတော် အခုအမိန့်ရှိတော်မူလိုက်တဲ့ လျှပ်စစ်ဓာတ်ရဲ့သဘောနဲ့ သတ္တိရယ်၊ ဒီလျှပ်စစ်ဓာတ်ထဲမှာ ဓာတ်ကြီးလေးပါး ပါဝင်နေတယ်ဆိုတဲ့ အချက်ရယ် ဒီအချက်တွေဟာ အလွန်ထင်ရှား ရှင်းလင်းလှတဲ့အတွက် တပည့်တော်တို့ မငြင်းနိုင်ပါဘူး ဆရာတော်။ ဒီအချက်ကို တပည့်တော်တို့ ကောင်းစွာ မှတ်တမ်းတင်ထားပါတယ် ဘုရား။

ဆရာတော်။ လျှပ်စစ်ဓာတ်နဲ့ ပတ်သက်လို့ ဦးပဥ္ဇင်း ပြောပြတဲ့ အချက်ကို သဘောကျတယ်၊ လက်ခံတယ်ဆိုရင် ဦးပဥ္ဇင်းက ဒကာကြီးကို နောက်ထပ် မေးခွန်းတခု မေးရအုံးမယ်။ ဒကာကြီး ကျကျနန နားထောင်ပြီး ဖြေစမ်းပါအုံး။

ဖော့စတာ။ မှန်ပါ၊ ဖြေပါ့မယ် ဆရာတော်၊ မေးတော်မူပါ။

ဆရာတော်၊ အခုမျက်နှာကျက်ပေါ်မှာ ကြည့်ရင် သိပ္ပံပညာဟာ အားလုံးကို ဖန်တီးနိုင်တယ်။ အခု မှောင်နေရာက

လင်းစေချင်ရင် တခါထဲ ခလုပ်ကလေးကို နှိပ်လိုက်ရုံနဲ့ လင်းသွားတာဘဲ။ အထက်ကို တက်ချင်ရင်လဲ လျှပ်စစ်ဓါတ်လှေကားထဲမှာ ခလုပ်ကလေးတခုကို နှိပ်လိုက်ရုံနဲ့ တက်သွားနိုင်တယ်။ နေရာတခုက အခြားဝေးလံတဲ့ နေရာတခုကို သွားချင်ရင်လဲ မောင်းသူမပါတဲ့ ဓါတ်ရထားနဲ့ သွားနိုင်တယ်။ မိုင်ပေါင်း ထောင်သောင်းမက ဝေးလံလှတဲ့ အရပ်ဒေသမှာ ရှိတဲ့လူကို လှမ်းပြီး စကားပြောချင်ရင်လဲ ပြောနိုင်တယ်။ ကခုန်ကစားနေကြတဲ့ လူတွေကို ကြည့်ချင်ရင်လဲ မြင်နိုင်တယ်။ မိုင်ပေါင်း သောင်းနဲ့ချီပြီး ကွာဝေးတဲ့ ဒေသက တစုံတယောက် သီချင်းဆိုသံ၊ တီးသံကို နားထောင်ချင်ရင်လဲ နားထောင်နိုင်တယ်။ အလွန်အေးမြတဲ့ ရာသီဥတုရှိတဲ့ နေရာဒေသတခုကို နွေးအောင်လဲ လုပ်နိုင်တယ်။ မိုးရွာအောင်လဲ လုပ်နိုင်တယ်။ မိုးကိုလဲ ထစ်ချုန်းအောင် လုပ်နိုင်တယ်။ ပင်လယ်ရေပြင်ကိုလဲ ပွက်ပွက်ဆူအောင် လုပ်နိုင်တယ်။ ရှိရှိသမျှ ရုပ်ဝတ္ထုတွေကို သေမင်းရောင်ခြည်နဲ့ ထိုးပြီး ပြာကျအောင် လုပ်နိုင်တယ်။ အို အဆုံးသပ်ပြောရရင် ခေတ်သစ်သိပ္ပံပညာဟာ ထာဝရဘုရားသခင်ထက်တောင် တန်ခိုးပြာဋိဟာ ပြနိုင်သေးတယ် မဟုတ်လား ဒကာကြီး။

ဝေ့စတာ။ မှန်ပါ ဆရာတော်။

ဆရာတော်။ အဲဒီလောက် အစွမ်းထက်မြက်တဲ့ ဒကာကြီးတို့ရဲ့ သိပ္ပံပညာဟာ အလွန်ဆိုးသွမ်း ကြမ်းတမ်း ယုတ်မာတဲ့ လူတယောက်ကို တခါတည်းနဲ့ လူကောင်းသူကောင်းတယောက်ဖြစ်အောင် ပြုပြင် ဖန်တီးပေးနိုင်ပါ့မလား။

ဖော့စတာ။ သိပ္ပံပညာဟာ သက်ရှိသတ္တဝါတွေအပေါ်မှာ ဘာမျှ မလွှမ်းမိုးနိုင်ပါဘူး ဆရာတော်။ ဒါကြောင့် လူဆိုးလူသွမ်း လူကြမ်းတယောက်ကို သိမ်မွေ့နူးညံ့ပြီး လူကောင်းတယောက် ဖြစ်လာအောင် မဖန်တီးနိုင်ပါဘူး ဆရာတော်။

ဆရာတော်။ ကဲ အခုလို သိပ္ပံပညာက လူဆိုးလူသွမ်းကို လူကောင်းသူကောင်းဖြစ်အောင် မပြုပြင် မပြောင်းလဲနိုင်ရင် သိပ္ပံပညာဟာ ဗုဒ္ဓဝါဒလောက် မထက်မြက်ကြောင်း၊ တနည်းအားဖြင့် ဗုဒ္ဓဝါဒဟာ သိပ္ပံပညာထက် ပိုပြီး မြင့်မြတ်ကြောင်း ထင်ရှားပြန်ပြီ။ ဘာပြုလို့လဲဆိုတော့ ဗုဒ္ဓဝါဒဟာ ဆိုးသွမ်းရုန့်ရင်းလှတဲ့လူတွေကို နူးညံ့ပျော့ပျောင်းပြီး လူကောင်းသူကောင်းဖြစ်အောင် ပြုပြင်ပြောင်းလဲပေးနိုင်ရုံတင် မကဘူး၊ ပြဟ္မာတွေ၊ နတ်တွေကိုရော လူသားထက်ပင် ခိုက်မဲခက်ထန်လှတဲ့ နဂါးတွေ၊ ဘီလူးတွေ၊ ယက္ခတွေကို ပျော့ပျောင်းနူးညံ့ပြီး သီလ၊ သမာဓိတည်ဆောက်လာချင်အောင် သွန်သင်ဆုံးမနိုင်တယ်။ ကဲ ဒကာကြီးကိုနောက်ထပ်မေးခွန်းတခုမေးရဦးမယ်။

ဂရိတ် အဘိဓမ္မာဆရာကြီး သေး(လ်)(စ်)က စပြီးတော့ ယခုခေတ် သိပ္ပံပညာရှင်တို့ ဖြစ်ကြတဲ့ ဆာဂျုံး(န်)(စ်)တို့၊ မက်လီကန်တို့အထိ ဘယ်သိပ္ပံပညာရှင်များက သိပ္ပံနဲ့ဆိုင်ရာ အစွမ်းသတ္တိဟာ ဘယ်အပေါ်မှာ အခြေတည်ထားသလဲ။ ဒါမှမဟုတ်ရင်လဲ ဒီလို ကမ္ဘာမှာ ကြီးစိုးလွှမ်းမိုးနေတဲ့ သိပ္ပံပညာရပ်ရဲ့ အဓိကအကြောင်းရင်းဟာ ဘာလဲဆိုတဲ့အချက်ကို ရှင်းလင်းဖော်ပြနိုင်ခဲ့ပါသလဲ။

ဖော့စတာ။ သိပ္ပံပညာဟာ သဘာဝမှာ ဖြစ်ပျက်နေကြတဲ့ အတွေ့အကြုံနဲ့ ရာစုခေတ်အနည်းငယ်အတွင်း လူတွေရဲ့လက်

ခတ္တ စူးစမ်းလေ့လာချက်တို့အပေါ်မှာ အခြေတည်ထားတဲ့ ပညာရပ် ဖြစ်လေတော့ တပည့်တော်တို့ဟာ သိပ္ပံနဲ့ဆိုင်ရာ အစွမ်းသတ္တိဟာ ဘယ်အပေါ်မှာ အခြေတည်နေတယ်ဆိုတာကို ရှင်းလင်းမပြနိုင်ဘဲ ဖြစ်နေပါတယ် ဆရာတော်။ ဒါတင်မကဘူး၊ ဒီ သိပ္ပံပညာရပ်ရဲ့ အဓိကအကြောင်းဟာ ဘာလဲဆိုတဲ့ အချက်ကိုလဲ မရှင်းလင်းနိုင်ကြပါဘူး ဆရာတော်။

ဆရာတော်။ ကဲ ဒါဖြင့်ရင် သိပ္ပံရဲ့ အစွမ်းသတ္တိတို့နဲ့ဆိုင်ရာ အဓိက အကြောင်းတရားတို့ကို ဗုဒ္ဓရဲ့အဘိဓမ္မာသဘောအရ ရှင်းပြမယ်။ ဒကာကြီးတို့ သေသေချာချာ ဂရုစိုက် နားထောင်ကြပြီး ဝေဖန်စရာရှိရင်လဲ ဝေဖန်ကြပေါ့။ မရှင်းလင်းတဲ့ အချက်များ ရှိရင်လဲ မေးကြပေါ့။

သဗ္ဗညုတဉာဏ်တော်ရှင် ဗုဒ္ဓရဲ့ အဘိဓမ္မာထဲမှာ ရှင်းလင်းဟောပြထားတော်မူတဲ့အတိုင်း ပြောရမယ်ဆိုရင် သိပ္ပံရဲ့ ထင်ရှားတဲ့ အစွမ်းသတ္တိဟာ (၁၆)ပါး ရှိတယ်။ ဘာတွေလဲဆိုရင်-

(၁) မာကြောခြင်း၊ (၂) နူးညံ့ခြင်း၊ (၃) ဖွဲ့စည်းခြင်း၊ (၄) ယိုစီးခြင်း၊ (၅) ပူခြင်း၊ (၆) ချေခြင်း၊ (၇) အားထုတ်ခြင်း၊ (၈) တွန်းကန်ခြင်း၊ (၉) လှုပ်ရှားခြင်း၊ (၁၀) ရုန်းကန်ခြင်း၊ (၁၁) ရုပ်သဏ္ဍာန်ပေါ်ခြင်း၊ (၁၂) အရောင်အဆင်းရှိခြင်း၊ (၁၃) အနံ့ရှိခြင်း၊ (၁၄) အရသာရှိခြင်း၊ (၁၅) သြဇာဓာတ်ဖြစ်ခြင်း၊ (၁၆) ကြေညက်ခြင်း၊ ဒါတွေဟာ တစ်ခုနဲ့တစ်ခု ခွဲခြားလို့မရတဲ့ ပေါင်းစပ်ဖွဲ့စည်းနေကြတဲ့ ဓာတ်ကြီး(၄)ပါးမှ ပေါ်ပေါက်လာကြရတဲ့ ဂုဏ်သတ္တိတွေပဲ။ ဒီဂုဏ်သတ္တိတွေကို သူ့အစုနဲ့သူ အကြောင်းရင်းကို ရှာမယ်ဆိုရင်လဲ မာကြောခြင်းနဲ့ နူးညံ့ခြင်းတို့ဟာ ပထဝီ

ဓာတ်ရဲ့သတ္တိဘဲ။ ဖွဲ့စည်းခြင်းနဲ့ ယိုစီးခြင်းဟာ အာပေါဓာတ်ရဲ့သတ္တိဘဲ။ ပူခြင်းနဲ့ အေးခြင်းဟာ တေဇောဓာတ်ရဲ့ သတ္တိဘဲ။ တွန်းကန်ခြင်း၊ လှုပ်ရှားခြင်း၊ ရုန်းကန်ခြင်းတို့ဟာ ဝါယောဓာတ်ရဲ့ သတ္တိဘဲ။ ဒီဓာတ်ကြီးလေးပါးဟာ မဟာဘုတ်ကြီးလေးပါးဘဲ။

အဲဒီ မဟာဘုတ်ဓာတ်ကြီး (၄) ပါးပေါ်မှာ လုံးလုံး အမှီပြုပြီး ဖြစ်ပွားရတဲ့ ဥပါဒါရုပ်(၄)ပါး ရှိသေးတယ်။ အထက်က ပြောခဲ့တဲ့ ရုပ်သဏ္ဌာန် ဖြစ်ပေါ်ခြင်းနဲ့ အရောင်အဆင်းရှိခြင်းဆိုတာက (၁) ဝဏ္ဏရုပ်ရဲ့ သတ္တိဘဲ။ အနံ့ရှိခြင်းဆိုတာက (၂) ဂန္ဓရုပ်ရဲ့သတ္တိဘဲ။ အရသာရှိခြင်းဆိုတာက (၃) ရသရုပ်ရဲ့ သတ္တိဘဲ။ သြဇာဓာတ်ဖြစ်ခြင်းနဲ့ ကြွေညက်ခြင်းဆိုတာက (၄) သြဇာရုပ်ရဲ့သတ္တိဘဲ။

(၁) ပထဝီ၊ (၂) အာပေါ၊ (၃)တေဇော၊ (၄)ဝါယော၊ (၅) ဝဏ္ဏ၊ (၆) ဂန္ဓ၊ (၇) ရသ၊ (၈) သြဇာဆိုတဲ့ ဒီရုပ် (၈)ပါး မရှိဘဲနဲ့ ဒီစကြာဝဠာကြီးလဲ မဖြစ်လာနိုင်ဘူး။ စကြာဝဠာကြီးအတွင်းမှာရှိတဲ့ သက်ရှိသက်မဲ့ ရုပ်ဝတ္ထုတွေလဲ မဖြစ်ပေါ်နိုင်ဘူး။ ဘာသတ္တိမျှလဲ မပေါ်ပေါက်နိုင်ဘူး။ ဖြစ်ပေါ်ခြင်း၊ အိုမင်းဟောင်းနွမ်းခြင်း၊ ပျက်သုဉ်းခြင်းဆိုတာ ဒီအဋ္ဌကလာပ်ရုပ်ကြီး(၈)ခုတို့ရဲ့ မူလဗီဇက ပါလာတဲ့ သတ္တိတွေဘဲ။

ရူပဗေဒ၊ ဓာတုဗေဒ၊ နက္ခတ္တဗေဒ၊ ပထဝီဗေဒ အစရှိတဲ့ ရုပ်ဝတ္ထုတွေနဲ့ဆိုင်ရာ သိပ္ပံပညာတရပ်လုံးကို ဖြစ်ပွားစေတဲ့ အဓိကအကြောင်းရင်းတွေဟာ သဘာဝဓမ္မနဲ့ စိတ်တို့ ပေါင်းစပ်ထားတဲ့ သမုဋ္ဌာန် (၄)ပါးဘဲ။ စကြာဝဠာကြီးတခုလုံးဟာ ဒီသမုဋ္ဌာန် (၄)ပါးပေါ်မှာ အခြေတည်ပြီး ဖြစ်ပေါ်ရတာဘဲ။

ဒီသမုဒ္ဒာန်(၄)ပါးရဲ့နောက်ကွယ်မှာဘယ်ထာဝရဘုရားသခင်၊ ဘယ်ဖန်ဆင်းရှင်မှ မရှိဘူး ဒကာကြီး။ ဒါပေမဲ့ သိပ္ပံပညာရှင်တွေက ''စကြာဝဠာကြီးတခုလုံးကို ဝိဉာဏ်တော်က ဖန်ဆင်းတယ်''ဆိုပြီး လက်ခံယုံကြည်နေကြတယ်။ ဒကာကြီးတို့လူစုဟာ ပညာဉာဏ်ရင့်သန်ပြီးသားပုဂ္ဂိုလ်တွေဆိုတော့ ဦးပဥ္ဇင်းအခု အကျဉ်းချုပ် ရှင်းပြတဲ့အချက်ကို နားလည် သဘောပေါက်လိမ့်မယ်လို့ ယူဆထားပါတယ်။

ကံ၊ စိတ်၊ ဥတု၊ အာဟာရဆိုတဲ့ သမုဒ္ဒာန်လေးပါးဟာ ကမ္ဘာလောကကြီးမှာ ယနေ့ထွန်းကားနေတဲ့ သိပ္ပံပညာဆိုင်ရာ ရုပ်သတ္တိတွေရဲ့ အဓိက အကြောင်းရင်းတွေဘဲ။ သိပ္ပံပညာဟာ သတ္တဗီဇကလာပ်တွေပေါ်မှာ မူတည်ပြီး လက်တွေ့လေ့လာစူးစမ်းချက်တွေကို လုပ်ကိုင်ရတယ်ဆိုတာ ဘယ်သူမျှ ငြင်းဆိုနိုင်တဲ့အချက်တွေ မဟုတ်ဖူးဆိုတာကတော့ မှန်ပါတယ်။ ဒါပေမဲ့ ဒီသတ္တဗီဇကလာပ်တွေဟာဥတုသမုဒ္ဒာန်ဆိုတဲ့ပူမှု၊ မှုရဲ့ ပြုပြင်ပြောင်းလဲမှု မရှိဘဲနဲ့ မတည်မြဲနိုင်ဘူး၊ မရင့်ကျက်နိုင်ဘူး။

နောက်တခုက ဒီသတ္တဗီဇကလာပ်တွေကို ဘယ်လိုဘဲ ပူမှု၊ အေးမှုဆိုတဲ့ ဥတုက ပြုပြင်ပြုပြင်ပြီး ကြီးထွားအောင်၊ ပျက်သုဉ်းအောင်လုပ်လုပ် သိပ္ပံပညာရှင်တို့ရဲ့ စိတ်ဓာတ်နဲ့ အသိပညာဆိုတဲ့ နာမ်သတ္တိ၊ နာမ်အစွမ်းမပါဘဲ သိပ္ပံပညာဟာ ထွန်းကားတိုးတက်မလာနိုင်ဘူး။ ယနေ့ကမ္ဘာမှာ အံ့မခန်း တွန်းကားနေတဲ့ သိပ္ပံပညာရပ်ရဲ့ အစွမ်းသတ္တိတွေလဲ ပေါ်ပေါက်မလာနိုင်ဘူး ဒကာကြီး။

အဲဒီလို သိပ္ပံပညာရှင်တွေဟာ သူတို့ရဲ့ စိတ်တန်ခိုး၊ စိတ်ရဲ့သတ္တိ တနည်းအားဖြင့်ဆိုလျှင် သိပ္ပံပညာရှင်ရဲ့ အသိဉာဏ်

ပညာနဲ့ ဒီသိပ္ပံပညာဆိုင်ရာ အစွမ်းသတ္တိတွေကို စမ်းသပ် ဖော်ထုတ်နိုင်တာကို မသိမမြင်ကြဘဲ ဒီအစွမ်းသတ္တိကို "မဟာဝိညာဏ်တော်"သို့မဟုတ် "မဟာနာမ်တော်"က ဖန်ဆင်းတော်မူလို့ ဖြစ်ပေါ်လာရတယ်လို့ အထင်အမြင် အယူအဆ မှားနေကြတယ်။ ဒီလို အထင်အမြင် အယူအဆ မှားတာတွေဟာ သိပ္ပံပညာရှင်တွေက လောကမှာ ရှိရှိသမျှ ရုပ်ဝတ္ထုကို လက်တွေ့စူးစမ်းရှာဖွေနိုင်ကြပေမဲ့ စိတ်ရဲ့ဆန်းကျယ်ပုံ၊ စိတ်ရဲ့ အစွမ်းသတ္တိနဲ့ပတ်သက်လို့ ကောင်းကောင်း လေ့လာစူးနိုင်မှု မပြုနိုင်ကြသေးလို့ဘဲ။ တခါ အထက်က ဦးပဥ္ဇင်းပြောခဲ့တဲ့ အဋ္ဌကလာပ်ရုပ်တွေရဲ့ ဖွဲ့စည်းမှု၊ တည်ဆောက်မှု၊ ကွဲပြားမှု၊ ပျက်သုဉ်းမှုတွေကြောင့်၊ သမုဋ္ဌာန်တရားတွေကြောင့် ရုပ်ဝတ္ထုတွေရဲ့ သတ္တိတွေ၊ တန်ခိုးတွေဟာ ဖြစ်ပေါ်လာရတယ်ဆိုတဲ့ အကြောင်းနဲ့ စိတ်ရဲ့ဘန်ခိုးသတ္တိစွမ်းအား ကြီးမားတဲ့ အကြောင်းတွေကို မသိမမြင်နိုင်တာဟာ လောကမှာ ရှိရှိသမျှ ရုပ်တရား၊ နာမ်တရားတို့ကို ယထာဘူတကျကျ မမြင်အောင် ဖုံးကွယ်ထားတဲ့ အဝိဇ္ဇာဆိုတဲ့ အမှောင်ထုကြောင့် ဖြစ်တယ်။ သဗ္ဗညုတဉာဏ်တော်ရှင် ဗုဒ္ဓသည်သာလျှင် ဒီနာမ်ရုပ်ဆိုတဲ့ တရားနှစ်ပါးကို အရင်းခံပြီး ဖြစ်ပေါ်ထွန်းကားလာရတဲ့ လောကမှာ ရှိရှိသမျှသော တရားတို့ရဲ့ အကြောင်းတရားကို ဘယ်ခေတ်ခဲ့ခန်း၊ ဘယ်ဖလ်ပြွန်ဖလ်ခွက်၊ ဘယ်အပူခေတ် အခေတ် ပေးနိုင်တဲ့ ကိရိယာတန်ဆာမျှ မပါဘဲနဲ့ အကုန်အစင် မျက်ဝါးထင်ထင် သိမြင်တော်မူနိုင်တယ်။ ဒါကြောင့် ဒီသဗ္ဗညုတဉာဏ်တော်ရှင် ဗုဒ္ဓကိုယ်တော်တိုင် ဟောပြောညွှန်ပြတော်မူခဲ့တဲ့ ဗုဒ္ဓဝါဒဟာ အခြားဘာသာတွေ၊ သိပ္ပံပညာ

အပါအဝင် ပညာအသီးသီးတွေထက် မြင့်မားတယ်လို့ ဦးပဥ္စင်းက အခိုင်အမာပြောနိုင်တာပေါ့။ ကဲ ဒကာကြီးတို့ သိပ္ပံပညာရှင်တွေက အခု ဦးပဥ္စင်း ဟောပြောတဲ့အချက်ကို မကျေမလည်လို့ရှိရင် ပြန်လည်မေးမြန်းနိုင်ကြပါတယ်။ ဝေလဲဝေဖန်နိုင်ပါတယ်။

ဖေဲ့စတာ။ အခု ဆရာတော်ဟောပြောတဲ့ အချက်အလက်တွေဟာ အလွန်မှန်ကန် ရှင်းလင်းလှပါတယ်။ တပည့်တော်တို့အနေနဲ့ ပြန်လည်မေးမြန်း ဆန်းစစ်ဝေဖန်ဘို့ရာ မလိုတော့ပါဘူး။ အားလုံး သဘောပေါက် နားလည်ကြပါတယ်။ ဒါပေမဲ့ ဆရာတော်ကိုယ်တိုင် ဗုဒ္ဓဘာသာအဖွဲ့ချုပ်ကြီးက တည်ဆောက်ထားတဲ့ ဘုံဘိုင်မြို့ အာနန္ဒာဝိဟာရမှာ ယခင်တခါ ဟောတော်မူဘူးတဲ့ နာမ်ရုပ်တရား နှစ်ပါးတို့ရဲ့သဘောကို တခါထပ်ပြီး ဟောပြတော်မူပါဦး ဆရာတော်။

ဆရာတော်။ ယခုလို သိပ္ပံပညာထွန်းကားနေတဲ့ ခေတ်မှာ သိပ္ပံပညာရှင်တွေအပေါ်မှာ ဖြူစင်သန့်ရှင်းတဲ့ စေတနာနဲ့ပြောရမယ်ဆိုရင် သူတို့တတွေဟာ ရှိရှိသမျှသော ရုပ်ဝတ္ထုတို့ရဲ့ အကြောင်းတရား၊ အကျိုးတရား၊ ဒီရုပ်ဝတ္ထုတို့ရဲ့ တကယ့်ဖြစ်စဉ်၊ တကယ့်ဂုဏ်သတ္တိတို့ကို မသိကြဘဲ သက်မဲ့ရုပ်ဝတ္ထုတို့ရဲ့ ဂုဏ်ခြွပ်ကို လက်တွေ့စူးစမ်းရှာဖွေ လေ့လာကြရင်း လိုရင်းကို မရောက်ဘဲ ကွယ်လွန်အနိစ္စရောက်ကြရတဲ့ နာမည်ကျော် သိပ္ပံပညာရှင်ကြီးတွေလဲ မနည်းဘူး။ ဒီလို ကြိုးရင်းပမ်းရင်း ဖလှလာရင်း စူးစမ်းရင်းနဲ့ လိုရင်းကိုမရောက်ဘဲ လမ်းခုလတ်မှာ ကွယ်လွန်ကြရတဲ့ အကြောင်းရင်းကတော့ ဒီ သိပ္ပံပညာရှင်တွေဟာ ရှိရှိသမျှသော ရုပ်တရားတို့ရဲ့ ဖြစ်စဉ်၊

ပျက်စဉ်၊ ဂုဏ်၊ သတ္တိ၊ ဖွဲ့စည်းပုံ၊ ပျက်သုဉ်းပုံစတဲ့ အချက်တွေကို သိမြင်နားလည်မှု၊ တနည်းအားဖြင့် အဝိဇ္ဇာဉာဏ် အရင်းခံမရှိဘဲနဲ့ ဆင်ကန်းတောတိုး လိုက်လံစူးစမ်းနေကြလို့ ဖြစ်တယ် ဒကာကြီး။

အလွန် ရှင်းလင်းလွယ်ကူပြီး သိမြင်နားလည်နိုင်တဲ့ ဥပမာနဲ့ ပြောရရင် ဒီ သိပ္ပံပညာရှင်တွေဟာ တောင်ဝှေးတချောင်းနဲ့ လမ်းလျှောက်နေတဲ့ မျက်မမြင်ဒုက္ခိတတွေနဲ့ တူနေပြီ။ မျက်မမြင်ဒုက္ခိတ တယောက်ဟာ သူသွားလာနေကျ နေရာဒေသနဘာခုကို တောင်ဝှေးတချောင်းကို အသုံးပြုပြီးတော့ လျှောက်တတ်၊ သွားတတ်ပါတယ်။ ဒါပေမဲ့ ဒီလိုသူလျှောက်ရင်း သူတွေ့တဲ့လူ၊ သူ့ဘေးမှာရှိတဲ့ အဆောက်အဦ စသည်တို့ကိုတော့ အခြားသူတယောက်ကို မမေးဘဲနဲ့ သူ မသိဘူး။ ခေတ်သစ်သိပ္ပံပညာရှင်တွေလဲ ဒီလိုဘဲ၊ သူတို့ရည်စူးထားတဲ့ လေ့လာ စမ်းသပ်မှုကို လုပ်ကိုင်လို့မပြီးသေးခင် လမ်းခုလပ်အတွင်းမှာ တွေ့မြင်ရတဲ့ သိပ္ပံ ရုပ်ဝတ္ထုတို့ရဲ့ ဖွဲ့စည်းပုံ၊ ပျက်သုဉ်းပုံ၊ အကြောင်းတရား၊ အကျိုးတရား၊ ဂုဏ်၊သတ္တိစသည်တို့ကို မသိမမြင်ကြဘူး။ ဒီသိပ္ပံပညာရှင်တွေမှာ ဗုဒ္ဓဟောတော်မူခဲ့တဲ့ အဘိဓမ္မာဉာဏ်တော်၊ တနည်းအားဖြင့် ဝိဇ္ဇာဉာဏ်များ ရှိထားကြရင် အခုထက် အံ့သွယ်မခန်း ထူးဆန်းတဲ့ အောင်မြင်မှုတွေကို ရမယ်ဆိုတာ မြေကြီးလက်ခတ်မလွဲဘူးလို့ ဦးပဥ္ဇင်း ဆိုချင်တယ်။ အခုကမ္ဘာမှာ သိပ္ပံပညာရပ်နဲ့ ပတ်သက်လို့ ထိပ်တန်းအကျဆုံးဖြစ်တဲ့ (ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီက ဟောပြောခဲ့သည့်တရား ဖြစ်ပါသည်။ ဘာသာပြန်သူ) ဂျာမနီပြည်ဟာ ဘာပြုလို့ ဒီလို သိပ္ပံပညာဘက်မှာ အခြားတိုင်းပြည်တွေထက် သာနေရသလဲဆိုရင်

ဂျာမနီပြည်က ဒေါက်တာပေါလ်ဒိုက်တို့ကို ပုဂ္ဂိုလ်တွေက ဗုဒ္ဓအဘိဓမ္မာကို တဖက်မှ ကျကျနန လေ့လာထားကြပြီး တစက်ကလဲ သိပ္ပံပညာအရ လေ့လာစူးစမ်းမှုတို့ကို ပြုလုပ်နေကြလို့ဘဲ ဖြစ်ပါတယ် ဒကာကြီး။

ဤတွင် ပါမောက္ခဇော့စတာက တရားနာပရိသတ်များကိုယ်စား ဆရာတော်အား ကျေးဇူးတင်ကြောင်းနှင့် နောင်လည်း သူနှင့်တကွ သိပ္ပံပညာရှင်တို့အား ရုပ်နာမ်ခန္ဓာကိုယ်တို့နှင့် ဆိုင်ရာတရားတို့ကို ဟောကြားတော်မူပါမည့်အကြောင်း လျှောက်ထားလေသည်။

## မေးခွန်း အမှတ် ၇။

ဘဝသံသရာတွင် အစအဆုံး မရှိကြောင်း ထင်ရှားအောင် ရှင်းလင်းတော်မူပါ ဆရာတော်။

(မေးမြန်းလျှောက်ထားသူ မစ္စတာ အယ်(စ်)ဒါရှူးဝါး လား၊ လွှတ်တော်ရှေ့နေကြီး၊ ဘုံဘိုင်မြို့၊ မြေဆိုသူ ဆရာတော် အရှင်အရိယဓမ္မ၊)

ဆရာတော် အရှင်အရိယဓမ္မ။ ဘဝသံသရာဟာ စက်ဝိုင်းသဖွယ် အဆက်မပြတ် ကျင်လည်နေတဲ့တရား ဖြစ်လေတော့ အစအဆုံး မရှိဘူး ဒကာကြီးရဲ့။ ဒီလို အစအဆုံးမရှိဘဲ စက်ဝိုင်းသဖွယ် ချာချာလည်နေပေမဲ့ ဒီစက်ဝိုင်းထဲက ထွက်နိုင်တဲ့ လမ်း ရှိတယ်။ အဲဒီ ထွက်ပေါက်လမ်းဟာ ဝေဒနာနဲ့ တဏှာ အကြားမှာဘဲ။ မျက်စိနဲ့ အသွင်သဏ္ဌာန်၊ နားနဲ့ အသံ၊ လျှာနဲ့ အရသာ၊ ကိုယ်နဲ့ အတွေ့၊ စိတ်နဲ့ သဘောတို့ရဲ့ တခုနဲ့တခု

အသီးသီး တွေ့ထိရိုက်ခပ်မှုကြောင့် ပေါ်ပေါက်လာရတဲ့ ဝေဒနာကို ဝိပဿနာတရားနဲ့ အဆက်ဖြတ်ပြီး အမြစ်ဖြုတ်ပစ်နိုင်လို့ ရှိရင် တဏှာဆိုတဲ့တရားကို ဖြစ်ပေါ်စေတဲ့ အကြောင်းတရားဟာ ပေါ်ပေါက်မလာနိုင်တော့ဘူး။ ဒီတဏှာဆိုတဲ့တရားဟာ ဥပါဒါန်ဆိုတဲ့ တရားရဲ့ အကြောင်းတရားဖြစ်လေတော့ ဒီတဏှာကို ဖြုတ်လိုက်ရင် သူ့ရဲ့ အကျိုးတရားဖြစ်တဲ့ ဥပါဒါန်ဆိုတဲ့တရားဟာ မပေါ်ပေါက်နိုင်တော့ဘူး။ ဥပါဒါန်တရားပေါ်မလာနိုင်တာနဲ့တပြိုင်နက် ဇာတိဆိုတဲ့တရားဟာ ပေါ်မလာနိုင်ပြန်ဘူး။ ဒီဇာတိတရား ချုပ်ငြိမ်းသွားတာနဲ့ တပြိုင်နက် အိုခြင်း၊ နာခြင်း၊ သေခြင်းဆိုတဲ့တရားတွေပါ တသီတတန်းကြီး ပြုတ်သွားရမယ်။ ဒီ ဒုက္ခတရားတွေနဲ့ ပြွန်းတီးနေတဲ့ ဘဝတရားတွေ ချုပ်ငြိမ်းတာနဲ့တပြိုင်နက် ဘယ်တော့မှ ဖို့ဖျက်လို့ မရတဲ့ နိဗ္ဗာန်ဆိုတဲ့တရားကို ရတာဘဲ။

ဒါရှူးဝါးလား။ ဗုဒ္ဓဟာ ဘဝသံသရာမှာ အစအဆုံးမရှိဘူးလို့ ဟောတာက ဒီဘဝသံသရာမှာ အစအဆုံးရှိသော်လဲ သူကိုယ်တိုင် ကြည့်လို့ မမြင်ရတဲ့အတွက် ဟောတာမဟုတ်ပါလား ဆရာတော်။

ဆရာတော်။ ဒကာကြီး၊ ဗုဒ္ဓကိုယ်တော်မြတ် မမြင်တဲ့၊ မသိတဲ့တရားဆိုတာ လောကမှာ မရှိဘူး။ ဒါပေမဲ့ ဒီဘဝသံသရာမှာ အစအဆုံး မရှိတဲ့အတွက် မရှိဘူးလို့ ဟောတော်မူခဲ့ခြင်းဖြစ်ပါတယ်။ ဒီအချက်ကို ဒကာကြီး ရှင်းရှင်းလင်းလင်း သိခြင်နားလည်လာအောင် ဦးပဥ္ဇင်းက ဥပမာတခု ပြရအုံးမယ်။ ကဲ ဒကာကြီး၊ ဦးပဥ္ဇင်းကို ကျောခိုင်းပြီး ပရိသတ်ဘက်ကို မျက်နှာ

မှုလိုက်စမ်းပါ။ ဦးပဥ္စင်းက ဦးပဥ္စင်းဘက်ကို ပြန်လှည့်လို့ပြောမှ ဒကာကြီး ပြန်လှည့်ပါ။

(မစ္စတာ ဒါရှုးဝါးလားသည် ဆရာတော်ပြောသည့်အတိုင်း ပရိသတ်ဘက်သို့ မျက်နှာမူလိုက်သောအခါ ဆရာတော်သည် မြေဖြူတတောင့်ကိုယူ၍ အနီးရှိ သင်ပုန်းကြီးပေါ်၌ စက်ဝိုင်းကြီး တခုကို ရေးဆွဲလိုက်၏။ ထို့နောက် မစ္စတာ ဒါရှုးဝါးလားအား ဆရာတော်က သူ့ဘက်သို့ ပြန်လှည့်ခိုင်းလိုက်၏။)

ကဲ ဒကာကြီး၊ ဟောဒီ သင်ပုန်းကြီးပေါ်က စက်ဝိုင်းထဲက စတဲ့နေရာနဲ့ ဆုံးတဲ့နေရာကို ဦးပဥ္စင်းအား ပြစမ်းပါ။

ဒါရှုးဝါးလား။ စက်ဝိုင်းသာ ဖြစ်နေလေတော့ အစအဆုံး ရယ်လို့ မရှိပါဘူး ဆရာတော်။

ဆရာတော်။ ဒကာကြီး ဒီလိုပြောတာဟာ ဒီစက်ဝိုင်းရဲ့ အစနဲ့ အဆုံးကို မမြင်လို့ ပေါ့။

ဒါရှုးဝါးလား။ တပည့်တော်ဟာ သင်ပုန်းကြီးပေါ်က စက်ဝိုင်းကို ကောင်းကောင်းကြီး မြင်ရပါတယ်။ ဒါပေမဲ့ ဒီစက်ဝိုင်းမှာ အစအဆုံးမရှိတဲ့အတွက် အစအဆုံး မရှိဘူးလို့ လျှောက်ထားတာပါ ဆရာတော်။

ဆရာတော်။ ဒီသင်ပုန်းကြီးပေါ်က အခု ခဏအတွင်းကမှ ဦးပဥ္စင်း မြေဖြူနဲ့ဆွဲလိုက်တဲ့ စက်ဝိုင်းကလေးမှာမှ အစအဆုံး မရှိရင် စကြာဝဠာကြီးတခုလုံးကို ပတ်နေတဲ့ ဘဝသံသရာ ဆိုတဲ့ စက်ဝိုင်းကြီးမှာ ဘယ့်နှယ်လုပ်ပြီး အစအဆုံးရယ်လို့ ရှိနိုင်ပါမလဲ ဒကာကြီး။

ဒါရှုးဝါးလား။ ဆရာတော် ရှင်းလင်းဟောပြောတော်မူလိုက်တဲ့အတွက် ဘဝသံသရာစက်ဝိုင်းကြီးမှာ အစအဆုံးမရှိတဲ့

အကြောင်း တပည့်တော် ကောင်းကောင်းကြီး သိမြင်နား လည်ပါပြီ ဘုရား။

ဤတွင် တရားနာပရိသတ်တို့က သာဓုအနုမောဒနာ ခေါ် ကြလေသည်။

## မေးခွန်း အမှတ် ဂ။

အဝိဇ္ဇာ သို့မဟုတ် အမှောင်တရားသည် ဘဝသံသရာ၏ ပဓာနအကြောင်းရင်း ဖြစ်ခဲ့လျှင် အဝိဇ္ဇာတရားသည် ၎င်း၏ အမှောင်ထုဖြင့် ဘဝသံသရာကို မည်ကဲ့သို့ ပြုပြင် ဖန်တီးနိုင်ပါ သလဲ ဆရာတော်။

(မေးမြန်းလျှောက်ထားသူ မစ္စတာ ဂျီရှိ၊ ဘီ-အေ၊ အယ်(လ်) အယ်(လ်)ဘီ၊ ဟိုက်ကုတ်ရှေ့နေကြီး၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော် အရှင်အရိယဝံသ။)

**ဆရာတော်အရှင်အရိယဝံသ။** အဝိဇ္ဇာဆိုတဲ့တရားရဲ့ အခြေ အနေကို ဒကာကြီး ကျကျနန နားလည်သဘောပေါက်လာ အောင် ဦးပဥ္စင်း မေးတဲ့မေးခွန်းကို ကျကျနန စဥ်းစားပြီး ဖြေ စေချင်ပါတယ် ဒကာကြီး။

ဂျီရှိ။ မှန်ပါ ဆရာတော်။

ဆရာတော်။ အလင်းရောင်နဲ့ အမှောင်ဆိုတဲ့ တရားနှစ်ပါး ဟာ တကြိမ်တည်း တခါတည်း ဖြစ်ပေါ်လာနိုင်သလား ဒကာကြီး။

ဂျီရှိ။ အလင်းရောင်နဲ့ အမှောင်တရားတို့ဟာ တပါးနဲ့ တပါး ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေကြတဲ့တရားနှစ်ပါး ဖြစ်

တွဲအတွက် တကြိမ်တည်း တခါတည်း တပြိုင်တည်း ဖြစ်ပေါ် မလာနိုင်ပါဘူး ဆရာတော်။

ဆရာတော်။ ဒါဖြင့် အမှောင်တရားကို ဖြစ်ပေါ်စေတဲ့ အကြောင်းတရားဟာလဲ အလင်းရောင်ဘဲလား၊ အလင်းရောင်ကို ဖြစ်စေတတ်တဲ့တရားကလဲ အမှောင်တရားဘဲလား။

ဂျိုရှီ။ အလင်းရောင်ဟာ အမှောင်တရားကို ဖြစ်ပေါ်စေတဲ့ တရားလို့ဆိုရင် မမှန်ပါဘူး ဆရာတော်။ တခါ အလင်းရောင်ကို ဖြစ်စေတဲ့တရားဟာ အမှောင်တရားဘဲဆိုလို့လဲ မဖြစ်နိုင်ပါဘူး ဆရာတော်။ ဒါပေမဲ့ အမှောင်တရား မရှိတဲ့အခါမှာ အလင်းရောင် ဖြစ်ပေါ်ပြီး အလင်းရောင် မရှိတဲ့အခါမှာ အမှောင်တရား ဖြစ်ပေါ်ရတယ်လို့ ဆိုရင်တော့ မှန်ပါလိမ့်မယ် ဆရာတော်။

ဆရာတော်။ အဲ အခု ဒကာကြီးပြောသလိုဘဲ ရှိရှိသမျှသော ရုပ်တရား၊ နာမ်တရားတွေကို ယထာဘူတကျကျ မဆင်ခြင် မသုံးသပ်နိုင်ရင်၊ မမြင်နိုင်ရင်၊ အဝိဇ္ဇာဆိုတဲ့ အမှောင်တရားဟာ လွှမ်းမိုးတာဘဲ။ တခါ ရှိရှိသမျှသော ရုပ်နာမ်တရားတွေကို အပိုအလို၊ အတိုးအဆုတ် မရှိ သူ့ပကတိအတိုင်း နေသားတကျ ကြည့်တတ်မြင်တတ်တဲ့ ဝိဇ္ဇာတရား၊ တနည်းအားဖြင့် အလင်းရောင် ထွန်းတောက်တဲ့အခါမှာ အဝိဇ္ဇာဆိုတဲ့ အမှောင်တရားဟာ ပျောက်ကွယ်သွားရတာပေါ့။ ဒါကြောင့် အဝိဇ္ဇာဆိုတဲ့ အမှောင်တရားဟာ ဘယ်တရားကြောင့် ဖြစ်တယ်၊ ဒီတရားရဲ့ အရင်းခံ အကြောင်းတရားဟာ ဟိုတရားဘဲ၊ ဒီတရားဘဲလို့ ရှာနေတာဟာ ကြက်ဥကို အစရှာနေသလို ပင်ပန်းပြီး အရာမထင်တဲ့ အလုပ်ဘဲ ဖြစ်တယ်။ တာပြုလို့လဲဆို

တော့ စကြာဝဠာကြီး တဝှမ်းလုံးအတွင်းမှာရှိတဲ့ သက်ရှိ သတ္တဝါဝေနေယျတွေကို ဖြစ်ပေါ်စေတဲ့ အကြောင်းတရား ဟာ အဝိဇ္ဇာဆိုတဲ့ အမှောင်တရားဘဲ။ ဒီ အဝိဇ္ဇာဆိုတဲ့ အမှောင်တရားက ဖုံးလွှမ်းထားလို့ ရှိရှိသမျှ သတ္တဝါတွေဟာ သက်ရှိ သက်မဲ့ ရုပ်ဝတ္ထုအလုံးစုံကို ပရမတ်သဘောနဲ့ မမြင်ဘဲ ပညတ်အမြင်နဲ့သာမြင်ပြီး တပ်မက်ငြိတွယ်နေကြတာ ဖြစ်တယ်။ အဝိဇ္ဇာဆိုတဲ့ အမှောင်တရားကို ပျောက်ကွယ်သွားအောင် တွန်းလှန်ပယ်ရှားပစ်နိုင်တာနဲ့ တပြိုင်နက် သတ္တဝါအသီးသီး ဟာ တဥ္စးချင်း ကျင်လည် နစ်မွန်းတဲ့ သံသရာဆိုတဲ့ စက်ရဟတ် ထဲက လွတ်မြောက်သွားကြမှာဘဲ။ တနည်းအားဖြင့် ပြောရ ရင် အထက်က ဦးပဥ္ဇင်းပြောခဲ့သလို အဝိဇ္ဇာဆိုတဲ့ အမှောင် တရား ကွယ်ပျောက်တာနဲ့ တပြိုင်နက် ဝိဇ္ဇာဆိုတဲ့ အလင်း ရောင် လွှမ်းမိုး ကြီးစိုးလာရမှာဘဲ ဒကာကြီး။

ဂျိရှီ။ ယခု ဆရာတော်ရဲ့ အလင်းရောင်နဲ့ အမှောင်တရား တို့ရဲ့ ဥပမာ ဘဝသံသရာကို အမှောင်တရားက ဘယ်လိုဖန်တီး တယ်ဆိုတာကို ရှင်းရှင်းလင်းလင်းကြီး နားလည် သဘော ပေါက်ပါပြီ ဆရာတော်။

ဤတွင် တရားနာပရိတ်သတ်က သာဓုအနုမောဒနာ ခေါ် ကြလေသည်။

## မေးခွန်း အမှတ် ၉။

ဗုဒ္ဓရဲ့ နိဗ္ဗာန်ကို ခရစ်ယာန်ဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်း၊ မဟာမေဒင်ဘာသာဝင်တို့ရဲ့ ဥယျာဉ်တော်၊ ဟိန္ဒူဘာသာဝင် တို့ရဲ့ မုတ္တိတိုက်ကဲ့သို့ ပုံသဏ္ဌာန်ကို ဟောပြောပြီး ပြနိုင်ပါ့မလား

ဆရာတော်။ ဒီလိုမှ မပြနိုင်ခဲ့လို့ရှိရင် နိဗ္ဗာန်တရားဟာ တကယ် တမ်း ရှိနိုင်ပါ့မလား ဆရာတော်။

**(မေလျှာက်ထားမေးမြန်းသူ ခရစ်ယံဘုန်းကြီး ဇျူ၊ ဝစ် (လ်) ဆင်၊ အယ် (ဒ်) ဗော (အောက်စဖို့တက္ကသိုလ်) ခရစ်ယံ ဘာသာရစ်ဖေါရှုံ၊ဘုံဘိုင်မြို့၊အယ်လီဖင်စတုန်းကောလိပ် အင် လိပ်ဘာသာ ပါမောက္ခ၊ဖြေဆိုသူ ဆရာတော်အရှင်အရိယဝံသ။)**

**ဆရာတော် အရှင်အရိယဝံသ။** အလွန်တရာလဲ မြင့်မြတ်၊ ချမ်းသာသုခနဲ့လဲ လုံးဝပြည့်စုံပြီး ဖျက်ဆီးလို့မရတဲ့ အစဉ် ထာဝရလဲ တည်မြဲနေတဲ့ နိဗ္ဗာန်တရားနဲ့ ယှဉ်ပြိုင်လို့ရတဲ့တရား ဟာ လောကမှာ မရှိဘူး။ ဒါကြောင့် နိဗ္ဗာန်ဆိုတဲ့တရားကို သက်ဆိုင်ရာ ဘာသာအယူဝါဒ အသီးသီးအရ ဟောပြော ထားတဲ့ ခရစ်ယံဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းတို့၊ မဟာ မေဒင်ဘာသာဝင်တို့ရဲ့ ဥယျာဉ်တော်တို့၊ ဟိန္ဒူဘာသာဝင်တို့ ရဲ့ မုတ္တိတို့ဆိုတဲ့ တရားတွေနဲ့တော့ နှိုင်းယှဉ်လို့မရဘူး။ ဒီ တရား တွေကို သာမန်လူသားတွေရဲ့ ဉာဏ်နဲ့ စိတ်ကူးလို့ရတယ်။

ဗုဒ္ဓက သူ့ရဲ့ဘုရားဒေသနာတော်တွေထဲမှာ ဟောပြတော် မူခဲ့တဲ့ နိဗ္ဗာန်ဆိုတဲ့တရားကို ဗုဒ္ဓကိုယ်တော်တိုင်နဲ့ ရဟန္တာ ပုဂ္ဂိုလ်များသာလျှင် အထင်အရှား မြင်တော်မူနိုင်တယ်။ နတ် တွေ၊ သိကြားတွေ၊ ဗြဟ္မာတွေတောင် မမြင်နိုင်ကြဘူး။ ဒီ နိဗ္ဗာန်ဆိုတဲ့တရားကို မြင်နိုင် သိနိုင်တဲ့ အခြေအနေကို ရောက် ဘို့ဆိုတာကလဲ လွယ်ကူတာ မဟုတ်ဘူး။ ဒီလို သိနိုင်ဘို့ရာ-

၁။ နာမရူပပရိစ္ဆေဒဉာဏ် (စိတ်တို့၏ တကယ့်သဘာဝနှင့် ရုပ်တို့၏ တကယ့်သဘာဝကို ပိုင်းခြား၍ သိသော ပညာအလင်း)

၂။ ပစ္စယပရိဂ္ဂဟဉာဏ် (စိတ်နှင့်တကွ အထောက်အပံ့ သဘောတို့ကိုရင်း၊ ရုပ်နှင့်တကွ အထောက်အပံ့ သဘောတို့ကိုရင်း ပိုင်းခြား၍သိသောပညာအလင်း)

၃။ သမ္မသနဉာဏ် (ရုပ်၏ ဖြစ်ပျက်မှု၊ နာမ်၏ ဖြစ်ပျက်မှုတို့ကို မမြဲခြင်း၊ ဆင်းရဲခြင်း၊ အစိုးမရခြင်းတို့ဖြင့် မြင်သော ပညာအလင်း)

၄။ ဥဒယဗ္ဗယဉာဏ် (ရုပ်နာမ်တို့၏ ဖြစ်ပျက်မှုကို ရှုမြင်သော ပညာအလင်း)

၅။ ဘင်္ဂဉာဏ် (ရုပ်နာမ်တို့၏ အပျက်ကိုသာ ရှုသော ပညာအလင်း)

၆။ ဘယဉာဏ် (ရုပ်နာမ်ကို ကြောက်ဖွယ်ရှုမြင်သော ပညာအလင်း)

၇။ အာဒီနဝဉာဏ် (ရုပ်နာမ်တို့၏ အပြစ်ကို ရှုမြင်တတ်သော ပညာအလင်း)

၈။ နိဗ္ဗိဒါဉာဏ်(ရုပ်နာမ်တို့ကိုငြီးငွေ့သောပညာအလင်း)

၉။ မုစ္စိတုကမျတာဉာဏ် (ရုပ်နာမ် ပျက်စီးမှုတို့မှ လွတ်မြောက်လိုသော ရှုမြင်မှု ပညာအလင်း)

၁၀။ ပဋိသင်္ခါဉာဏ် (တဖန် လွတ်လိုသော ရှုမြင်မှု ပညာအလင်း)

၁၁။ သင်္ခါရုပေက္ခာဉာဏ် ( ဖြစ်ပျက်မှုတို့ကို လျစ်လျူပြု ရှုမြင်သော ပညာအလင်း)

၁၂။ အနုလောမဉာဏ် (အောက်က သိပြီးသော ပညာအလင်းနှင့် အထက်ဆက် သိရန် ပညာအလင်းတို့ကို လျော်စွာ ရှုမြင်သော ပညာအလင်း)

၁၃။ ဝေါဒြတူဥာဏ် (ကိလေသာ ပေကျံမှု အဆက် အနွယ်ပြတ်၍ လောကမှ လွတ်မြောက်ရန် ငြိမ်းချမ်းသော ပညာအလင်း)

၁၄။ သောတာပတ္တိမဂ်ဉာဏ် (သစ္စာလေးပါးကို ယုံမှားကင်းစွာ အစအဆုံးသိသော ပညာအလင်း)

၁၅။ သောတာပတ္တိဖိုလ်ဉာဏ် (ဤ အထက်ပါ မဂ်ဉာဏ်၏ အကျိုး)

၁၆။ သကဒါဂါမိ မဂ်ဉာဏ်(လောဘ၊ဒေါသဖြင့် တွေ့ဝေမှုတို့ကို ထပ်၍ ထပ်၍ ပယ်သော ပညာအလင်း)

၁၇။ သကဒါဂါမိ ဖိုလ်ဉာဏ် (ဤ အထက်ပါ မဂ်ဉာဏ်၏ အကျိုး)

၁၈။ အနာဂါမိမဂ်ဉာဏ် (**ကာမ**၊ ရာဂနှင့် စိုးရိမ်**စိတ်** တို့ကို ကုန်စင်အောင်ပယ်သော ပညာအလင်း)

၁၉။ အနာဂါမိဖိုလ်ဉာဏ် (ဤအထက်ပါ မဂ်ဉာဏ်၏ အကျိုး)

၂၀။ အရဟတ္တမဂ်ဉာဏ် (ကိုယ်တွင်းရန်သူ ဟူသမျှတို့ကို အကြွင်းမဲ့ပယ်သော ပညာအလင်း)

၂၁။ အရဟတ္တဖိုလ်ဉာဏ် (အထက်ပါ မဂ်ဉာဏ်၏အကျိုး)

၂၂။ ပစ္စဝေက္ခနဉာဏ် (အဖန်ဖန် ဆင်ခြင်တိုင်း မြင်သော ဉာဏ်)

ဒီဉာဏ်(၂၂)ပါးကို ရရမယ်။ ဗုဒ္ဓနဲ့ သူ့ရဟန္တာတွေဟာ ဒီဉာဏ်(၂၂)ပါးကို ရရှိထားတဲ့အတွက်သာ နိဗ္ဗာန်ဆိုတာ သိမြင် နားလည်တော်မူကြခြင်း ဖြစ်တယ်။

ဝစ်လဆင်။ နိဗ္ဗာန်ဆိုတဲ့ တရားကို ဆရာတော် ဟောပြော တော်မူတဲ့အတိုင်း မည်သည့်ပုံသဏ္ဌာန်၊ အရောင်အဆင်းရှိ တယ်ဆိုတာကို ဟောပြောတို့ ခဲယဉ်းတယ်ဆိုတဲ့အချက်ကို လက်ခံပါတယ်။ ဒါပေမဲ့ နိဗ္ဗာန်ကို မသိနိုင် မမြင်နိုင်ကြတဲ့ လူသားတို့ကို နိဗ္ဗာန်ကို လိုချင်လာအောင် နိဗ္ဗာန်ဆိုတဲ့တရား မှာ ဘယ်လို ဂုဏ်သတ္တိနဲ့ အရည်အချင်း ရှိတယ်ဆိုတာကိုတော့ ဗုဒ္ဓနဲ့ သူ့ရဟန္တာတွေဟာ ဟောပြောလို့ မဖြစ်နိုင်ပေဘူးလား ဆရာတော်။

ဆရာတော်။ နိဗ္ဗာန်ဆိုတဲ့တရားကို မသိနိုင် မမြင်နိုင်ကြတဲ့ လူသားတွေအား နိဗ္ဗာန်ဟာ ဘယ်လိုပုံသဏ္ဌာန်၊ အရောင် အဆင်းရှိတယ်ဆိုတာကို ဘယ်လိုဘဲ ဟောပြောသော်လဲ ဒီ ဉာဏ်ပညာတွေကိုမှ ရမထားလို့ရှိရင် မသိနိုင် မမြင်နိုင်ကြဘူး။ ဒါပေမဲ့ ဒီလူသားတွေ သိမြင် နားလည်နိုင်လောက်တဲ့ နိဗ္ဗာန် ရဲ့ ဂုဏ်သတ္တိတွေကိုတော့ ဗုဒ္ဓကိုယ်တော်တိုင်က ဟောတော်မူ ခဲ့ပါတယ်။ အဲဒီဂုဏ်သတ္တိတွေကိုတော့-

၁။ နိဗ္ဗာနံ အသင်္ခတံ (နိဗ္ဗာန်ဟာ ရေ၊မြေ၊လေ၊မီး ဆိုတဲ့ မဟာဘုတ်ဓာတ်ကြီးလေးပါးတို့ ပေါင်းစပ် ဖွဲ့စည်း တည် ဆောက်ထားတဲ့တရား မဟုတ်တဲ့အတွက် ပြုပြင်ပြောင်းလဲမှုမှ ကင်းစင်ခြင်း)

၂။ နိဗ္ဗာနံ နိစ္စံ (နိဗ္ဗာန်ဟာ တည်မြဲမှု ရှိခြင်း)

၃။ နိဗ္ဗာနံ ပရမသုခံ (နိဗ္ဗာန်ဟာ တဏှာ၊ ဥပါဒါန်စတဲ့ တရားတွေကို ဖြစ်ပွားစေတဲ့ ဝေဒနာတရားတွေမှ ကင်းစင်တဲ့ အကောင်းဆုံးသော ချမ်းသာသုခနဲ့ ပြည့်စုံခြင်း)

၄။ နိဗ္ဗာနံ ဓုဝံ(နိဗ္ဗာန်ဟာ ဖန်ဆင်းထားတဲ့တရား မဟုတ်ဘဲ အမြဲရှိတဲ့တရား ဖြစ်ခြင်း)

၅။ နိဗ္ဗာနံ ဝိမုတ္တိရသာ(နိဗ္ဗာန်ဟာ လွတ်မြောက်တဲ့အရသာနဲ့ လုံးဝပြည့်စုံခြင်း)

၆။ နိဗ္ဗာနံ သုဘံ (နိဗ္ဗာန်ဟာ အလွန်တင့်တယ်ခြင်းတရားနဲ့ ပြည့်စုံခြင်း)

၇။ နိဗ္ဗာနံ ဝိရောဓိသမ္ဗတ္တံ(နိဗ္ဗာန်ဟာ ၁၅၀၀ ကိလေသာတရားတွေ၊ ရုပ်၊ နာမ်၊ ခန္ဓာတရားတို့မှ ပေါ်ပေါက်လာတဲ့ ဝေဒနာတရားတွေ၊ ဒုက္ခတွေအားလုံး ကင်းလွတ်ခြင်း) ဆိုတဲ့ (၇)ပါးသော တရားတွေဘဲ ဖြစ်တယ်။

ဝစ်လဆင်။ ဗုဒ္ဓနဲ့ ရဟန္တာကိုယ်တော်မြတ်များ ကိုယ်တိုင်သိမြင် နားလည်ထားတဲ့ နိဗ္ဗာန်ဆိုတဲ့တရားကို သူတို့ကိုယ်တိုင် တိတိကျကျ ဟောပြောတော်မူကြပါလျက်နဲ့ သာမန်လူသားများက ဒီနိဗ္ဗာန်ဆိုတဲ့တရားကို နားမလည်နိုင်ကြဘူး ဆိုတဲ့အချက်ကိုတော့ တပည့်တော်တို့အနေနဲ့ သဘောမပေါက်နိုင်ဘဲ ဖြစ်နေကြပါတယ် ဆရာတော်။ ဒါကြောင့် ဒီပြဿနာနဲ့ပတ်သက်လို့ တပည့်တော်တို့ နားလည်သဘောပေါက်သွားအောင် ရှင်းလင်း ပြတော်မူပါဦး ဆရာတော်။

ဆရာတော်။ နိဗ္ဗာန်ဆိုတဲ့တရားနဲ့ ပတ်သက်လို့ ဗုဒ္ဓကိုယ်တော်တိုင် ဟောတောင်မှ သာမန်လူသားတို့ရဲ့ ဉာဏ်မျက်စိနဲ့ ဘယ်နည်းနဲ့မှ မသိနိုင်၊ နားမလည်နိုင်ဘူးဆိုတဲ့ အချက်ကိုရှင်းလင်းသွားအောင်ဒကာကြီးကိုဥပမာတခုထပ်ပြီးပြရလိမ့်ဦးမယ်။

(ထိုနောက် ဆရာတော်က ပါမောက္ခ ဝစ်လဆင်အား အောက်ပါမေးခွန်းများကို မေးပါသည်။)

ဆရာတော်။ အကယ်၍ မွေးကတည်းက မျက်စိမမြင်တဲ့ လူတယောက်ကို ဒီပရိသတ်ထဲခေါ်လာပြီး ဒကာကြီးက အဲဒီ မျက်စိမမြင်တဲ့လူကို နေရဲ့အလင်းရောင်ဟာ ဘယ်လိုပုံသဏ္ဍာန် ရှိတယ်၊ ဘယ်လိုအရောင်အဆင်း ရှိတယ်ဆိုတာကို အဲဒီလူ သိမြင်နားလည်လာအောင် ရှင်းပြနိုင်ပါ့မလား။

ဝစ်လဆင်။ ဒီလူဟာ မွေးကတည်းက မျက်စိကွယ်နေတဲ့ လူဆိုတော့ နေရောင်ခြည်ဟာ ဘယ်လိုအရောင်၊ ဘယ်လို ပုံသဏ္ဍာန်ရှိတယ်ဆိုတာကို သူ သိမြင် နားလည်နိုင်အောင် ရှင်းပြနိုင်မယ် မဟုတ်ပါဘူး။ ဘာပြုလို့လဲဆိုတော့ ဒီ မွေး ကတည်းက မျက်စိကွယ်လာတဲ့ လူဟာ တပည့်တော်ကို နေ ရောင်ခြည်ဟာ တိုသလား၊ ရှည်သလား၊ နူးညံ့သလား၊ ကြမ်းသလား၊ ထူသလား၊ ပါးသလား၊ လုံးသလား၊ ပြား သလား၊ မြင့်သလား၊ နိမ့်သလား၊ ဖြောင့်သလား၊ ကောက် သလား၊ လက်နဲ့စမ်းလို့ ထိလို့ ရသလား၊ မရဘူးလားစတဲ့ မေးခွန်းတွေကို မေးပြီး တပည့်တော်က ဘယ်လိုဘဲဖြေဖြေ သူဟာ နားလည်သဘောပေါက်မှာ မဟုတ်ပါဘူး ဆရာတော်။ နောက်ဆုံး သူမေးတဲ့ မေးခွန်းတွေကို မဖြေနိုင်တော့ တပည့် တော်ဟာ လက်လျှော့လိုက်ရရုံဘဲ ရှိတော့မှာပါ ဆရာတော်။ ဒီမျက်စိမမြင်တဲ့လူကို နေရဲ့အရောင်ဟာ ဘယ်လိုသဘော ရှိ တယ်ဆိုတာကို သိမြင်နားလည်နိုင်အောင် အလွန်ကျွမ်းကျင် နားလည်တဲ့ သမားတော်နဲ့ မျက်စိကို မြင်လာအောင် ကုသ ပေးပါမှ ဖြစ်မှာပါ ဆရာတော်။

အခု ဆရာတော်မေးတဲ့ မေးခွန်းကို ဖြေရှင်းရင်းနဲ့ နေ ရောင်ခြည်ရဲ့ သဘာဝနဲ့ပတ်သက်လို့ မွေးကတည်းက မျက်စိ

ကွယ်လာတဲ့သူကို ဘယ်လိုဘဲ ရှင်းပြပြ သိမြင် နားလည် မလာနိုင်သလိုဘဲ နိဗ္ဗာန်ရဲ့သဘော သဘာဝကို ဗုဒ္ဓရဲ့ရဟန္တာတွေကိုယ်တိုင်က ဘယ်လောက်ဘဲဟောဟော သာမန်လူသားတွေဟာ နားလည်ဘို့၊ သဘောပေါက်ဘို့ မဖြစ်နိုင်ဘူးဆိုတဲ့ အချက်ကို တပည့်တော် ရှင်းလင်းသဘောပေါက်ပါပြီ ဆရာတော်။

တပည့်တော် ဗမာပြည်မှာ နှစ်ပေါင်းများစွာ နေခဲ့စဉ်အခါက ဒီ နိဗ္ဗာန်နဲ့ ပတ်သက်တဲ့ပြဿနာကို ဆရာတော်ကြီးတွေ၊ ပညာရှိ ပုဂ္ဂိုလ်ကြီးတွေကို လျှောက်ထားခဲ့ဘူးပါတယ်။ သူတို့က ဒီပြဿနာကို ရဟန္တာပုဂ္ဂိုလ်များသာ ရှင်းလင်း ဟောပြောနိုင်တယ်။ နိဗ္ဗာန်အကြောင်းကို သိချင်ရင် မိမိကိုယ်တိုင် မဂ္ဂင်ရှစ်ပါးကို ကျင့်ရမယ်လို့ ပြောကြပါတယ် ဆရာတော်။ ဆရာတော်က မွေးကတဲက မျက်စေ့ကွယ်လာတဲ့ လူရဲ့ ဥပမာနဲ့ ရှင်းပြီး ဟောပြောတော်မူလိုက်မှဘဲ တပည့်တော်ဟာ နိဗ္ဗာန်ဆိုတဲ့ ထူးခြားရဲ့သဘောကို နားလည်သဘောပေါက်လာကာ တပည့်တော်ရဲ့ စိတ်ထဲမှာ ကာလရှည်လျားစွာ ရှုပ်ထွေးနေတဲ့ပြဿနာဟာ ရှင်းလင်းသွားပါတော့တယ် ဆရာတော်။

ဆရာတော်။ ခုနက ဦးပဥ္ဇင်းဟောခဲ့သလို မွေးကတဲက ချက်စေ့မမြင်တဲ့လူကို နေရောင်ဟာ ဘယ်လို အရောင်အဆင်းရှိတယ်၊ ဘယ်လိုပုံသဏ္ဍာန်ရှိတယ်၊ ဘယ်လိုသတ္တိ ရှိတယ်ဆိုတာကို ဘယ်လောက်ပင် ရှင်းပြရှင်းပြ စက္ခုနှစ်ကွင်း အလင်း မရသဖြင့် နေရောင်ရဲ့သဘောကို. ဘယ်နည်းနဲ့မှ နားလည်သဘောပေါက်မှာ မဟုတ်သလို ဗုဒ္ဓနှင့် ရဟန္တာအရှင်မြတ်တို့သာ သိမြင်နားလည်နိုင်တဲ့ နိဗ္ဗာန်ဆိုတဲ့တရားရဲ့ သဘောနှင့်

အနှစ်သာရဆိုလဲ အရဟတ္တမဂ် အရဟတ္တဖိုလ်ဉာဏ်ကို မရမချင်း မသိနိုင်၊သဘောမပေါက်နိုင်ဘူး ဆိုတာကို အားလုံး နားလည် သဘောပေါက်ကြစေချင်တယ်။ ဒီတရားကို နားလည်သဘော ပေါက်လိုတဲ့ အကြင်သူတဦးတယောက်ဟာ အဝိဇ္ဇာမှောင်ထု ကို မြူမှုန်မကျန်အောင် ပယ်ရှားပစ်ရလိမ့်မယ်။ ဒီ အဝိဇ္ဇာတရား ကို ပယ်ရှားပစ်ဘို့ရန်လဲ မဂ္ဂင်ရှစ်ပါးတရားကို တကယ်တမ်း မဆုတ်မနစ် အားထုတ်ရပါလိမ့်မယ်။

(ဤနေရာတွင် ပရိသတ်ထဲမှ ဒကာကြီးတယောက်က ဗတ်တတ်ရပ်လျက်)

ဆရာတော်ဘုရား၊ တပည့်တော်တို့ အိန္ဒိယပြည်နဲ့ ဗမာပြည် မှာ ရှိကြတဲ့ အမေရိကန် သာသနာပြုတွေက နိဗ္ဗာန်ဆိုတာ တာမျှ မဟုတ်ဘဲ အားလုံးဖျက်ဆီးပစ်တဲ့ တရားလို့ ယောပြော နေကြလေတော့ ဒီကနေ့ ဆရာတော် ဟောတော်မူလိုက်မှဘဲ တပည့်တော်တို့ဟာ နိဗ္ဗာန်ဆိုတဲ့တရားဟာ သူတို့ပြောသလို အားလုံးကို ဖျက်ဆီးပစ်တဲ့တရား မဟုတ်ဘဲ တကယ်ကို ချမ်း သာသုခ အပြည့်အဝရှိတဲ့တရားမှန်း နားလည် သဘောပေါက် ကြရပါတယ် ဆရာတော်။

ဤတွင် ပရိသတ်အားလုံးက သာဓု အနုမောဒနာ ပြုကြ လေကုန်သည်။

## မေးခွန်း အမှတ် ၁၀။

ဗုဒ္ဓကိုယ်တိုင်က အခြားသူများကဲ့သို့ ဇာနီးနှင့်သား ရှိပါလျက် လောဘ၊ ဒေါသ၊ တဏှာ၊ မာန၊ အဝိဇ္ဇာစသည့် တရားတို့မှ ကင်းစင်နိုင်ပါမည်လား ဆရာတော်။

(မေးမြန်းလျှောက်ထားသူ ရေစ်ယံသုန်းကြီး ဇော့ဂျ-ဝင်(လ်)ဆင်၊ အယ်(မ်)ဧ (ဇောက်ဇမို့တက္ကသိုလ်)ရေစ်ယံဘာသာ ပါရဂူ၊ ဘူ့ဘိုင်ရှိုး၊ အယ်လီဖင်စတုန်းကောလိပ်၊ အင်္ဂလိပ်ဘာသာ ပါမောက္ခ၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဓမ္မ။)

ဆရာတော်အရှင်အရိယဓမ္မ။ ဗုဒ္ဓမှာ ဇနီးလဲ ရှိတယ်၊ သားလဲရှိတယ်။ ဒါကြောင့် ဗုဒ္ဓဟာ သာမန် လူသားတယောက်သာဖြစ်ပြီး ဘုရားဆိုတဲ့ဘွဲ့ထူးနဲ့ မည်သည့်နည်းနဲ့မျှ မထိုက်တန်ဘူးဆိုတဲ့စကားဟာ ဗုဒ္ဓရဲ့ သိပ္ပံနည်းကျတဲ့ အဘိဓမ္မာတရားတွေကို မသိနားမလည်ကြတဲ့ ရေစ်ယံသုန်းကြီးများက ဗုဒ္ဓဘာသာကို မနှစ်မြို့တဲ့သဘောနဲ့ ယောပြောဝါဒဖြန့်နေကြကဲ့ စကားသာလျှင် ဖြစ်ပါတယ်။

အလွန်မြင့်မြတ်တဲ့၊ ပြိုင်ဘက်မရှိတဲ့၊ အလွန်စင်ကြယ်မြင့်မြတ်တဲ့၊ သဗ္ဗညုတဉာဏ်တော်ရှင် ဗုဒ္ဓနဲ့ ဗုဒ္ဓအဖြစ်ကို ရောက်အောင် ကျင့်နေစဉ်အခါက ဗုဒ္ဓအလောင်းအလျာနဲ့ အလွန်ကွာခြားလျက်ရှိတယ် ဆိုတဲ့အချက်ကို သူတို့ဟာ လုံးဝ မသိနားမလည်ကြဘူး။

ဇနီး ယသောဓရာမင်းသမီးနဲ့ သားတော် ရာဟုလာတို့နဲ့ နန်းမသုံးဆောင်မှာ ပျော်စံနေခဲ့တဲ့ ဂေါတမမင်းသား၊ တနည်းအားဖြင့် သိဒ္ဓတ္ထမင်းသားဟာ ဗုဒ္ဓရဲ့အလောင်းအလျာ ဗုဒ္ဓဖြစ်ဖို့ရန် ကြိုးစားနေတဲ့ အကြင်လူသားတယောက်ဘဲ ဖြစ်ခဲ့တယ်။ သူဟာ သမ္မာသမ္ဗုဒ္ဓအဖြစ် ရောက်အောင် လေ့ကျင့်ယူရမဲ့ မင်းသားတပါးဘဲဖြစ်တယ်။ ဗုဒ္ဓကိုယ်တော်တိုင် မဖြစ်သေးဘူး။

ဗုဒ္ဓဆိုတာ ဘာလဲလို့ဆိုတာကို ကွက်ကွက်ကွင်းကွင်း ထင်ထင်ရှားရှား မြင်လာအောင် ဦးပဥ္စင်းက အောက်ပါ အချက်အလက်ကို ရှင်းပြဖို့ လိုလိမ့်မယ်။

ဗုဒ္ဓအဖြစ်ကို လိုလားတောင့်တပြီး ကျင့်သုံးတဲ့လူကို ဗုဒ္ဓအလောင်းအလျာလို့ ခေါ်တယ်။ ဒီ ဗုဒ္ဓအလောင်းအလျာဟာ-

၁။ မိမိရဲ့ စည်းစိမ်ဥစ္စာကိုမပြောနဲ့ အသက်ကိုပင် လာပြီး အလှူခံမဲ့လူရှိရင် ပေးကမ်းစွန့်ကြဲမယ်ဆိုတဲ့ဒါနပါရမီ။

၂။ အသက်ပင် အသေခံပြီး စောင့်ထိန်းအပ်တဲ့ သီလကို စောင့်ထိန်းမယ်ဆိုတဲ့ သီလပါရမီ။

၃။ စည်းစိမ်ဥစ္စာဟူသမျှတွင် သာမန်လူသားတို့ အတပ်မက်ဆုံးဖြစ်တဲ့ ထီးနန်းစည်းစိမ်ကိုပင် စွန့်ပယ်၍ တောထွက်ခြင်း၊ တနည်းအားဖြင့် ဤစည်းစိမ်ဥစ္စာ ရတနာဆိုတဲ့ တရားစုတို့မှ လွတ်မြောက်အောင် ရုန်းထွက်တဲ့ နိက္ခမပါရမီ။

၄။ အသက်စည်းစိမ်ချမ်းသာကိုပင် ပမာဏမပြုဘဲ အမှန်တရားကိုသာ ကိုယ်စားပြုတဲ့ သစ္စာပါရမီ။

၅။ ရှိရှိသမျှသောတရားကို ဟုတ်တိုင်းမှန်ရာအတိုင်း ခွဲခြားစိတ်ဖြာပြီးသိနိုင်တဲ့ အသိဉာဏ်ကို ဆည်းပူးတည်ဆောက်တဲ့ ပညာပါရမီ။

၆။ အသက်အိုးအိမ် စည်းစိမ်ဟူသမျှကို ပမာဏမထားဘဲ သမုဒ္ဒရာပင်လယ်ကြီးကိုပင် လက်ပစ်ကူး၍ စွန့်စားဝံ့သော မဆုတ်မနစ်သည့် ဇွဲလုံ့လထုတ်မှု ဝီရိယပါရမီ။

၇။ မိမိရဲ့ သားသမီး ဇနီးကိုသာမက မိမိရဲ့ အသက်ကိုပင် လုပ်ကြံသတ်ဖြတ်မည့်သူဖြစ်ပေစေ မည်ကဲ့သို့မျှ မတုံ့

ပြန်တဲ့ သီးခံတဲ့အကျင့်ကို တည်ဆောက်တဲ့ ခန္တီပါရမီ။
၈။ ရှိရှိသမျှသော သတ္တဝါတို့ကို မိမိ၏ရင်သွေးရင်နှစ်သားသမီးအစစ်တို့ကဲ့သို့ ချစ်ခင်ကြင်နာခြင်း စိတ်ဓာတ်ကို တည်ဆောက်သည့် မေတ္တာပါရမီ။
၉။ မိမိပြုအံ့ဟု ရည်မှန်းထားတဲ့ မြင့်မြတ်တဲ့အရေးကိစ္စအဝဝကို ဆောင်ရွက်ရာတွင် မည်သည့် ဘေးအန္တရာယ်နှင့် ရင်ဆိုင်ရစေကာမူ မဆုတ်မနစ် လုပ်ကိုင်တဲ့ အဓိဋ္ဌာန်အကျင့်ကို တည်ဆောက်တဲ့ အဓိဋ္ဌာန ပါရမီ။
၁၀။ မည်သူ့ကိုမျှ ချစ်လည်းမချစ်၊ မုန်းလည်းမမုန်းတဲ့ လွန်ကဲတဲ့စိတ်ဓာတ်မျိုးကိုမမွေးမြူတတ်တဲ့ဥပေက္ခာပါရမီ။

အဲဒီ ပါရမီ (၁၀)ပါးကို ဖြည့်ဆည်းခဲ့ပြီး ပြည့်စုံတဲ့ အချိန်ရောက်မှ၊ နောက်ဆုံး ဗုဒ္ဓအဖြစ်သို့ ရောက်မဲ့ဘဝကျတော့မှ အလွန်မြင့်မြတ်ပြီး အကျင့်သိက္ခာနဲ့ ပြည့်စုံလှတဲ့မိခင်ရဲ့ ဝမ်းကြာတိုက်အတွင်းမှာ ပဋိသန္ဓေနေခဲ့တယ်။ ဒါဟာ ဗုဒ္ဓအလောင်းအလျာတို့ရဲ့ ကျင့်ထုံးဘဲ။

ဒီကျင့်ထုံးအတိုင်းဘဲ ဗုဒ္ဓအလောင်းတော် ဂေါတမမင်းသားဟာ မယ်တော်မာယာရဲ့ဝမ်းထဲမှာ ပဋိသန္ဓေတည်ပြီး မွေးဖွားတော်မူခဲ့တယ်။ အဲဒီနောက် အချိန်တန် အရွယ်ရောက်လာတော့ ယသောဓရာမင်းသမီးနဲ့ စုလျားရစ်ပတ် လက်ထပ်ထိမ်းမြားပြီး သားတော်ရာဟုလာ ဖွားမြင်ပြန်တယ်။ အဲဒီအခါက ဂေါတမမင်းသားဟာ ဗုဒ္ဓအဖြစ်ကို မရောက်သေးဘူး။ ဗုဒ္ဓရဲ့အလောင်းအလျာမျှသာ ဖြစ်တယ်။ အဲဒီနောက်မှ ထီးနန်းစည်းစိမ်နဲ့တကွ လောကီစည်းစိမ်အဝဝကို စွန့်ပယ်ပြီး

တောထွက်တော်မူတယ်။ တောထဲမှာ (၆)နှစ်တိုင်တိုင် သာမန်လူသားတို့ စိတ်ကူးထဲမှာပင် မထည့်ဝံ့လောက်အောင် အလွန်ပြင်းပြင်းထန်ထန် ကျင့်တော်မူတယ်။

လွန်ခဲ့တဲ့ ဘဝအဆက်ဆက်က ဖြည့်ဆည်းတည်ဆောက်ခဲ့တဲ့ (၁၀)ပါးသော ပါရမီအဟုန်နဲ့ ဝေါတမမင်းသားအဖြစ်နဲ့ (၆)နှစ်တိုင်တိုင် ပြင်းပြင်းထန်ထန် ကျင့်ခဲ့တဲ့ အကျင့်အဟုန်ဖြင့် ဝါဆိုလပြည့်နေ့ ဒုတိယ ညဉ့်ယံတွင် သစ္စာလေးပါး မြတ်တရားကို ဆရာမရှိဘဲ အလိုလို အကြွင်းမရှိ သိမြင်တော်မူခဲ့တယ်။ အဲဒီအချိန်ကစပြီး ဗုဒ္ဓအဖြစ်ကို ရောက်တော်မူတယ်။ ဗုဒ္ဓအဖြစ်ကို ရောက်တယ်ဆိုတာ၊ တနည်းအားဖြင့် သစ္စာလေးပါးကို ပိုင်းခြားထင်ထင် သိမြင်တော်မူတယ်ဆိုတာ လောဘ၊ ဒေါသ၊ တဏှာ၊ မာန၊ မိစ္ဆာ အစရှိတဲ့ အဝိဇ္ဇာတရားဟူသမျှကို မြူမျှမကျန်အောင် သုတ်သင်ပယ်ရှားနိုင်တော်မူခြင်း ဖြစ်တယ်။ ဒီသဘောကို အပြန်ပြန် ကောက်ယူမယ်ဆိုရင် ဒီအဝိဇ္ဇာတရားကို မြူမျှမကျန်အောင် မပယ်ဖျက် မရှင်းလင်းနိုင်သမျှဘယ်သူမျှ သစ္စာလေးပါး မြတ်တရားကို အထင်အရှား မသိနိုင်ဘူး၊ မမြင်နိုင်ဘူး။

ဒါကြောင့် ဗုဒ္ဓဟာ လောဘ၊ ဒေါသ၊ တဏှာ၊ မာန၊ ဒိဋ္ဌိဆိုတဲ့ တရားတွေမှ မကင်းဘူးဆိုတဲ့စကားဟာ လုံးဝ ယုတ္တိယုတ္တာကင်းမဲ့တဲ့ စကားသာလျှင် ဖြစ်တယ်။ ဒီစကားဟာ ဗုဒ္ဓဆိုတဲ့စကားရဲ့ အနက်အဓိပ္ပာယ်ကို မသိတဲ့လူများရဲ့ ပြောစကားသာလျှင် ဖြစ်တယ်။

ဗုဒ္ဓမှာ အမေဆိုတာလဲ မရှိဘူး၊ အဖေဆိုတာလဲ မရှိဘူး၊ မယားလဲ မရှိဘူး။ သားလဲ မရှိဘူး။ လူလောက၊ နတ်လောက၊

ဗြဟ္မာလောကဆိုတဲ့ လောကတွေထဲမှာ ဗုဒ္ဓနဲ့ နှိုင်းအပ်ယှဉ်အပ်တဲ့ပုဂ္ဂိုလ် တယောက်မျှ မရှိတော့ဘူး။ သူဟာ လူ၊ နတ်၊ ဗြဟ္မာသတ္တဝါအားလုံးတို့ရဲ့ ဦးတိုက်ပူဇော်ရာ ဆရာဖြစ်လာတော်မူတယ်။

ဗုဒ္ဓအလောင်းအလျာအနေနဲ့ ဘဝပေါင်း အသင်္ချေတိုင်အောင် (၁၀)ပါးသော ပါရမီတော်မြတ်ကို ကျင့်တော်မူခဲ့ရဘာက အကြောင်းတရား၊ နောက်ဆုံးဘဝမှာ ဆရာမရှိဘဲ အလိုလို သစ္စာလေးပါး မြတ်တရားကို ပိုင်းခြားထင်ထင်သိမြင်တော်မူခြင်းက အကျိုးတရား၊ တဖန် ဗုဒ္ဓအဖြစ်က အကြောင်းတရား၊ အလုံးစုံသော တရားတို့ကို သိမြင်တော်မူခြင်းက အကျိုးတရား၊ တဖန် အလုံးစုံသော တရားတို့ကို သိမြင်ရခြင်းက အကြောင်းတရား၊ နိဗ္ဗာန်တရားကို ရတော်မူခြင်းက နောက်ဆုံး အကျိုးတရားဘဲ ဒကာကြီး။ ဒီအချက်တွေကို ကြည့်ခြင်းအားဖြင့် အကြောင်းနှင့် အကျိုးတရားတို့ရဲ့ သဘောရော၊ ဗုဒ္ဓဆိုတာ ဘာလဲဆိုတဲ့ အချက်ကိုပါ နားလည်သဘောပေါက်နိုင်ပါတယ်။

ဝစ်လဆင်။ ယခု ဆရာတော် ရှင်းလင်းဟောပြတော်မူမှဘဲ တပည့်တော်တို့ဟာ ဗုဒ္ဓဆိုတာ ဘာကို ခေါ်တယ်။ ဗုဒ္ဓဆိုတာ တယ်လို ဂုဏ်အရည်အချင်းနဲ့ ပြည့်စုံရတယ်။ ဗုဒ္ဓဖြစ်အောင် ဘာတွေ ယုပ်ရတယ်ဆိုတာကို နားလည် သဘောပေါက်ကြပြီး တပည့်တော်တို့ဦးခေါင်းထဲမှာ စွဲနေတဲ့ အယူအဆမှားများဟာ ပြေပျောက်ကင်းစင်သွားရပါတယ် ဆရာတော်။

ဤတွင် လာရောက်၍ တရားနာကြသည့် ပရိသတ်က သာဓု အနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၁၁။

ဗုဒ္ဓကိုယ်တိုင် အနိစ္စရောက်ရပြီး နောက်ထပ်တဖန် ပြန်၍ ရှင်မလာနိုင်ဘဲချုပ် ငြိမ်းသွားသော ဗုဒ္ဓအား အနန္တဉာဏ်တော်ရှင်၊ အတုမရှိ ထန်ခိုးတော်ရှင်တု မည်သို့ ခေါ်နိုင်ပါမည်နည်း။

(မေးမြန်းလျှောက်ထားသူ ခရစ်ယာန်ဘုန်းကြီး ရေဗ—စ်(လ်)ဆင်၊ အယ်(မ်)ဧအ၊ ဓောက်စဖို့တက္ကသိုလ်၊ ခရစ်ယာန်ဘာသာ ဂေါရဂူ၊ ဘုံဘိုင်မြို့၊ အယ်လီဖင်စတုန်းကောလိပ်၊ အင်္ဂလိပ်ဘာသာ ပါမောက္ခ၊ ဖြေဆိုသူ ဆရာတော်အရှင်ဆရိယဓမ္မ။)

ဆရာတော်အရှင်ဆရိယဓမ္မ။ ဗုဒ္ဓပရိနိဗ္ဗာန်ပြုတာကိုသာမန်သူတို့ ကွယ်လွန်အနိစ္စရောက်တဲ့သဘောနဲ့ တူဆခြင်းဟာ အလွန်မှားယွင်းတဲ့ အယူအဆ ဖြစ်တယ်။ ဗုဒ္ဓဟာ ပရိနိဗ္ဗာန်ပြုခြင်းအားဖြင့် ဇာတိပဋိသန္ဓေ နေခြင်း၊ သေခြင်းဆိုတဲ့ တရားတို့ ချုပ်ငြိမ်းရာနိဗ္ဗာန်ကို ရောက်ခြင်း ဖြစ်တယ်။

ပရိနိဗ္ဗာန်ဆိုတဲ့ သဘောကို တကယ်တမ်း သိမြင်နားလည်နိုင်အောင် ထပါးနဲ့တပါး လုံးဝဆန့်ကျင်ဘက်ဖြစ်တဲ့ တရားနှစ်ပါးကို ဦးပဉ္ဇင်း ဝေဖန်ဆန်းစစ်ပြပါ့မယ်၊ ဒီ တရားနှစ်ပါးအနက် တပါးက မတည်မြဲတဲ့ စကြာဝဠာကြီးနဲ့ အခြားတပါးကတော့ အမြဲထမ်း တည်မြဲနေတဲ့ နိဗ္ဗာန်ဆိုတဲ့ တရားဘဲ။ ပါဠိလို ဒီ တရားနှစ်ပါးကို သင်္ခတဓာတ်နဲ့ အသင်္ခတဓာတ်လို့ ခေါ်တယ်။ စကြာဝဠာကြီးထဲမှာ ဦးပဉ္ဇင်းတို့ကမ္ဘာလို ကမ္ဘာကြီး (၁၀)ခု ဝါဝင်တယ်။ အဲဒီ ကမ္ဘာတွေဟာလဲ ဦးပဉ္ဇင်းတို့ ကမ္ဘာကြီးလိုဘဲ (၁) ပထဝီ၊ (၂) အာပေါ၊ (၃) တေဇော၊

(၄) ဝါယောဆိုတဲ့ မဟာဘုတ်ကြီး (၄) ပါးတို့ စုပေါင်းဖွဲ့စည်းထားတာ ဖြစ်တယ်။ ဒီဓာတ်ကြီး (၄)ပါးဟာ ပြောင်းလဲတတ်တဲ့သဘော ရှိတယ်။ ပျက်စီးတတ်တဲ့သဘော ရှိတယ်။ မတည်မြဲတဲ့ သဘောလဲ ရှိတယ်။ ဒါကြောင့် ဒီဓာတ်ကြီး(၄) ပါးနဲ့ဇာကွ ဒီဓာတ်ကြီး(၄)ပါးတို့ ဖွဲ့စည်းပေါင်းစပ်ထားလို့ ဖြစ်သမျှတရားစုကို သခံတဓာတ်လို့ ခေါ်တယ်။ တဖက်က နိဗ္ဗာန်ဆိုတဲ့တရားကိုတော့ အသခံတလို့ ခေါ်တယ်။ အသခံတဓာတ်ဆိုတာကတော့ အစဉ်ထာဝရ တည်မြဲတယ်၊ ဖျက်ဆီးလို့ မရဘူး၊ မပျက်စီးဘူး။ ဇာတိ၊ ဇရာ၊ မရဏဆိုတဲ့ တရားတွေမှ လုံးဝကင်းစင်တယ်။ ဒါကြောင့် ဗုဒ္ဓဟာ သူဟောပြောလိုတဲ့တရားတော်ကိုလဲဟောပြောတော်မူခဲ့ပြီး သူ့ရဲ့တရားတော်ကို သူ့ကိုယ်စား ဆက်လက်ဟောပြောတော်မူကြမဲ့ သူ့ရဲ့ချစ်သား သံဃာတော်များလဲ အမြောက်အမြား ရှိလာပြီဖြစ်လေတော့ အထက်က ဦးပဉ္ဇင်းပြောခဲ့တဲ့ ဇာတိပဋိသန္ဓေနေရခြင်း၊ အိုရခြင်း၊ နာရခြင်းဆိုတဲ့ တရားစုမှ လုံးဝကင်းစင်တဲ့ နိဗ္ဗာန်ကိုဝင်ဖို့ တနည်းအားဖြင့် ပရိနိဗ္ဗာန်ပြုဖို့ အချိန်တော်ပြီလို့ ဆုံးဖြတ်တော်မူပြီး ပရိနိဗ္ဗာန်ပြုတော်မခုမီ (၃)လက ကြိုတင်ကျေညာတော်မူပြီး နိဗ္ဗာန်ကို ဝင်သွားတော်မူခြင်းသဲ ဖြစ်တယ်၊ ဒါကြောင့် ဗုဒ္ဓဟာ ကွယ်လွန်အနိစ္စရောက်တယ်ဆိုတာ အလွန်မိုက်မဲပြီး မှားယွင်းတဲ့ အယူအဆသာ ဖြစ်တယ်။

ဗုဒ္ဓကိုယ်တော်မြတ်ဟာ အနန္တဉာဏ်တော်ရှင်၊ အနန္တတန်ခိုးရှင် ဟုတ်တယ်၊ မဟုတ်တယ်ဆိုတာကို သူ ကိုယ်တော်တိုင် ရှာဖွေဖော်ထုတ်ပြီး ဟောပြောတော်မူခဲ့တဲ့ တရားတွေကို လေ့လာ သုံးသပ်ကြည့်ဘို့ လိုတယ်။ ဗုဒ္ဓကိုယ်တော်တိုင် ဖော်

ထုတ်ပြီး ဟောတော်မူခဲ့တဲ့ တရားတော်တွေဟာ (၁) ရုပ်တရားနဲ့ဆိုင်တဲ့ သတ္တိများဖြစ်ကြတဲ့ ရုပ်တရား(၂၈)ပါး၊ (၂) စိတ်နဲ့ ပတ်သက်တဲ့ စေတသိက်တရား (၅၂)ပါး၊ (၃) စိတ်ပေါင်း (၈၉)ပါး၊ (၄) ပဋိစ္စသမုပ္ပာဒ်ဆိုတဲ့ အကြောင်းအကျိုးတရား (၁၂)ပါး၊ (၅) သစ္စာလေးပါးတရားတော်၊ (၆) အကြောင်းဖြစ်၍ ကျေးဇူးပြုတတ်သော ဟေတုပစ္စည်း၊ အာရုံဖြစ်၍ ကျေးဇူးပြုတတ်သော အာရမ္မဏပစ္စည်း၊ အကြီးအကဲဖြစ်၍ အုပ်စိုးခြင်းဖြင့် ကျေးဇူးပြုတတ်သော အဓိပတိပစ္စည်း၊ ရှေးရှေးသောစိတ် (၈၉) စေတသိက်(၅၂)တို့အနေနှင့် ကျေးဇူးပြုတတ်သော အနန္တရပစ္စည်း စသည်ဖြင့် (၂၄)ပါးသော ပစ္စည်း၊ (၇) သတိပဋ္ဌာန်(၄)ပါး (၈) သမ္မပ္ပဓာန်တရား(၄)ပါး၊ (၉) ဣဒ္ဓိပါဒ်(၄)ပါး၊ (၁၀) ဣန္ဒြေ(၅)ပါး၊ (၁၁) ဗိုလ်(၅)ပါး (၁၂) ဗောဇ္ဈင်(၇)ပါး၊ (၁၃) မဂ္ဂင်(၈)ပါး စတဲ့ တရားတော်များ ပါဝင်တဲ့ အလွန်ခက်ခဲနက်နဲတဲ့ အဘိဓမ္မာတရား[illegible] ဒီလောက် ခက်ခဲနက်နဲတဲ့ အဘိဓမ္မာတရားတော်ကို ဘယ်ဘာသာအယူဝါဒကို ထူထောင်ခဲ့တဲ့ ဘယ်ဘာသာ ဝါဒရှင်မျှ မဖော်ထုတ်မဟောပြောနိုင်ခဲ့ဘူး။ သူတို့ ရှာဖွေဖော်ထုတ် ဟောပြောခဲ့ကြတဲ့ တရားတွေနဲ့ ဗုဒ္ဓကိုယ်တော်တိုင် ဟောတော်မူခဲ့တဲ့ တရားတော်တို့ကို အတိမ်အနက်၊ အကျယ်အဝန်းချင်း တိုင်းတာကြည့်မယ်ဆိုရင် ကျွဲလူးအိုင်နဲ့ ပစိဖိတ်သမုဒ္ဒရာတမျှ ကွာခြားလျက်ရှိတာကို တွေ့ကြရပါလိမ့်မယ်။ ဒီလောက် နက်နဲတဲ့ တရားကို လူသားတွေ မပြောထားနဲ့ ဘယ်နတ် ဘယ်ပြဟ္မာကမှ မဟောပြောနိုင်ခဲ့ဘူး။

ဗုဒ္ဓကိုယ်တော်မြတ်များမှာသာ ရှိတော်မူတဲ့ လက္ခဏာတော်ကြီး ၃၂ ပါး၊ လက္ခဏာတော်ငယ် (၈၀) နဲ့ ပြည့်စုံတဲ့ ဂေါတမဗုဒ္ဓဟာ စကြာဝဠာတခုလုံးအတွင်းမှာရှိတဲ့ ဘယ်သူ၊ ဘယ်နတ်၊ ဘယ်ဗြဟ္မာမျှ မတွေးတော မကြံဆနိုင်တဲ့ အထက်က ဖော်ပြခဲ့တဲ့ အဘိဓမ္မာတရားတော်ကို ပိုင်းခြားထင်ထင် သိမြင်တော်မူရုံမျှမကဘဲ ဉာဏ်တော် (၁၀)ပါး၊ တန်ခိုးတော် (၁၀)ပါးနဲ့လဲ ပြည့်စုံတော်မူတယ်။ ဒီဗုဒ္ဓရဲ့ရွှေဉာဏ်တော် ကွန်ရက်ကို ဖြန့်လိုက်ရင် ဘယ်တရားမှ ဒီကွန်ထဲက မထွက်နိုင်ဘူး။ ဗုဒ္ဓဟာ ဘယ်အယူအဆ၊ ဘယ်ဘာသာဝါဒကိုမဆို ဇီးဖြူ၊ ဖန်ခါး၊ ရှစ်ရှားသီးများကို လက်ဝါးထဲမှာ တင်ကြည့်လိုက်သလို ပြက်ပြက်ထင်ထင် မြင်တော်မူပြီး ဘယ်ဟာ မှားတယ်၊ ဘယ်ဟာ မှန်တယ်ဆိုတာကို ချက်ခြင်း ပိုင်းခြား ဝေဖန် ဆန်းစစ် ပစ်နိုင်တော်မူတယ်။ ဒါကြောင့်လဲ သူ့ခေတ်အတွင်းမှာ ခေတ်စားနေတဲ့၊ မှားယွင်းနေတဲ့ အယူဝါဒ၊ တနည်းအားဖြင့် (၆၂)ပါးသော ဒိဋ္ဌိတွေကို ရွှေဉာဏ်တော်ကွန်ရက်နဲ့ တခါထဲ ဖမ်းပြီး ချေမှုန်းပစ်နိုင်တာပေါ့။ ဒီ ဒိဋ္ဌိ(၆၂)ပါးကို ဖမ်းပြီး ဝေဖန် တိုက်ဖျက်ပစ်တာကို ဗြဟ္မဇာလသုတ်မှာ အတိအလင်း ဟောထားတာဘဲ။

ဒါကြောင့် ဗုဒ္ဓဟာ အတုမရှိ၊ နှိုင်းယှဉ်စရာမရှိလောက်အောင် ထူးခြား မြင့်မြတ်တော်မူတယ်လို့ ဆိုထားတာပေါ့။ ဗုဒ္ဓဟာ သာမန်လူသားတွေလို ကွယ်လွန်အနိစ္စရောက်တာ မဟုတ်ဘူး။ ဘယ်တော့မှ မအိုတဲ့၊ မနာတဲ့၊ မသေတဲ့ အို၊ နာ၊ သေဘေးတို့မှ အစဉ်ထာဝရ ကင်းစင်လွတ်မြောက်တဲ့ နိဗ္ဗာန်ကို ဝင်တော်မူခြင်း ဖြစ်တယ်။ ဒါကြောင့် ဗုဒ္ဓဟာ အနန္တဉာဏ်

တော်၊ အနန္တတန်ခိုးတော်ရှင် ဖြစ်တော်မူတာပေါ့။ ကဲ ပါမောက္ခကြီး၊ ဦးပဥ္စင်း အခုဟောတဲ့ တရားတွေကို သဘော ပေါက်ပြီလား၊ ကျေနပ်ရဲ့လား။

ဝစ်လဆင်။ ဆရာတော်ဟာ တပည့်တော် ရည်မှန်းချမြှော် လင့်ထားတာထက်ပင် ဒီပြဿနာနဲ့ ပတ်သက်လို့ ဖြိုရှင်းလင်း အောင် ဟောပြောနိုင်လေတော့ တပည့်တော်မှာ ဆရာတော် ရဲ့ ဟောပြောချင်းပြချက်တို့ကို ကျေနပ်နှစ်ခြိုက်စွာ သဘော ပေါက်လှပါပြီ ဘုရား။

ဤသို့ တရားနာပရိသတ်က သာခု အနုမောဒနာ ခေါ် ကြလေသည်။

## မေးခွန်း အမှတ် ၁၂။

ခရစ်တော်၏ ဟောပြောချက်များသည် ဗုဒ္ဓ၏ ဟောပြောချက် များနှင့် အဘယ့်ကြောင့် ဆင်တူနေသနည်း။ ခရစ်တော်သည် အရိမိတေယျဘုရား၏ အလောင်းတော် ဖြစ်သည်ဟူသော စကား မှန်ပါသလော။

(မေး၊ မြန်းလျှောက်ထားသူ ခရစ်ယံဘုန်းကြီး ဂျေ၊ ဝစ်(လ်)ဆင်၊ အယ်(မ်)အေ (အောက်စဖို့တက္ကသိုလ်) ဘုံဘိုင်မြို့၊ အက်လီဖင်စတုံးကောလိပ်ကျောင်း၊ အင်္ဂလိပ် ဘာသာ ပါမောက္ခ၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဓမ္မ။)

ဆရာတော်အရှင်အရိယဓမ္မ၊ ချစ်ခင်ကြင်နာစိတ် ထားရှိ ရေး၊ ကရုဏာတရား ပွားများရေး၊ သီးခံရေး၊ အပြစ်မှ ခွင့် လွှတ်ရေးစတဲ့ အရေးကိစ္စတို့နဲ့ပတ်သက်ပြီး ခရစ်တော် ဟော ပြောထားတဲ့ တရားများဟာ ဗုဒ္ဓကိုယ်တော်မြတ်ကိုယ်တိုင်

ဟောပြောတော်မူတဲ့ တရားများနဲ့ ဆင်တူပါတယ်။ ဒါပေမဲ့ ဒီလို ဆင်တူသလိုလိုရှိတာနဲ့ ခရစ်တော်ဟာ အရှိမိတေယျ အလောင်းတော်ဘဲ ဖြစ်တယ်ဆိုတဲ့ စကားကတော့ အကြောင်း အကျိုး ဆက်စပ်မှုသဘောတရားနဲ့ ကန့်လန့်ဆန့်ကျင် ဖြစ်နေ တယ်။ အဲဒီတော့ ဒီအယူအဆကို ပယ်ရှားပစ်ဖို့ရန် ဦးပဉ္ဇင်း က အမေးပုစ္ဆာအချို့ကို မေးဖို့ လိုပါလိမ့်မယ်။ အဲဒီ အမေး ပုစ္ဆာတွေကို ဒကာကြီးက ဖြေဆိုစေလိုပါတယ်။

(ဤကဲ့သို့ ဆရာတော်က မိန့်မြွက်တော်မူပြီးနောက် အောက်ပါ မေးခွန်းကို စတင်မေးပါသည်။)

ဆရာတော်။ ဘယ်အရွယ်မှာ ခရစ်တော်ဟာ ရေဟူဒီ လူမျိုးတို့ရဲ့ ဘုရားကျောင်းမှ ထွက်ခွာပြီး ပျောက်ကွယ်သွား ပါသလဲ ဒကာကြီး။

ဝစ်လဆင်။ ခရစ်တော်ဟာ (၁၂) နှစ်အရွယ်မှာ ရေဟူဒီ လူမျိုးတို့ရဲ့ ဘုရားကျောင်းမှ ထွက်ခွာပြီး အမိအဘတို့ကို စွန့် ခွာသွားခဲ့ပါတယ်။

ဆရာတော်။ ခရစ်တော်ဟာ ဘယ်အရွယ်ကစပြီး တရား ဟောသလဲ။

ဝစ်လဆင်။ ခရစ်တော်ဟာ သူ့ရဲ့တရားမွေတို့ကို သက် တော်(၃၀)က စတင် ဟောခဲ့ပါတယ် ဆရာတော်။

ဆရာတော်။ ဒါဖြင့်ရင် အသက်(၁၂)က အသက်(၃၀) အထိ (၁၈)နှစ်လုံးလုံး ခရစ်တော်ဟာ ဘယ်သွားနေပါသလဲ။

ဝစ်လဆင်။ ဒီ (၁၈)နှစ်လုံးလုံး ခရစ်တော်ဟာ သူ့ရဲ့ မွေးစားဖခင် သျှင်ယောသပ (စိန့်ဂျိုးဇက်)နဲ့ အတူတကွ နေထိုင် လျက်ရှိပါတယ် ဆရာတော်။

ဆရာတော်။ ဒီ အငြိုးတန်တဲ့(၁၈)နှစ်လုံးလုံး ခရစ်တော်ဟာ ဘာများ လုပ်နေပါသလဲ။

ဝစ်လဆင်။ သူ့ရဲ့ မွေးစားဖခင် သျှင်ယောသကို ကူညီပြီး လက်သမားအလုပ်ကို လုပ်နေဟန် တူပါတယ် ဆရာတော်။

ဆရာတော်။ ဒါဖြင့် ခရစ်တော်ဟာ လူသားတို့အား အကုသိုလ်ကံတရားမှ တနည်းအားဖြင့် ငရဲဘုံမှ ကယ်တင်ရန် မွေးဖွားလာခြင်း မဟုတ်ဘဲ သျှင်ယောသကို လက်သမားအလုပ်မှာ ဝင်ရောက်ကူညီဘို့ရန် မွေးဖွားလာရတယ်လို့ ဆိုလိုပါသလား ဒကာကြီး။

ဝစ်လဆင်။ ခရစ်တော်ဟာ လူသားတို့ကို အကုသိုလ်ကံတရားမှ တနည်းအားဖြင့် ငရဲဘုံမှ ကယ်တင်ရန် ဖွားမြင်လာခြင်း ဖြစ်ပါတယ်။ ဒါပေမဲ့ သူ၏တရားမေ့တို့ကို ဟောပြောရန် ဖခင် ယာဝေဘုရားသခင်ရဲ့ အမိန့်တော်ကို စောင့်မျှော်နေခြင်းသာ ဖြစ်ပါတယ် ဘုရား။

ဆရာတော်။ ဒါဖြင့် ခရစ်တော်ဟာ ဖခင် ယာဝေဘုရားသခင်ရဲ့ အမိန့်တော်ကို စောင့်နေဆဲ (၁၈) နှစ်ကာလအတွင်း သေကြရတဲ့ သန်းပေါင်းများစွာသော လူတွေဟာ ကောင်းကင်ဘုံနန်းကိုဘဲ သွားသလား၊ ငရဲပြည်ကိုဘဲ သွားကြရသလား။

ဝစ်လဆင်။ ဒီ(၁၈)နှစ် ကာလအတွင်း သေကြေပျက်စီးကြရတဲ့ လူတွေဟာ အကုသိုလ်ကံထဲ နစ်မွန်းပြီး ငရဲဘုံသို့ ရောက်ကုန်ကြရပါတယ် ဆရာတော်။ ဘာပြုလို့လဲဆိုတော့ အဲဒီ လူသားတွေအတွက် ကောင်းကင်ဘုံနန်းတံခါး မပွင့်သေးလို့ပါ ဆရာတော်။

ဆရာတော်။ ဒကာကြီး ယခုပြောတဲ့ စကားအရဆိုရင် ခရစ်တော်ဟာ လူသားဘာရပ်လုံးကို ကယ်တင်တဲ့ပုဂ္ဂိုလ်သိ မဟုတ်ဘဲ သူ့ကိုလက်ဝါးကပ်တိုင်မှာ ကပ်ချည်ပြီး သေကြရတဲ့ လူတွေကိုသာ ကယ်တင်တဲ့ ပုဂ္ဂိုလ်ပေါ့။

ဝစ်လဆင်။ ဒီမေးခွန်းဟာ ခက်ခဲရှုတ်ထွေးတဲ့ မေးခွန်းဖြစ်တဲ့အတွက် တပည့်တော် မဖြေထတ်ပါ ဆရာတော်။

ဆရာတော်။ ဒကာကြီး ဒါကို မဖြေနိုင်ရင် ဒကာကြီးတို့ရဲ့ ဂိုဏ်းမကြီးဖြစ်တဲ့ အင်္ဂလန်ပြည်ဂိုဏ်းချုပ်က ဖြေနိုင်ပါ့မလား။

ဝစ်လဆင်။ ဒါဟာ နက်နဲရှုတ်ထွေးတဲ့ ပြဿနာတရပ်ဖြစ်တဲ့အတွက် အင်္ဂလန်ပြည် ကင်တာဘာရီမြို့က ဂိုဏ်းချုပ်ကြီးလဲ ဖြေနိုင်မှာ မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ "နက်နဲရှုတ်ထွေးတဲ့"ဆိုတဲ့စကားရဲ့အဓိပ္ပာယ် ဟာ ဘာလဲ ဒကာကြီး။

ဝစ်လဆင်။ နက်နဲရှုတ်ထွေးတယ်ဆိုတာဟာ သာမန်လူသားထက် တတ်သိနားလည်တဲ့ နတ်အစရှိတဲ့ သူတို့ကိုယ်တိုင် မဖြေရှင်းနိုင်တဲ့ လျှို့ဝှက်ထားတဲ့ အမှန်တရားပါဘဲ ဆရာတော်။ ဒီတရားကို ထာဝရဘုရားသခင်ကိုယ်တော်မြတ်သာလျှင် ဖြေရှင်းနိုင်ပါမယ် ဆရာတော်။

ဆရာတော်။ ဒါဖြင့် ဒကာကြီးတို့ရဲ့ ခရစ်ယာန်ဘာသာမှာ လျှို့ဝှက်တဲ့ အမှန်တရားများ ပါဝင်လျက် ရှိတယ်ပေါ့။ ဒါဖြင့်ရင် ခရစ်ယာန်ဘာသာတရားတော်ဟာ မပြည့်စုံသေးဘူးလို့ ဆိုရပေလိမ့်မယ်။ ယခုတိုင် ခရစ်ယာန်ဘာသာတရားနဲ့ဆိုင်ရာ တရားအချို့ဟာ မှောင်ထဲမှာဘဲ ရှိနေသေးတယ်ပေါ့။ ဟုတ်သလား ဒကာကြီး။

ဝစ်လဆင်။ တပည့်တော်မှာ အခြားအဖြေပေးစရာ မရှိလေတော့ ဟုတ်ပါတယ်လို့ဘဲ ဝန်ခံရမှာဘဲ ဆရာတော်။

ဆရာတော်။ ခရစ်တော်ရဲ့ ဒီ(၁၈)နှစ်လုံးလုံး တိမ်မြုပ်ကွယ်ပျောက်နေတဲ့ဘဝကို အမေရိကတိုက် ချီကာဂိုမြို့က ကမ္ဘာကျော် ခရီးလှည့်လည်သူ သုတေသနပုဂ္ဂိုလ် ပါမောက္ခ ဂိုးရစ်(ခ်)ရဲ့ မှတ်တမ်းအရ ဦးပဥ္စင်း ယခု ရှင်းလင်းပြပါ့မယ်။ ဒကာကြီး ဂရုစိုက်ပြီး နားထောင်စေချင်ပါတယ်။

ပါမောက္ခ ဂိုးရစ်(ခ်)ဟာ တိဘက်ပြည် ဗုဒ္ဓဘာသာဘုန်းတော်ကြီးကျောင်းများမှ ခရစ်တော်ကိုယ်တိုင် ယေပြဲဘာသာနဲ့ ရေးသားထားတဲ့ မှတ်စုကို ရခဲ့ပြီး ၁၉၂၅ ခုနှစ်က "ခရစ်တော်၏ မသိသေးသော လွှန်သင်ဟောပြောချက်များ"ဆိုတဲ့ နာမည်နဲ့ စာအုပ်တအုပ်ကို ရေးသားထုတ်ဝေခဲ့တယ်။ ခရစ်ယံဘာသာကို အလွန်သက်ဝင်ယုံကြည်တဲ့ ပါမောက္ခ ဂိုးရစ်(ခ်)ဟာ (၁၈)နှစ်လုံးလုံး ခရစ်တော် ဒီလိုနစ်မြုပ် ကွယ်ပျောက်နေတဲ့ အကြောင်းကို အလွန်သိလိုလှလို့ အမေရိကမှာရှိတဲ့ ခရစ်ယံသာသာဂိုဏ်းချုပ် ဂိုဏ်းအုပ်တို့ကို မေးမြန်းကြည့်တယ်။ ဒါပေမဲ့ ဒီကိစ္စနဲ့ပတ်သက်လို့ ဘယ်သူကမှ သူ့ကို ရှင်းလင်းမပြောနိုင်ခဲ့ဘူး။ ဒါနဲ့ဘဲ ဒီကိစ္စနဲ့ ပတ်သက်လို့ သူကိုယ်တိုင် သုတေသနလုပ်ငန်း ထွက်လုပ်တယ်။ ဒီလို ဘယ်သလီယန်၊ ဂျေရှုဆလင်၊ ကိုင်ရို၊ တူရကီ၊ အိန္ဒိယနဲ့ တိဘက်ပြည်တွေမှာ အားတက်သရော ကြိုးပမ်းပြီး လိုက်လံစုံစမ်းတော့ နောက်ဆုံး တိဘက်ပြည်တောင်ပိုင်းမှုန်ဘုန်းတော်ကြီးကျောင်းမှ ကျောင်းထိုင်ဆရာတော် မဟာထေရ်မြတ်ကို ခရစ်တော်ကိုယ်တိုင် စာရွက်ပေါင်း(၁၀၀)ပေါ်မှာ သူကိုယ်တိုင် ဒီ(၁၈)

နှစ်အတွင်း တွေ့ကြုံခဲ့ရတဲ့ အတွေ့အကြုံတွေကို မှတ်တမ်းတင်ပြီး ကြိုးနဲ့ကျကျနန ချည်နှောင်ကာ သူ့ကို တရားဓမ္မများ ဟောပြောသွန်သင်တဲ့အနေနဲ့ ကန်တော့ခဲ့တဲ့ မှတ်တမ်းကို ရခဲ့တယ်။ အဲဒီမှတ်တမ်းထဲမှာ ခရစ်တော်ကိုယ်တိုင် အောက်ပါအတိုင်း ရေးသားထားတာကို တွေ့ရှိရတယ်လို့ ဂိုးရစ်(ခ်)က ရေးသားပြတယ်။

"ကျွန်ုပ်အား အသက်(၁၂)နှစ်အရွယ်သို့ ရောက်သောအခါ ရေဟူဒီလူမျိုးတို့၏ ထုံးကမ်းစဉ်လာအရ ရေဟူဒီဘုန်းတော်ကြီးကျောင်းသို့ နေ့ဦးရာသီပွဲတော်အတွင်း ခေါ်သွားကြပါသည်။ ထိုရေဟူဒီကျောင်း၌ ရေဟူဒီဆရာတော်ကြီးများသည် ထာဝရဘုရားသခင်၏ ဖန်ဆင်းခြင်း၊ သူ၏ကရုဏာ၊ သူ၏ဒေါသအမျက်၊ သူ၏တရား မှန်ကန်ခြင်း စသည့် တရားတို့ကို ဆွေးနွေးနှီးနှောနေကြ၏။ ကျွန်ုပ်အတိုး၏ အရှိန်အဝါဖြင့် ကျွန်ုပ်သည် ရေဟူဒီဘုန်းတော်ကြီးများအား ကျွန်ုပ်မသိနားမလည်သည့် အချက်တို့ကို ဝင်၍ မေးမြန်းခွင့် ရရှိခဲ့၏။ ကျွန်ုပ် ပထမဦးဆုံး မေးမြန်းသည့် မေးခွန်းကား-

"ယေဟိုးဝါသည် အချို့ကို လူချမ်းသာ၊ အချို့ကို လူဆင်းရဲ၊ အချို့ကိုပညာရှိ၊ အချို့ကို လူအ၊ အချို့ကို လူကောင်း၊ အချို့ကို လူယုတ်မာ၊ အချို့ကို ရုပ်ရေအလှအပ၊ အချို့ကို အရုပ်ဆိုး အကြည်းတန်၊ အချို့ကို အသက်ရှည်ရှည်၊ အချို့ကို အသက်တိုတို၊ အချို့ကို မျက်စိအကောင်း၊ အချို့ကို မျက်စိမမြင်၊ အချို့ကို ကျန်းကျန်းမာမာ၊ အချို့ကို ရောဂါသည်၊ အချို့ကို အားအင်အကောင်း၊ အချို့ကို အားအင်အချိအနဲ့

အစရှိသည်ဖြင့် လူအချင်းချင်း ကွဲပြားခြားနားစွာ အဘယ်ကြောင့် ဖန်ဆင်းထားပါသလဲ''ဟု ဖြစ်၏။

ထိုအခါ ရေဟူဒီဘုန်းတော်ကြီးများနှင့် ပရိသတ်အားလုံးသည် အံ့အားသင့်သွားကြ၍ ကျွန်ုပ်၏ မေးခွန်းကို မဖြေနိုင်ကြသဖြင့်—

''အို သူငယ်၊ ဤအချက်ကို ယေဟိုးဝါသာလျှင် သိနိုင်သည်''ဟု ရေဟူဒီဘုန်းတော်ကြီးများက ပြန်ပြောကြ၏။

တဖန် ကျွန်ုပ်က—

''ယေဟိုးဝါသည် အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ်ဟူ၍ သုံးပါးသော ကာလတို့ကို သိပါလျက်နှင့် အဘယ့်ကြောင့် ငရဲဘုံကို ဖန်ဆင်းခဲ့ပါသနည်း''ဟု မေးမြန်းပါသည်။

ထိုအခါ ရေဟူဒီ ဆရာတော်များက-

''ယုတ်မာ ညစ်ညမ်းသူတို့ကို အပြစ်ဒဏ်ပေးရန် ငရဲဘုံကို ဖန်ဆင်းခဲ့သည်''ဟု ပြန်ဖြေ၏။

ထို့နောက် တဖန်-

''ယေဟိုးဝါသည် သူ၏ဖန်ဆင်းမှုနှင့်ဆိုင်ရာ အနာဂတ်ကာလ၏သဘောကို သိမြင်ပါလျက်နှင့် အဘယ့်ကြောင့် ယုတ်မာညစ်ညမ်းသူတို့ကို ဖန်ဆင်းရပါသနည်း''ဟု ကျွန်ုပ်က ထပ်၍ မေးလိုက်ပြန်၏။ ထိုအခါ အားလုံးသော ရေဟူဒီဘုန်းတော်ကြီးများသည် မည်သို့မျှ မဖြေနိုင်ကြတော့ဘဲ ကျွန်ုပ်အား သူတို့အားလုံး၏ ဂိုဏ်းချုပ်အဖြစ် ရွေးကောက် တင်မြှောက်ကြ၏။ ထို့နောက် ကျွန်ုပ်သည် ကျွန်ုပ်၏ မြင့်မြတ်သည့် အာထူးအရှိန်ကို အသုံးပြုလျက် နှင်တံတချောင်းကိုယူကာ

ဘုရားတန်ဆောင်းထဲ၌ သူတို့လုယက်တိုက်ခိုက်၍ရသော ပစ္စည်းတို့ကို ရောင်းချနေကြသူများအား နှင်တံနှင့်ရိုက်ပြီး-

"ဤနေရာကား ယေဟိုးဝါဘုရားတန်ဆောင်း ဖြစ်သည်၊ အသင်တို့အတွက် ဈေးရောင်းစရာနေရာ မဟုတ်"ဟု ဆိုကာ နှင်ထုတ်ပစ်လိုက်၏။

ယေဟိုးဝါ၏ တရားကား ရှက်ဖွယ်ဖြစ်နေကြောင်း၊ အခြေအမြစ်မရှိကြောင်းကို သိမြင်လာသော ကျွန်ုပ်သည် အလွန်မြင့်မြတ်သည့် ဂုဏ်ထူး၊ နေရာထူးတို့ကို ရနေသည့်တိုင်အောင် ဤမဟုတ်မမှန်သော စကားကို ရှုံ့ရှာမုန်းတီး၍ 'အမှန်တရား' ကို မတွေ့တွေ့အောင် ရှာကြံမည်ဟု သန္နိဋ္ဌာန်ချလိုက်၏။ ထိုနောက် ကျွန်ုပ်သည် ဘုရားရှိခိုးကျောင်းထဲမှထွက်၍ မြို့တော်မှ ထွက်ခွာလာခဲ့၏။ ငါးမိုင် ခြောက်မိုင်ကျော်ခန့် လမ်းလျှောက်မိသောအခါ ခရီးသွားကုန်သည်တစုနှင့် တွေ့၏။ သူတို့၏ ဝတ်စားဆင်ယင်ပုံမှာ ရေဟူဒီလူမျိုးများနှင့် ကွဲပြားခြားနားလျက်ရှိရာ သူတို့သည် တိုင်းတပါးမှ လာရောက်ကြသည့် ကုန်သည်များ ဖြစ်ရမည်ဟု သတိပြုမိ၏။ သို့နှင့် သူတို့အနီးသို့ ချဉ်းကပ်လိုက်ရာ ကံအားလျော်စွာ သူတို့ခေါင်းဆောင်နှင့်တွေ့ပြီး သူတို့အား "မည်သည့်အရပ်မှ မည်သည့်ကိစ္စဖြင့် လာကြသနည်း"ဟု မေးမြန်းလိုက်ပါသည်။

ထိုအခါ ခရီးသွားကုန်သည်များ၏ ခေါင်းဆောင်များက သူတို့သည် တိဘက်ပြည်မှ ဖြစ်ကြောင်း၊ တိဘက်ပြည် သားရေများ၊ ဦးချိုများနှင့် ထူးဆန်းသည့်ပစ္စည်းများကို ဂျေရုဆလင်မြို့မှ ရွှေငွေ ကျောက်သံပတ္တမြားနှင့် အခြားအတိုးတန်ဆေးဝါးတို့နှင့် ဖလှယ်ရန် လာကြကြောင်း ပြောပြ၏။ ကျွန်ုပ်

သည် ခေါင်းဆောင်၏ စိတ်နေသဘောထားကို သဘောကျမိသဖြင့် စကားပြောရင်း ဆိုရင်းနှင့်ပင် လောက၌ အချို့လူတို့က ဆင်းရဲ၊ အချို့က ရုပ်ချော၊ အချို့က အကြည့်တန်၊ အချို့က ကျန်းမာ၊ အချို့က ချို့နဲ့လျက် အဘယ့်ကြောင့် မညီမမျှ မွေးဖွားကြသနည်းဟူသော ရေဟူဒီတုန်းကြီးများအား ပထမဆုံးမေးသည့် မေးခွန်းကို မေးကြည့်၏။

ထိုအခါ ကုန်သည် အဖွဲ့ခေါင်းဆောင်က-

''အို ချစ်လှစွာသော သူငယ်၊ လူသားများအနက် အချို့က ဆင်းရဲ၊ အချို့က ချမ်းသာ၊ အချို့က ပညာရှိ၊ အချို့က ပညာမဲ့၊ အချို့က ရုပ်ချော၊ အချို့က အကြည့်တန်၊ အချို့က ကျန်းကျန်းမာမာ၊ အချို့က အင်အားချို့နဲ့ အဖြစ်ဖြင့် တဦးနှင့်တဦး အသွင်မတူဘဲ မွေးဖွားကြရသည်မှာ အတိတ်ဘဝက ကာယကံ၊ ဝစီကံ၊ မနောကံ တည်းဟူသော ကမ္မသတ္တိတို့ကြောင့်ပင် ဖြစ်၏။ ရုပ်အဆင်းအားဖြင့် လှပချောမွေ့၍ လှပသော အဝတ်တန်ဆာတို့ကို ဝတ်ဆင်ပြီးလျှင် မှန်ရှေ့တွင် ရပ်လိုက်သောအခါ လှပ၍ ကျက်သရေရှိသော အသွင်သဏ္ဌာန်သည် ထင်လာကာ ရုပ်အဆင်းအားဖြင့် ဆိုးဝါး၍ စုတ်ပြတ်ဟောင်းနွမ်းသော အဝတ်တို့ကို ဝတ်ဆင်ထားသူတယောက်သည် မှန်ရှေ့တွင် ရပ်လိုက်သောအခါ အရုပ်ဆိုး၍ ကျက်သရေယုတ်လှသည့် အသွင်သဏ္ဌာန်သည် ထင်လာဘိသကဲ့သို့ အချို့လူသားတို့သည် အတိတ်ဘဝက ကမ္မသတ္တိကောင်းကြသဖြင့် စည်းစိမ်ဥစ္စာ ချမ်းသာကြ၏၊ ရုပ်အဆင်းသဏ္ဌာန် လှကြ၏၊ ဂုဏ်ဉာဏ် ထက်မြက်ကြ၏၊ ကျန်းမာသန်စွမ်းကြ၏၊ ကိုယ်လက်အင်္ဂါ ပြည့်စုံကြ၏၊ အသက်ရှည်ကြ၏။ အချို့လူသားတို့

ကား အတိတ်ဘဝက ကမ္မသတ္တိ ညံ့ဖျင်းကြသောကြောင့် ဆင်းရဲနွမ်းပါးကြ၏၊ အရုပ်ဆိုး အကြည့်တန်ကြ၏၊ အသိဉာဏ်ကင်းမဲ့ထုံထိုင်းကြ၏၊ အင်အားချိနဲ့ကြ၏၊ ကိုယ်အင်္ဂါမပြည့်မစုံ ချို့တဲ့ကြ၏။ ဤကဲ့သို့ လူသားအချင်းချင်း တဦးနှင့်တဦး ကွဲပြားခြားနားကြရခြင်းမှာ အထက်က ပြောခဲ့သကဲ့သို့ အတိတ်ဘဝက ကမ္မသတ္တိ အဆိုးနှင့်အကောင်းအရသာ ဖြစ်၏။ မည်သည့် ယာဝရဘုရား၊ သို့မဟုတ် ယေဟိုးဝါ၏ ဖန်ဆင်းမှုကြောင့်မျှ မဟုတ်ချေ။ တနည်းအားဖြင့် ဥပမာပေးရသော် ဥယျာဉ်မှူးတယောက်သည် ချိုမွှေးသောအပင်ကို စိုက်လျှင် ချိုမွှေးသောအသီးကို စားရ၍ ခါးသောအပင်ကို စိုက်လျှင် ခါးသောအသီးကို စားရသကဲ့သို့ ဖြစ်၏။''

ကုန်သည်ခေါင်းဆောင်ကြီးက ဖြေလိုက်သည့် အဖြေကို ကြားလိုက်သောအခါ ကျွန်ုပ်သည် အလွန် ဝမ်းသာအားရဖြစ်ကာ သူ့အား ''မည်သူဟောကြားသည့် တရားတို့ကို လိုက်နာပါသနည်း''ဟု မေးမိ၏။

ထိုအခါ ကုန်သည်ခေါင်းဆောင်ကြီးက- ''အို ချစ်လှစွာသော သူငယ်၊ ကျွန်ုပ်ကား ဗုဒ္ဓကိုယ်တော်မြတ် ဟောကြားတော်မူသော တရားကိုသာ လိုက်နာကျင့်သုံး၏။ ဗုဒ္ဓကိုယ်တော်မြတ်သည် လောကသုံးပါးတွင် ပညာအရှိဆုံး ဖြစ်သည်။ အလုံးစုံသော တရားတို့ကို အကြွင်းမဲ့ သိတော်မူသည့် သဗ္ဗညုတဉာဏ်တော်ရှင်လည်း ဖြစ်သည်။ မေတ္တာကြွာတရားရှင်လည်း ဖြစ်သည်။ သစ္စာလေးပါး တရားတော်ကိုလည်း ပိုင်းခြားထင်ထင် သိမြင်တော်မူသည်။ အနန္တဉာဏ်တော်၊ အနန္တတန်ခိုးတော်ရှင်လည်း ဖြစ်တော်မူသည်''ဟု ပြန်၍ ဖြေကြား၏။

ထိုအခါ ကျွန်ုပ်သည် ဗုဒ္ဓကိုယ်တော်မြတ် ဟောကြားတော်မူသည့် တရားဒေသနာတို့ကို လိုက်နာ ကျင့်သုံးလိုလှသဖြင့် ကျွန်ုပ်၏ မိတ်ဆွေသစ် ကုန်သည်ခေါင်းဆောင်ကြီးအား ကျွန်ုပ်ကို တိဘက်ပြည်သို့ ခေါ်ဆောင်၍ ဆရာတော်ကြီးတပါးထံ အပ်နှံပေးပါရန် တောင်းပန်လိုက်၏။ ကျွန်ုပ်က ဤကဲ့သို့ တောင်းပန်လိုက်သောအခါ ကုန်သည်ခေါင်းဆောင်ကြီးက-

"အို သူငယ်၊ ကျွန်ုပ်သည် သင့်အား ကျွန်ုပ်တို့ တိဘက်ပြည်သို့ ခေါ်သွားလိုပါ၏။ သို့ရာတွင် သင်သည် အသက်အရွယ်အားဖြင့် အလွန်နုနယ်၍ မိဘနှစ်ပါးတို့၏ အုပ်ထိန်းခြင်းမှ မကင်းလွတ်သေးသဖြင့် သင့်၏မိဘများကိုယ်တိုင် သင့်အား ကျွန်ုပ်၏ လက်တွင်းသို့ မအပ်နှံသမျှ ကျွန်ုပ်သည် သင့်အား တိဘက်ပြည်သို့ ခေါ်၍မသွားနိုင်ပါ"ဟု ပြန်၍ ဖြေဆိုပါသည်။

ဤတွင် ကျွန်ုပ်က-

"အို မိတ်ဆွေ ကုန်သည် ခေါင်းဆောင်ကြီး၊ ဤကိစ္စနှင့် ပတ်သက်၍ စိုးစဉ်းမျှ မစိုးရိမ်ပါလင့်။ ကျွန်ုပ်သည် အသက်အရွယ်အားဖြင့် အလွန်နုနယ်လှပေါ်လည်း အသိပညာနှင့် ပတ်သက်သောအခါ မနုနယ်ပါ။ ရာထူးဌာနန္တရအားဖြင့် မြင့်မားသူတဦး ဖြစ်ပါသည်။ ကျွန်ုပ်၏ ခန့်ငြားထယ်ဝါလှသည့် ဝတ်စုံနှင့် ဤအထိမ်းအမှတ် လက်စွပ်တို့ကို ကြည့်ပါ။ ကျွန်ုပ်သည် ဤမြို့မှ ရဟူဒီဘုန်းကြီးများထဲတွင် အချုပ်အခြာ ဖြစ်ပါသည်။ ကျွန်ုပ်သည် ကျွန်ုပ်မသိ မမြင်ခဲ့ဘူးသည့် ယေဟိုးဝါ၏ မူမမှန်သောတရားတို့ကို မုန်းတီးရွံရှာလှသဖြင့် သစ္စာတရားကို မရရအောင်၊ မတွေ့ တွေ့အောင် ရှာဖွေလေ့လာမည်ဟူသော ဆုံးဖြတ်ချက်ဖြင့် ကျွန်ုပ်၏ကျောင်းကို စွန့်ခွာခဲ့သူ

ဖြစ်၏။ အကယ်၍သာ ကျွန်ုပ်သည် သင်နှင့် ယခုကဲ့သို့ မတွေ့ခဲ့ပါက သစ္စာတရားကို ရှာဖွေရန် တောကြီးမျက်မည်းထဲသို့ ရောက်နေမည် ဖြစ်၏။ ထို့ကြောင့် ကျွန်ုပ်သည် သင်နှင့် တွေ့သည်ဖြစ်စေ၊ မတွေ့သည်ဖြစ်စေ၊ သင်က ခေါ်သည်ဖြစ်စေ၊ မခေါ်သည် ဖြစ်စေ၊ ဤမြို့ ဤဒေသမှ အမှန်မုချ ထွက်ခွာမည် ဖြစ်သည်''

ကုန်သည် ခေါင်းဆောင်ကြီးသည် ကျွပ်နိုပ်၏ ရဲရင့်တိကျသော စကားနှင့် ပြင်းထန်သော ဆုံးဖြတ်ချက်တို့ကို ကြားသောအခါ ကျွန်ုပ်အား တိဘက်ပြည်သို့ ခေါ်သွားရန်နှင့် တိဘက်ပြည်သို့ ရောက်သောအခါ သူ ကိုးကွယ်ဆည်းကပ်သည့် ဆရာတော်ကြီးထံ အပ်နှံပေးရန် သဘောတူလေ၏။

ကံကောင်းထောက်ပံ့သဖြင့် ခရီးသွားကုန်သည်တို့သည် ထိုနေ့မှာပင် တိဘက်ပြည်သို့ ပြန်ကြရန် စီစဉ်ထားကြသောကြောင့် ကျွန်ုပ်သည် ချက်ချင်းပင် သူတို့နှင့်အတူ တိဘက်ပြည်သို့ လိုက်သွားခွင့်ရခဲ့၏။ (၄) လကြာမျှ အလွန်ပြင်းပြင်းထန်ထန်နှင့် ခရီးကြမ်းနှင်ခဲ့ကြပြီးနောက် ကျွန်ုပ်သည် တိဘက်ပြည်တောင်ပိုင်း မွန်ဘုန်းတော်ကြီးကျောင်း၊ ကျောင်းထိုင်ဆရာတော် အရှင်အရိယပုတ္တမဟာထေရ်ထံသို့ ရောက်ခဲ့၏။ ကျွန်ုပ်သည် တိဘက်ဘာသာစကားကို မတတ်ကျွမ်းသော်လည်း ခရီးသွားကုန်သည် ခေါင်းဆောင်ကြီး၏ အကူအညီဖြင့် အရှင်အရိယပုတ္တ မဟာထေရ်မြတ်၏ ခြေတော်ရင်းတွင် ခိုလှုံလိုကြောင်း လျှောက်ထားနိုင်ခဲ့၏။

ဆရာတော် မဟာထေရ်မြတ်သည် ကျွန်ုပ်အား အစမ်းသဘောဖြင့် (၆)လတိတိ သူ၏ခြေတော်ရင်းတွင် ပညာသင်

ကြားပေးကာ စောင့်ကြည့်ခဲ့၏။ ထိုအချိန်ကာလအတွင်း ကျွန်ုပ်သည် တိဘက်ဘာသာကို လေ့လာခဲ့၏။ (၆)လစေသော အခါ မဟာထေရ်မြတ်သည် ကျွန်ုပ်၏ ဆန္ဒပြင်းပြမှုကို ယုံကြည် စိတ်ချကာ ကျွန်ုပ်အား သံဃာအပါး ၃၀ ကျော်နှင့် အလွန် ကြီးမားလှသည့် ပရိသတ်ရှေ့မှောက်၌ သာမဏေရဇ္ဇဝကိရိတ ဟူသောဘွဲ့ (ယောပြဘာသာအရ "ယေရှုခရစ်တော်")ဖြင့် ရှင်သာမဏေအဖြစ်နှင့် သာသနာ့ဘောင်အတွင်းသို့ သွတ် သွင်းချီးမြှင့်တော်မူလေ၏။

"တိမ်မြုပ်နေသော ခရစ်တော်၏ ဟောပြောချက်များ" ဟူသော ကျမ်းသည် စာမျက်နှာပေါင်း (၆၀၀)ကျော် ရှိရာ ထိုကျမ်းဂန်တခုလုံးကို ကုန်အောင် ဦးပဥ္စင်းဟာ အကြိမ်(၂၀) ထက်မနဲ ဟောရမယ် ဖြစ်တယ်။ ဒါ့ကြောင့် ကျန်တဲ့အပိုင်းကို အကျဉ်းချုပ်ပြီး ဟောပါရစေ။

သာမဏေရဇ္ဇဝကိရိတ (သို့မဟုတ်) ရှင်သာမဏေဟာ ၇ နှစ်နှင့် ၆ လတိုင်တိုင် ရှင်သာမဏေတို့ လိုက်နာကျင့်သုံးရ မည့် ကျင့်ဝတ်သိက္ခာတို့ကို ကျကျနန ထိန်းသိမ်းခဲ့လေတော့ ရှင်အရိယပုတ္တမဟာထေရ်မြတ်က အသက် ၂၀ အရွယ်သို့ ရောက်တဲ့အခါမှာ ရဟန်းတော်အဖြစ် ဥပသမ္ပဒါ ပြုပေးတော် မူသတဲ့။

ရဟန်းတော် အရှင်ကိရိတဟာ စိတ်အားလဲ ထက်သန် ဗုဒ္ဓ ရဲ့ တရားကိုလဲ အလွန်ယုံကြည်ကိုးစားတော်မူတဲ့အတွက်စာပေ ပရိယတ်ကိုလဲ တဖက်က သင်အံကျက်မှတ် တဖက်က သမထ တရားတို့ကို လေ့လာအားထုတ်နေတော့ မကြာမီအတွင်းမှာ ဈာန်အဘိညာဉ်တွေကိုရပြီး တန်ခိုးတွေကို ပြနိုင်လာသတဲ့။

သူ့ရဲ့ ဆရာတော် အရှင်အရိယပုတ္တကလဲ ရဟန္တာတပါး ဖြစ်လေတော့ ခရစ်တော်ရဲ့ အနာဂတ်အရေးကို သိမြင်တော်မူတယ်တဲ့။

ခရစ်တော်ဟာ အလွန်ဆိုးဝါးတဲ့ သေခြင်းတရားနဲ့ တွေ့ကြုံရမဲ့ အရေးကို မြင်တော်မူသတဲ့။ ဒါကြောင့် ရဟန်းတော် ဇီဝကိုရိတက သူ့အရပ် သူ့ဌာနသို့ ပြန်ရန် အခွင့်တောင်းတော့ အခွင့်မပြုဘဲ ငြင်းဆန်နေသတဲ့။ ဒါပေမဲ့ တကြိမ်မျှသာ မဟုတ်ဘဲ အကြိမ်ကြိမ် အဖန်ဖန် လျှောက်ထား တောင်းပန်လေတော့–

"အို ချစ်သား ဇီဝကိုရိတ၊ ချစ်သားဟာ အောက်ပါ အချက်တွေကို လိုက်နာကျင့်သုံးမယ်ဆိုရင် ချစ်သားအား သွားခွင့်ပြုမယ်။ ဆရာတော် လိုလားတဲ့ အချက်တွေကတော့–

(၁) အကယ်၍ ရေဟူဒီလူမျိုးများ(သို့မဟုတ်) ဂျူသရေလ လူမျိုးများက သင့်အား တံတွေးများထွေး၍ ရှုံ့ချကဲ့ရဲ့ကြသည့်တိုင်အောင်၊ ခဲအုတ်များနှင့် ပေါက်သည့်တိုင်အောင်၊ ဆဲရေးတိုင်းထွာသည့်တိုင်အောင် ချစ်သားက ချစ်သား၏ ဈာန်အဘိညာဉ်တန်ခိုးကို အသုံးပြု၍ မတုံ့ပြန်ပါနှင့်။

(၂) အကယ်၍ တစုံတယောက်သောသူက သင့်အား မဟုတ်မမှန် မတရားသဖြင့် စွပ်စွဲသည့်တိုင်အောင် ချစ်သားက ပကတိ တည်ငြိမ်သောသဘောနှင့် သီးခံရမည် ဖြစ်၏။

(၃) အကယ်၍ တစုံတယောက်သောသူက သင်၏ မျက်မှောက်မှာပင် ဗုဒ္ဓကိုယ်တော်မြတ်ကိုရင်း၊ တရားတော်မြတ်ကိုရင်း၊ သံဃာတော် အရှင်မြတ်တို့ကိုရင်း၊ သွားပုပ်လေလွင့် မတရားသဖြင့် ပြောသည့်တိုင်အောင် နည်းပရိယာယ်ကို သုံး၍

လျက် သူတို့၏ မိုက်မှားမှုကို သိမြင်လာအောင် ဟောပြောညွှန်ပြရမည် ဖြစ်၏။ အကြောင်းသော်ကား သူတို့သည် ဘာမျှမသိမမြင် နားမလည်ကြရှာသော ပုဂ္ဂိုလ်များဖြစ်ရာ သူတို့အား အပြစ်မှ အခွင့်လွှတ်ရမည် ဖြစ်၏။

(၄) အကယ်၍ တစုံတယောက်သောသူက အထင်အမြင်လွဲမှားသည်ရှိသော် နားလည်လာသည့်တိုင်အောင် ဥပမာ ဥပမေယျများကိုဆောင်ကာဟောပြောရှင်းလင်းပြရမည်ဖြစ်၏။

(၅) မည်ကဲ့သို့ပင် ဖြစ်စေ၊ သင့်အား ကန့်လန့်ဆန့်ကျင်ပြုလုပ်နေကြသည့် သင်၏ ရန်သူများအား မုန်းတီးခြင်း၊ ဒေါသဖြစ်ခြင်း စသည့် အရိုပ်လက္ခဏာတို့ကို မပြပါနှင့်။

(၆) သင်သည် အခါမလပ် မမေ့မလျော့သော စိတ်ဓာတ်နှင့် ဈာန်အဘိညာဉ်တရားတို့ကို ပွားများပါလေ။ မေတ္တာကမ္မဋ္ဌာန်းကို ပွားများကာ ကမ္ဘာလောကကြီးတဝှမ်းလုံးကို သင်၏ မေတ္တာ ကရုဏာတရားဖြင့် လွှမ်းမိုးပါစေ။

(၇) အကယ်၍ တစုံတယောက်သောသူ (သို့မဟုတ်)လူတစုက သင့်အား ရိုက်နှက်သတ်ဖြတ်စေကာမူ သေသည်အထိ အသိတရားကင်းမဲ့စွာ မိုက်မှားသူတို့အပေါ်တွင် မေတ္တာ၊ ကရုဏာတရားများ ပွားများကာ နောက်ဆုံး သေသည့်အချိန်အထိ ဗုဒ္ဓကိုယ်တော်မြတ်၏ ဂုဏ်တော်တရားကို အခါမလပ်ဆင်ခြင်အောက်မေ့ပါလေ၊ သို့မှသာလျှင် သင်သည် သေသည်၏ အခြားမဲ့၌ အလွန် ချမ်းသာသုခနှင့် ပြည့်စုံသော ဗြဟ္မာ့ဘုံသို့ ရောက်မည် ဖြစ်၏။

ချစ်သား၊ သင်သည် ဤအချက် (၇)ချက်ကို လိုက်နာကျင့်သုံးပါမည်ဟု ကတိပေးခဲ့လျှင် သင်သည် ရေဟူဒီလူမျိုး

များအား မည်သည့်နည်းနှင့်မျှ မပြုပြင် မပြောင်းလဲနိုင်မှန်းကို သိလျက်နှင့် အခွင့်ပေးရချေမည်။ သင်သည် ဣသရေလလူမျိုးများအား ပြုပြင်နိုင်သော်လည်း သူတို့သည် သင်၏တရားများကို အထင်အမြင်မှားကာ သင် ကွယ်လွန်ပြီးနောက် သင်ဟောပြောသည့် တရားတို့ထဲမှ (၁) ချစ်ခင်ကြင်နာခြင်း၊ (၂) ကရုဏာပွားများခြင်း၊ (၃) လေးစားခြင်း၊ (၄) ဥပေက္ခာပြုခြင်း၊ (၅) သီးခံခြင်း၊ (၆) အပြစ်မှ ခွင့်လွှတ်ခြင်း၊ (၇) ကြိုးပမ်းအားထုတ်ခြင်း စသည့် အချက်အလက်တို့ကိုသာ ဆက်လက်ထိန်းသိမ်း၍ သင်၏နာမည်ဖြင့် ဘာသာအယူဝါဒတရပ်ကို ထူထောင်ကြလိမ့်မည်'' ဟူ၍ အမိန့်ရှိတာ အရိယာပုဂ္ဂိုလ်မထေရ်မြတ်ဟာ ဇီဝကဲရိုကအား ပြန်ခွင့်ပြုလိုက်တယ်။ ဇီဝကိရိုကကလဲ သူ့ရဲ့ဆရာတော် အမိန့်ရှိတော်မူတဲ့ အချက်အလက်တွေကို သေသည်အထိ လိုက်နာကျင့်သုံးပါမယ်လို့ ကတိကဝတ်ပြုကာ သူ့ရဲ့ နေရပ်ဌာနသို့ ပြန်လာခဲ့တယ်။

အဲဒီနောက် ယုဒယာမြို့မှာ ခရစ်တော် ပထမဦးဆုံး တရားဟောတဲ့အခါမှာ တရားနာသူတွေက ယေဟိုးဝါဘုရားသခင်ကိုယ်တော်မြတ်ရဲ့တရားတွေ မဟုတ်ဘဲ ဗုဒ္ဓကိုယ်တော်မြတ်ဟောတဲ့ တရားတွေသာ ဖြစ်တယ်လို့ဆိုပြီး သူ့ကို ဝိုင်းပြီး ပုတ်ခတ်ပြောဆိုကြတယ်။ ဂျေရုဆလင်နဲ့ ဘာသာလီဟန်မြို့တွေမှာ ဟောပြန်တော့လဲ ဒီအတိုင်းဘဲ ဖြစ်ရပြန်တယ်။ သူတို့က ဘူဟောတဲ့ တရားတွေဟာ ဘယ်လောက်ဘဲကောင်းကောင်း ဘနည်းနည်းနဲ့ တိုက်ဖျက်ကာ [illegible]ပုတ်ခတ်ကြသတဲ့။

ဒီလို အဖြစ်အပျက်နဲ့ ရင်ဆိုင်တွေ့ [illegible] ခရစ်တော်ဟာ သူ့ရဲ့ဆရာ အရိယာပုဂ္ဂမဟာထေရ်က သူ့ကို [illegible]လိုက်ထွဲ့ပရိယာယ်

သုံးရမယ်ဆိုတဲ့စကားကို အမှတ်ရပြီး ဒီဟောကဲ့တရားဟာ ယေဟိုးဝါဟောတဲ့တရားများ ဖြစ်ကြောင်း၊ သူဟာ ယေဟိုးဝါရဲ့ သားတော်ဖြစ်ကြောင်းဖြင့် လှည့်စားပြီး ပြောလိုက်သတဲ့။ အခုန်ကတော့ သူဟာ ပရိယာယ်သုံးရမယ်ဆိုတဲ့စကားကို အမိပ္ပာယ် ကောက်မှားပြီး ယခုလို လှည့်စားလိုက်ခြင်း ဖြစ်တယ်။ အဲဒီလိုအလှည့်စားမှားလိုက်တဲ့အတွက် ခရစ်တော်ဟာ လက်ဝါးကပ်တိုင်မှာကပ်ပြီး ရေဟူဒီဘုန်းကြီးများနဲ့ ရောမလူမျိုးတို့ရဲ့အသတ် ခံသွားရှာသတဲ့။

ခရစ်တော်ဟာ တန်ခိုးပြာဋိဟာတွေကို ပြနိုင်ပေမဲ့ ရေဟူဒီလူမျိုးတွေနဲ့ ရောမလူမျိုးတွေရဲ့နှိပ်စက်မှုတွေကို သေသည်အထိ တည်ငြိမ်စွာနဲ့ဘဲ ခံသွားရှာတယ်။ သူဟာ သူ့ရဲ့ဆရာက မှာလိုက်တဲ့အတိုင်း မည်သည့်ဈာန်အဘိညာဉ်ကိုမျှ မသုံးတဲ့ တကယ့်အာဇာနည်ပုဂ္ဂိုလ်ပြီပြီ သေခြင်းတရားကို ရင်ဆိုင်သွားခဲ့တယ်။ ဒါကြောင့် ရေဟူဒီလူမျိုးတွေဟာ ခရစ်တော်လို သူတော်ကောင်းတယောက်ရဲ့ အသက်ကို ရက်ရက်စက်စက် သတ်ဖြတ်မိကြတဲ့အတွက် ယနေ့အထိ ကိုယ့်တိုင်းပြည်ရယ်လို့ လက်ညှိုးထိုးပြစရာ တိုင်းပြည်မရှိ ဘာမရှိနဲ့ ကမ္ဘာလကာဝ ဖြစ်နေကြရတာပေါ့။

အဲဒီ ပါမောက္ခမစ္စတာဂိုးရစ်(ခ်)တွေ့ရှိထားတဲ့ မှတ်တမ်းအရ ခရစ်တော်ဟာ ထာဝရဘုရားသခင်ရဲ့သားတော် မဟုတ်သူးဆိုတဲ့အကြောင်းကို ကောင်းကောင်းကြီး လက်ခံနိုင်ပြီ မဟုတ်လား။ ဒါပေမဲ့ သူက– "ကျွန်ုပ်ကား ထာဝရဘုရားသခင် ယေဟိုးဝါ၏ သားတော် ဖြစ်သည်" ဟူသော စကားကို ပြောကာ ရေဟူဒီလူမျိုးတွေနဲ့ ဣသရေလလူမျိုးတွေကို သူ

တရားကို လိုက်နာကြပြီး သူ့နောက်သို့ လိုက်လာအောင် ပရိယာယ်သုံးခဲ့တယ်။ ဒါပေမဲ့ သူ့ရဲ့ဆရာတော်က နိမိတ်ဖတ် လိုက်တဲ့အတိုင်းဘဲ သူ့ရဲ့နောက်လိုက်တွေက သူ့ရဲ့ဟောပြော ချက်တွေကို တမျိုးတဖုံ သူတို့လိုသလို ဆွဲသုံးကြပြီး ယေဟိုးဝါ ကိုရော၊ ခရစ်တော်ကိုပါ ကိုးကွယ်ဆည်းကပ်ကြတယ်။

"ကျွန်ုပ်သည် ယေဟိုးဝါထာဝရဘုရားသခင်၏ ဓမ္မဟောင်း ကို ပယ်ဖျက်ပြီး ဓမ္မသစ်ကို တည်တွင်သည်။ ကျွန်ုပ်သည် ဘုရား တန်ဆောင်းဟောင်းကို ဖြိုဖျက်၍ ဘုရားတန်ဆောင်းသစ်ကို တည်ဆောက်သည်။ ကျွန်ုပ်သည် အရေတော်ကို ဖြတ်လှီး၍ ဘာသာအယူဝါဒရေးရာအရ ကင်ပွန်းတပ်သည့် ထုံးတမ်း ဓလေ့ကို တည်ထွင်သည်"ဟူသော ခရစ်တော်ရဲ့ သုံးနှုန်းသော စကားတို့ကို သူ့ရဲ့နောက်လိုက်များက မှားယွင်းတဲ့ အနက် အဓိပ္ပာယ်ဖြင့် ကောက်ယူခဲ့ကြတယ်။ ဒါပေမဲ့ ဒီစကားတွေ ကို ကြည့်ခြင်းအားဖြင့် သူ့ရဲ့ဘာသာအယူဝါဒဟာ ယေဟိုးဝါ ရဲ့ဘာသာအယူဝါဒနဲ့ လုံးဝမတူကြောင်းကို အထင်အရှား သိမြင်နိုင်ပါတယ်။ ဒါပေမဲ့ ခရစ်ယာန်ဘာသာဝင်တွေက ဒါကို နားမလည်ကြသေးဘူး၊ သဘောမပေါက်ကြသေးဘူး။ ခရစ် တော်ရဲ့ သွန်သင်ဟောပြောချက်တွေရဲ့ အနက်အဓိပ္ပာယ်ကို နားမလည်ကြသေးဘူး။

အထက်က ဦးပဥ္စင်းဟောပြောခဲ့တဲ့ တကယ့်တိကျဟုတ်မှန် တဲ့ သက်သေသာဓကတွေအပြင် ခရစ်တော်ဟာ ထာဝရဘုရား သခင်ရဲ့သားတော် မဟုတ်ကြောင်းကို နောက်ထပ် သက်သေ သာဓက ပြပါဦးမယ်။ ထာဝရဘုရားသခင်ရဲ့ တရားတွေနဲ့ ခရစ်တော်ဟောတဲ့ တရားတွေရဲ့ခြားနားချက်တွေကို တကယ်

ထမ်း စီစစ်ကြည့်တတ်ရင် ခရစ်တော်ဟာ ထာဝရဘုရားသခင်ရဲ့ ရန်သူ၊ တနည်းအားဖြင့် ဆန့်ကျင်သူဖြစ်ကြောင်းကို လွယ်လင့်တကူနဲ့ သိမြင်နိုင်ပါတယ်။

ဓမ္မဟောင်းကျမ်းစာထဲမှာ ထာဝရဘုရားသခင်က အပြဟာမ်အား–

"အကယ်၍ သင်၏မျက်လုံးကို တစုံတယောက်သောသူက ထိုးဖောက်၍ ယူသွားခဲ့သည်ရှိသော် ထိုသူ၏ မျက်လုံးကိုလည်း သင်က ထိုးဖောက်၍ ယူလော့။ အကယ်၍ တစုံတယောက်သောသူက သင်၏နှာခေါင်းကို လှီးဖြတ်ပစ်သည်ရှိသော် ထိုသူ၏ နှာခေါင်းကို သင်ကလည်း လှီးဖြတ်ပစ်ပါလော့။ အကယ်၍ တစုံတယောက်သောသူက သင်၏အသက်ကို သတ်ရန် ကြိုးပမ်းခဲ့သည်ရှိသော် သင်ကလည်း ထိုသူ၏အသက်ကို သတ်ဖြတ်ပါလေ။ ငါကား ဒေါသတရားဖြင့် ထုံအပ်သည့် ထာဝရဘုရားသခင်တည်း။ ငါသည် သင့်အား လက်စားချေရေးတရားအမြိုက်ဆေးကို တိုက်ကျွေးတော်မူ၏"ဟု အလေးအနက် ဟောပြောတော်မူခဲ့တယ်။

ဒါပေမဲ့ ကရုဏာတရား ပွားများလှတဲ့ ခရစ်တော်ကတော့–

"အကယ်၍ တစုံတယောက်သောသူက သင်၏ ခြုံစောင်ကို ယူသွားခဲ့သည်ရှိသော် ထိုသူအား သင်၏အင်္ကျီပါ ချွတ်၍ လှူဒါန်းပေးကမ်းပါလေ။ အကယ်၍ တစုံတယောက်သောသူက သင်၏လက်ျာဘက်ပါးကို ရိုက်ခဲ့သည်ရှိသော် ထိုသူအား သင်၏ လက်ဝဲဘက်ပါးကိုပါ ရိုက်ပါစေ။ အစစကို သီးခံပါ။ သီးခံခြင်းသည်သာလျှင် ကုသိုလ်တရားကို ပွားများပေးစေနိုင်သည်။ သင်၏အိမ်နီးချင်းများကို သင့်ကိုယ်ကို ချစ်ခင်သကဲ့သို့ ချစ်ခင်

ပါ။ မည်သည့် သက်ရှိသတ္တဝါကိုမျှ အန္တရာယ်မပြုပါနှင့်''လို့ သူ့ရဲ့နောက်လိုက်တွေကို ဟောပြော သွန်သင်ခဲ့တယ်။

ယာဝရဘုရား ယေဟိုးဝါနဲ့ ခရစ်တော်ဟောတဲ့ ဒီတရား နှစ်ခုဟာ တခုနဲ့တခု စပ်လို့ဟပ်လို့မရအောင် ကွာခြားနေတာကို တွေ့နေရပါတယ်။ ဒါ့ကြောင့် ခရစ်တော်ဟာ ယေဟိုးဝါရဲ့ သားတော် မဟုတ်ဘဲ ယာဝရဘုရား ယေဟိုးဝါရဲ့ရန်သူ ဖြစ်ကြောင်းကို အသိဉာဏ်ရှိသူတိုင်း အထင်အရှား နားလည်သဘောပေါက်နိုင်ပါတယ်။ ဒီနည်းနဲ့ ခရစ်တော်ဟာ ယာဝရဘုရား ယေဟိုးဝါရဲ့ ဓမ္မဟောင်းကို ချိုးဖောက်ဖျက်ဆီးနိုင်ခဲ့တယ်။ ယေဟိုးဝါရဲ့ ဘုရားတန်ဆောင်းကို ဖျက်ဆီးခဲ့တယ်။ အရေပြားကို ဖြတ်လှီးပြီး ဘာသာအယူဝါဒဆိုင်ရာ ကင်ပွန်းတပ်တဲ့ ထုံးတမ်းဓလေ့ကို ပယ်ဖျက်ခဲ့တယ်။

ဒီနေရာမှာ အခွင့်သင့်လို့ ခရစ်တော် ပြန်လည်ရှင်လာခြင်းဆိုတဲ့ ကိစ္စနဲ့ပတ်သက်လို့ ဦးပဥ္ဇင်း အကျဉ်းချုပ်သဘော နည်းနည်း ဟောချင်ပါသေးတယ်။ ခရစ်တော်သေပြီး တတိယမြောက်နေ့မှာ ပြန်လည် ရှင်သန်လာတယ်ဆိုတဲ့ အဖြစ်အပျက်ကလေးကတော့ တော်တော်ကလေး ဦးနှောက်ကောင်းကောင်းနဲ့ တီထွင်လိုက်တဲ့ ဇာတ်လမ်းကလေးတပုဒ် ဖြစ်တယ်။ ဒီဇာတ်လမ်းကို တီထွင်လိုက်တဲ့သူကတော့ ပြည့်တန်ဆာလုပ်စားတဲ့ ပြစ်မှုနဲ့ ရေဟူဒီတရားရုံးက အမိန့်အရ ရေဟူဒီတွေက ခဲတွေနဲ့ဝိုင်းပေါက်ခြင်း ခံရတဲ့ မေရီမက်(ဂ်)ဒါလီနာဆိုတဲ့ အမျိုးသမီးတယောက် ဖြစ်တယ်။

ယေဟိုးဝါသက္ကရာဇ်(၁၂၀၁)ခုနှစ်မှာ ရောမလူမျိုး ဘုရင်ခံ ပွန်တီယပ်(စ်)ပစ်လေးက ''ခရစ်တော် ကွယ်လွန်ခြင်းနှင့်

သိမ်လည်လုပ်ကြံထားသော ပြန်လည် ရှင်လာခြင်း''ဟူသော စာတမ်းတစောင်ကို ထုတ်ဝေခဲ့ပါတယ်။ ဒီစာတမ်းကတော့–

''ဘက်သလဟမ်မြို့မှ မေရီ၏သား၊ အင်နာယောရှုခရစ်၏ မြေးသည် ယေဟိုးဂါ၏ အယူဝါဒကို မထိမဲ့မြင် သေးသိမ် ယုတ်ညံ့အောင် ပြုလုပ်လျက်ရှိသည်ဟူသော ရေဟူဒီဘုန်းကြီး များ၏ တရားစွဲဆိုချက်အရ ရောမလူမျိုးတို့၏ဥပဒေအရ ၎င်း အား ရာဇဝတ်ကောင်များကို ဘားတင်၍ ကွပ်မျက်နေကျဖြစ် သည့် ဆီနိုင်တောင်ထိပ်ပေါ်မှ လက်ဝါးကပ်တိုင်၌ ဘားတင်၍ ကွပ်မျက်ပစ်လိုက်၏။ ထို့နောက် ခရစ်ယာန်ဘာသာဝင်တို့အား ခရစ်တော်၏ အလောင်းကို မည်သူမျှ တူးဖော်ရွှေ့ပြောင်းခြင်း မပြုရဟု အမိန့် ထုတ်ဆင့်ထားသော်လည်း ခရစ်ယာန်ဘာသာဝင် တို့က တူးဖော်ရွှေ့ပြောင်းပစ်ကြလိမ့်မည်ဟူသော ကောလ ဟာလသတင်း ဖြစ်ပွားနေသဖြင့် သူ၏အလောင်းကို ကျောက်ဂူ ထဲတွင် မြှုပ်ပြီး အလွန်ကြီးမားသော ကျောက်တုံးကြီးများကို တင်ထားလေ၏။ ၎င်းပြင် ရောမစစ်သည်တော် (၅၀)ကို အစောင့်ချထားလေ၏။ ခရစ်တော်သည် တန်ခိုးပြာဋိဟာတို့ ကို ပြနိုင်သူဖြစ်ရကား ရောမလူမျိုးဘုရင်သည် သူ ဘန်ပြန်၍ ရှင်လာမည်ကို စိုးရိမ်လှသဖြင့် အစောင့်စစ်သားများအား အထူးဂရုတစိုက် စောင့်ကြပ်ရန် အမိန့်ထုတ်လေ၏။ ခရစ်တော် အသတ်ခံရပြီး ဒုတိယည၌ မေရီမက်(ဂ်)ဒါလီနာသည် ကချေ သည်အဝတ်တို့ကို ဝတ်ဆင်ပြီး ဆေးစပ်ထားသည့် အရက်နီကို ဖန်တခေါင်းဘာခုတွင် ထည့်ကာ ခရစ်တော်မြှုပ်ရာ ကျောက်ဂူ အနီးသို့ ချဉ်းကပ်လေ၏။ ရောမစစ်သည်တော်တို့က မက်(ဂ်) ဒါလီနာသည် ခရစ်တော်အား တကယ်တမ်း ကြည်ညိုသူ

တာယောက် ဖြစ်သည့်အကြောင်းကိုင်း၊ ခရစ်တော်၏ အလောင်းကို လာရောက်၍ ယူရန်လာသည့် သူ၏အကြောင်း ကိုင်း မသိကြသောကြောင့် သူအား သူတို့ရှေ့တွင် ကခုန်သီဆိုခွင့် ပြုထားမိကြ၏။ သူသည် ဆိုရကရ၍ မောလာသော အခါ အရက်ဖန်တခေါင်းကိုဖွင့်၍ သောက်ဟန် ပြုလေ၏။ သဘာဝအလျောက် အရက်ကိုတပ်မက်ကြသည့် စစ်သည်တော်တို့သည် မက်(ဂ်)ဒါလီနာက သူတို့အား အရက်တခေါင်းကို ပေးလျှင် အားပါးတရ သောက်ကြလေ၏။စစ်သည်တော်တိုင်း အလွန်ပြင်းထန်သည့် ဆေးများကို ခပ်ထားသည့်မက်(ဂ်)ဒါလီနာ၏ အရက်ကို တဖန်ခွက်စီ သောက်ကြ၏။ မိနစ်အနည်းငယ်ကြာသောအခါ ဆေးခပ်ထားသည့် အရက်တန်ခိုးကြောင့် နှစ်နှစ်ခြိုက်ခြိုက်ကြီး အိပ်ပျော်ကြရာ (၃)ရက်ကြာမှ နိုးကြ၏။ ရောမစစ်သည်တော်များ အိပ်ပျော်နေစဉ်အတွင်း မက်(ဂ်)ဒါလီနာသည် ခရစ်ယာန်ဘာသာဝင်တို့ကိုစုကာ ခရစ်တော်၏ အလောင်းမြှုပ်နှံထားသည့် ဂူပေါ်မှ ကျောက်စိုင်ကျောက်တုံးကြီးများကို ဖယ်ရှားဖစ်ကြ၍ အလောင်းကို တူးဖော်ယူကာ အစိုးရအာဏာပိုင်များ မသိသည့်နေရာသို့ တိတ်တဆိတ် ပြောင်းရွှေ့မြှုပ်နှံလိုက်၏။ နောက်နေ့ နံနက်စောစောအချိန်တွင် မေရီမက်(ဂ်)ဒါလီနာသည် နန်းတော်၊ တရားလွှတ်တော်၊ ဈေးနှင့် ဇာတ်ရုံများဆီသို့သွားရာ လမ်းလေးခွ၌ ခရစ်ယာန်ဘာသာဝင်များစွာတို့ကို စုရုံးပြီး ''အို ကျွန်ုပ်တို့၏ ယေရှုသခင်အား သက်ဝင်ယုံကြည်ကြသူ အချင်းတို့၊ ကြည့်ကြကုန်လော့။ ယေရှုကိုယ်တော်မြတ်၏ ကျက်သရေရှိလှစွာသော ရုပ်သဏ္ဌာန်တော်ကို ဖူးမြော်ကြလော့။ ကိုယ်တော်မြတ်ကား ကောင်း

ဟာင်ဘုံနန်းသို့ ကြွမြန်းတော်မူလျက် ရှိသည်ကို ကြည့်ကြကုန် လော့''ဟု ဟစ်အော် ကြွေးကြော်ကြလေသည်။

ဇေဟူဒီများ၊ ရောမသူမျိုးများနှင့် အခြားဘာသာများကို သက်ဝင်ယုံကြည်ကြသူတို့က–

''သင်၏ ခရစ်တော်ကား အဘယ်မှာနည်း။ ခရစ်တော် သည် ကောင်းကင်ဘုံနန်းသို့ ကြွမြန်းလျက်ရှိသည်ဟု သင်တို့က မည်မျှပင် ဟစ်အော်ကြွေးဝါနေကြသော်လည်း ငါတို့သည် မမြင်ချေတကား။ သင်တို့သည် လိမ်လည်နေခြင်းသာ ဖြစ်၏'' ဟု ပြန်၍ ပြောကြ၏။

ထိုအခါ မေရီမက်(ဂ်)ဒါလီနာက–

''ခရစ်တော်အား ယုံကြည်ကိုးကွယ်၍ အရေပြားကို ဖြတ် သည့် ထုံးတမ်းဓလေ့ကို မလိုက်နာ မကျင့်သုံးသူတို့သာလျှင် ခရစ်တော် ကောင်းကင်ဘုံနန်းသို့ ကြွမြန်းတော်မူသည်ကို မြင် ကြရချေမည်။ သခင်ယေရှုကိုယ်တော်မြတ်ကို သက်ဝင်ယုံကြည် မှု မရှိဘဲ သတ်ဖြတ်လုပ်ကြံကြသည့် သင်တို့ဒိဋ္ဌိများကား ခရစ် တော်ကို မြင်ကြရမည် မဟုတ်ချေ။ သင်တို့ အကယ်၍ မယုံ ကြည်က ဆိမ့်နိုင်တောင်ထိပ်ပေါ်သို့တက်၍ ကြည့်ကြလော့။ သာဝရဘုရားသခင်၏ တမန်တော်က သူ၏ဂူပေါ်တွင် တင် ထားသည့် ရာပေါင်းများစွာသော လူချားအားနှင့်မှ ရွှေ့နိုင် သော ကျောက်တုံးကြီးကို ရွှေ့ပြီးလျှင် အစိတ်စိတ် အမွှာမွှာ ခွဲပစ်သည်ကို တွေ့ကြရမည်။ဂင်းပြင် ရောမစစ်သည်တော်(၅၀) ကို တမန်တော်က မှုးမေ့နေအောင် ရိုက်နှက် ထုထောင်းထား ခဲ့သည်ကိုလည်း ကြည့်ကြဦးလော့''ဟု ဆိုပြန်၏။

ခရစ်ယာန်ဘာသာဝင်တို့က မည်မျှပင် ဟစ်အော်ကြွေးကြော်နေကြသော်လည်း ခရစ်တော် ကောင်းကင်ဘုံနန်းသို့ ကြွမြန်းသည်ကို မမြင်ရသည့်အစိုးရအဖွဲ့ အာဏာပိုင်များ၊ ရေဟူဒီလူမျိုးများနှင့် ရောမလူမျိုးတို့သည် ဆီနိုင်တောင်ထိပ်ပေါ်သို့ တက်ကြည့်ကြရာ ခရစ်တော်၏ဂူပေါ်တွင် တင်ထားသည့် ကျောက်တုံးကြီးနှင့် ခရစ်တော်၏ အလောင်းတို့ကို မတွေ့ကြရတော့ချေ။ ၎င်းပြင် ရောမစစ်သည်တော်တို့ မူးမေ့နေကြသည်ကို တွေ့မြင်ကြလေ၏။

ဤအဖြစ်အပျက်ကို ဘာဘာမျှ မသိလိုက်ကြသော ရောမစစ်သည်တော်တို့အား ရောမအာဏာပိုင်တို့က ထောင်ထဲသို့ ပို့ကြ၏။ သို့ရာတွင် တတိယနေ့၌ ရောမ စစ်သည်တော်တို့သည် သတိရလာကြ၍ မက်(ဂ်)ဒါလီနာက သူတို့ကို အကာအဆိုဖြင့် ဖြေဖျော်ပြီးနောက် ဆေးခပ်ထားသည့်အရက်ကိုတိုက်ကြောင်း၊ ထို့နောက် သူတို့ သတိလစ်သွားကြကြောင်း ပြန်ဖြေကြလေ၏။ ဤကဲ့သို့ အဖြစ်အပျက်မှန်ကို သိကြသောအခါ ရောမအာဏာပိုင်တို့သည် မက်(ဂ်)ဒါလီနာနှင့်တကွ ခရစ်ယာန်ဘာသာဝင် ရေဟူဒီများနှင့် ဂ္ဂလိလီသူမျိုးပေါင်း (၁၀၀၀)ကျော်တို့ကို ဖမ်းဆီး၍ ခေါင်းဖြတ်ပစ်လိုက်ကြ၏။

ဒါဟာ တန်ခိုးပြာဋိဟာတွေ ပြနိုင်တာကတော့ မှန်ပါတယ်။ ဒါပေမဲ့ လူကိုယ်တိုင်က အသက်သေသွားပြီးဖြစ်တော့ ဒီတန်ခိုးပြာဋိဟာတွေကလဲ ဘာမှ အသုံးမဝင်တော့ဘူးပေါ့။ ခရစ်တော်ဟာလဲ အခြားသတ္တဝါတွေလိုဘဲ သေပြီးတဲ့နောက် ဘယ်နည်းနဲ့မှ ပြန်မရှင်နိုင်တော့ဘူးပေါ့။

ဝစ်လဆင်။ တပည့်တော်တို့ တခါမျှ မကြားဘူးတဲ့ အခု ဆရာတော် ဟောပြောတော်မူတဲ့ ရောမဘုရင်ခံ ပစ်လေးရဲ့ မှတ်တမ်းကို ကြားရမှတဲ ခရစ်တော်ဟာ တိဘက်ပြည်က ဗုဒ္ဓ ဘာသာ ရဟန်းတော်တပါးရဲ့ တပည့်သာဝက ဖြစ်တဲ့အတွက် သူပြောပြတဲ့ တရားတွေနဲ့ ဗုဒ္ဓရဲ့တရားများနဲ့ တူနေကြောင်းကို သိရပါတယ်။ နောက်တခုကတော့ သူဟာ အရိမိတေယျဘုရား အလောင်းတော်မဟုတ်တဲ ဆရာတော်တို့လို ဗုဒ္ဓဘာသာရဟန်း တော်တပါး ဖြစ်ကြောင်း၊ ဈာန်အဘိညာဉ်ရကြောင်းတို့ကိုလဲ တပည့်တော် လက်ခံပါတယ်။ သူလဲဘဲ ပထဝီ၊ တေဇော၊ ဝါ ယော၊ အာပေါ်ဆိုတဲ့ ဓာတ်လေးပါး အဆောက်အဦ ဖြစ်တဲ့ အတွက် အသက်သေပြီးတဲ့နောက် ပြန်ပြီး တဖန်မထနိုင်တော့ ဘူးဆိုတာလဲ တပည့်တော် ယုံကြည်ပါပြီ ဆရာတော်။

ဆရာတော်ဟာ ဘာသာအရပ်ရပ်နှင့်တကွ သိပ္ပံပညာကိုပါ နှံ့နှံ့စပ်စပ် အသိအမြင်များတဲ့အတွက် တပည့်တော်က ဆရာ တော်ကို ကြည်ညိုပါတယ်။ ယခု ဆရာတော် ဟောပြတဲ့ အချက် အလက်တို့ကိုလဲ တပည့်တော် ယုံကြည်ပါတယ် ဆရာတော်။

ဤတွင် မရိသတ်က သာဓုအနုမောဒနာ ခေါ်ကြလေ သည်။

## ဇမ်းခွန်း အမှတ် ၁၃။

ဗုဒ္ဓသည် ဟိန္ဒူဘာသာ အယူဝါဒမှ အကောင်းဆုံးသော အစိတ်အပိုင်းတို့ကို ကောင်းစွာ တတ်မြောက် ကျွမ်းကျင်သည် မဟုတ်ပါလော။ ဗုဒ္ဓသည် ဟိန္ဒူဒေဝဒကျမ်းတို့တွင် နစ်မြုပ်

ဖုံးကွယ်နေသည့် အချို့တရားတို့ကို ပြန်လည်ဖော်ထုတ်နေသည် မဟုတ်လော။

(မေးမြန်းလျှောက်ထားသူ ဝေဒကျမ်းများ၊ ဆင်ခြေအတတ်ပုရက်ကျမ်းများကို ကောင်းစွာ ကျွမ်းကျင်သည့် ဟိန္ဒူဘုန်းတော်ကြီး ပဏ္ဍိတ် အက်(စ်) အက်(စ်) ရှုကလဂျီ၊ ဘုံဘိုင်မြို့၊ မြေဆိုသူ ဆရာတော်အရှင်အရိယဓမ္မ၊)

ဆရာတော်အရှင်အရိယဓမ္မ။ ဗုဒ္ဓဟာ ပဏ္ဍိတ်ကြီး ထင်နေသလို ဟိန္ဒူဘာသာ အယူဝါဒမှ အဆီအနှစ်တွေ၊ အကောင်းဆုံး အစိတ်အပိုင်းတွေကို မကျွမ်းကျင်ပါ။ ဝေဒကျမ်းများတွင် နစ်မြုပ်ဖုံးကွယ်နေတဲ့ အချို့တရားတို့ကိုလဲ ပြန်လည်ဖော်ထုတ် ဟောပြောမနေပါ။ ဗုဒ္ဓဟာ လေးသင်္ချေနဲ့ ကမ္ဘာတသိန်းတိုင်တိုင် ပါရမီ(၁၀)ပါးကို ဖြည့်ဆည်းကျင့်သုံးခဲ့တဲ့အတွက် ဆရာမရှိဘဲ သစ္စာလေးပါး တရားတော်ကို ပိုင်းခြားထင်ထင် သိမြင်တော်မူတယ်။ သူဟောပြောခဲ့တဲ့ တရားတွေဟာ ဒီသစ္စာလေးပါး တရားတော်ကို အခြေခံပြီး ဟောတော်မူခဲ့တဲ့ တရားတွေသာ ဖြစ်တယ်။ ဟိန္ဒူဝေဒကျမ်းတွေထဲကလဲ မဟုတ်ဘူး။ ဘယ်ဘာသာအယူဝါဒထဲကမှယူပြီး ဟောတော်မူတဲ့ တရားတွေလဲ မဟုတ်ဘူး။ သူဟောတော်မူခဲ့တဲ့ တရားတွေဟာ သစ်လွင်တဲ့တရားတွေလဲ ဖြစ်တယ်။ ဘယ်ဘာသာ အယူဝါဒကို ထူထောင်ခဲ့တဲ့လူမှ သူဟောတော်မူခဲ့တဲ့ တရားတွေကို သိလဲ မသိခဲ့ဘူးဘူး၊ ကြားလဲ မကြားခဲ့ဘူးဘူး။

ဦးပဥ္ဇင်း ယခု ဟောပြောခဲ့တဲ့ အချက်နဲ့ ပတ်သက်လို့ အကိုးအကား အထောက်အထား ပြုရမယ်ဆိုရင် အဇ္ဈဝကဂိုဏ်းဝင် ဉပကမေးတဲ့ မေးခွန်းကို ဗုဒ္ဓဟာ ဘုရားအဖြစ်ကိုရလျှင်ရချင်း

ဘနည်းအားဖြင့် အဝိဇ္ဇာအမှောင်တရားဟူသည်ကို ပယ်ရှင်းနိုင်လျှင် ပယ်ရှင်းနိုင်ချင်း ဖြေကြားတော်မူရင်း မိန့်တော်မူခဲ့တဲ့ ''ဥပကာ၊ ငါးကား ရန်ဟူသမျှ အကုန်လုံးကို ဖယ်ရှားသုတ်သင်ပြီးပေပြီ။ ငါကား အလုံးစုံသောတရားတို့ကို မျက်ဝါးထင်ထင် သိမြင်တော်မူချေပြီ။ ငါသည် အညစ်အကြေးဟူသမျှမှုမျှမကျန်အောင် ကင်းစင်တော်မူပေပြီ။ ငါကား ရှိရှိသမျှသော တရားတို့ကို စွန့်ခွာပြီးပြီ။ ထို့ကြောင့် ငါသည် မည်သည့်တရားကိုမျှ တပ်မက်ခြင်း မရှိတော့ပြီ။ ငါကိုယ်တိုင် အသိဥာဏ်ဟူသမျှကို ပိုင်ထားပြီးဖြစ်ရာ မည်သူ့ကို ဆရာခေါ်ရမည်နည်း။ ငါ့တွင် ဆရာမရှိပြီ။ ငါနှင့်နှိုင်းယှဉ်အပ်သူကား မရှိပြီ၊ လူလောက၊ နတ်လောကတွင် ငါနှင့်တူသူကား မရှိပြီ။ ငါကား လောကတွင် အမြင့်မြတ်ဆုံး၊ လောကတွင် အတတ်ဆုံး၊ အသိဆုံးဆရာ ဖြစ်၏။ ငါကား ချမ်းသာသုခနှင့် ပြည့်စုံလှ၏။ ငါကား အသခ်ိတခေတ် မြတ်သောနိဗ္ဗာန်ကို ရရှိပေပြီ။ ငါသည် ဓမ္မစကြာတရားတော်ကို ဟောတော်မူရန် ဗာရာဏသီပြည်သို့ ကြွတော်မူမည်။ ဤအမှောင်ထုဖြင့် ပြီးသည့် လောကကြီးတွင် ဘယ်သောအခါမှ မဆိတ်သုဉ်းသည့် အမတစည်ကြီးကို ရိုက်တီးပေအံ့''ဆိုတဲ့ စကားတွေနဲ့ သာဓကဆောင်ပြရပေမယ်။ ဒီဗုဒ္ဓကိုယ်တော်တိုင် ဟောပြောတော်မူတဲ့ စကားတွေအပြင် ပဏ္ဍိတ်ကြီးရဲ့ စိတ်ထဲမှာ စွဲနေတဲ့ မှားယွင်းတဲ့ အယူအဆတွေ ကင်းစင်သွားအောင် ဦးပဥ္စင်းက အောက်ပါမေးခွန်းတွေကို မေးရလိမ့်မယ်။

(ထိုကဲ့သို့ ပြောဆိုပြီးနောက်)

ဆရာတော်။ ပဏ္ဍိတ်ကြီးဟာ ဘုံဘိုင်မြို့မှာရှိတဲ့ ဗြဟ္မဏာတွေထဲမှ ပညာရှိဘဲ မဟုတ်လား။

ပဏ္ဍိတ်ကြီး။ တပည့်တော်ဟာ ဗြဟ္မဏာတွေထဲက ပညာရှိတယောက် ဖြစ်ရုံသာမကပါဘူး၊ ဟိန္ဒူအယူဝါဒနဲ့ ဆိုင်ရာမှာလဲ ကျမ်းကျင်တတ်မြောက်ပြီး ဟိန္ဒူတွေရဲ့ သူနံးတော်ကြီးတပါးလဲ ဖြစ်ပါတယ်။

ဆရာတော်။ ဒါဖြင့်ရင် ပဏ္ဍိတ်ကြီးဟာ ဟိန္ဒူကျမ်းဂန်တွေအနက် ဘယ်ကျမ်းဂန်ကို ပိုပြီးတတ်ကျွမ်း နားလည်ပါသလဲ။

ပဏ္ဍိတ်ကြီး။ တပည့်တော်ဟာ ဝေဒကျမ်း၊ဗြဟ္မာ၊ပိသာနီး၊ သိဒ္ဓိဝစတဲ့ ဘုရားသုံးဆူနဲ့ ပတ်သက်တဲ့ကျမ်း၊ နက္ခတ်ကျမ်း၊ ဗေဒင်ကျမ်း၊ ပုရာဏ်ကျမ်း၊ ဝေဒန္တကျမ်းစတဲ့ ကျမ်းတွေအားလုံးကို ကျွမ်းကျင်လိမ္မာပါကြာယ် ဆရာတော်။

ဆရာတော်။ ဗုဒ္ဓဟာ ဟိန္ဒူအယူဝါဒနဲ့ အနှစ်သာရတွေကိုကျွမ်းကျင်ပြီး ဟိန္ဒူဝေဒကျမ်းဂန်ထဲမှ တိမ်မြုပ်နေတဲ့ တရားတွေကို ဖော်ထုတ်နေတယ်ဆိုတဲ့ အကြောင်းကို ရစ်(ဂ်)ဝေဒကျမ်းထဲမှာ တွေ့ဘူးသလား၊ ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။

ဆရာတော်။ အထ္တာရဝဝေဒကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။

ဆရာတော်။ ဇယဝေဒကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။

ဆရာတော်။ သာမဝေဒကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။

ဆရာတော်။ ပဉ္စဝေဒကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။
ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။
ဆရာတော်။ ခုဒ္ဒဂီတကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။
ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။
၈ ဆရာတော်။ ဘဂဝါဂီတထဲမှာကော ပဏ္ဍိတ်ကြီး။
ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။
ဆရာတော်။ မဟာဘာရတကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။
ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။
ဆရာတော်။ ရာမာယာနကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။
ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။
ဆရာတော်။ ဥပနိသျှကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။
ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။
ဆရာတော်။ ပုရဏ်ကျမ်းထဲမှာကော ပဏ္ဍိတ်ကြီး။
ပဏ္ဍိတ်ကြီး။ မတွေ့ဘူးပါဘူး ဆရာတော်။

ဆရာတော်။ ဒါဖြင့်ရင် ရှန်ကရကျာလယဆိုတဲ့ ဟိန္ဒူဆရာကြီး ပြုစုခဲ့တဲ့ ဝေဒန္တကျမ်းတွေထဲမှာ ပဏ္ဍိတ်ကြီး တွေ့ရတာ မဟုတ်လား။

ပဏ္ဍိတ်ကြီး။ ဒီအတိုင်း မှန်ပါတယ် ဆရာတော်။ဆရာတော် မေးတဲ့ မေးခွန်းတွေကို ထောက်ရှုကြည့်ခြင်းအားဖြင့် ဆရာတော်ဟာ ဟိန္ဒူကျမ်းဂန်တွေကို အတော်ဘဲ နှံ့နှံ့စပ်စပ် ဖတ်ရှုလေ့လာထားကြောင်း ထင်ရှားပါတယ်။

ဆရာတော်။ ပဏ္ဍိတ်ကြီးတို့ရဲ့ ဆရာကြီး ရှန်ကရကျာလယဟာ ဘယ်မှာ ဖွားမြင်ပါသလဲ။

ပဏ္ဍိတ်ကြီး။ အိန္ဒိယပြည်တောင်ပိုင်း ထရစ်ဇန်ဒရမ်မြို့မှာ ဖွားမြင်ပါတယ် ဆရာတော်။

ဆရာတော်။ သူဟာ ဘယ်သူ့ရဲ့သားလဲ ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ မှတ်တမ်းများအရ ပြောရလျှင် သူဟာ ဂုဏ်သရေရှိ ဗြဟ္မဏာနွယ်ဝင် အမျိုးသမီးတယောက်ရဲ့သား ဖြစ်ပါတယ် ဆရာတော်။

ဆရာတော်။ အဲဒီဗြဟ္မဏာနွယ်ဝင် ဟိန္ဒူအမျိုးသမီးကြီးဟာ ရှန်ကရကျာလယကို မမွေးဖွားမီ နှစ်ပေါင်းအတော်ကြာ မုဆိုးမကြီး ဖြစ်ခဲ့တယ် မဟုတ်လား ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ မှတ်တမ်းထဲမှာတော့ ဒီအတိုင်းဘဲ ပါပါတယ်။

ဆရာတော်။ ပဏ္ဍိတ်ကြီးတို့ မှတ်တမ်းထဲမှာ ရှန်ကရကျာလယဟာ မြောက်ပိုင်းအိန္ဒိယကို မသွားမီ ထရစ်ဇန်ဒရမ်မြို့မှာ ဗုဒ္ဓဘာသာရဟန်းတော် အဖြစ်နဲ့ (၃) နှစ်တိတိ နေထိုင်သွားသေးတယ် မဟုတ်လား။

ပဏ္ဍိတ်ကြီး။ ဆရာတော်ဘုရား၊ဒီဟာတွေမေးနေလို့အကျိုးမရှိပါဘူး ဘုရား။ ဒီကိစ္စကို ဒီနေရာမှာဘဲ ရပ်ပါတော့။ ဗုဒ္ဓရဲ့တရားတော်တွေဟာ ကမ္ဘာ့ ဘယ်ဘာသာ အယူဝါဒမှ တရားတွေနဲ့မျှ ရောစပ်ခြင်း မရှိဘူးဆိုတာကို ဆရာတော် ပြောဟောထားတဲ့ အချက်တွေနဲ့ဘဲ ခိုင်လုံလှပါပြီ။

ဤတွင် တရားပွဲသဘာပတိပုဂ္ဂိုလ်သည် ထိုင်ရာမှထ၍ ပဏ္ဍိတ် ရုက္ခာလင်္ဂါအား-

"ကျွန်ုပ်ဟာ ပဏ္ဍိတ်ကြီးအား အာမခံချက် သုံးချက်နဲ့ သင် မေးလိုတဲ့မေးခွန်းတွေကို ဆရာတော်အား မေးခွင့်ပြုတယ်။

ဒါကြောင့် ဒီအာမခံချက် သုံးချက်အနက် တချက်ချက် သင် ဖောက်ဖျက်ရင် ဟောဒီ ဆရာတော်ရဲ့တရားပွဲကို လာရောက် ဖျက်တဲ့အနေနဲ့ တရားစွဲရလိမ့်မယ်။ ပဏ္ဍိတ်ကြီးက ဆရာတော် မေးတဲ့မေးခွန်းကို ဟိန္ဒူကျမ်းစာများအရ မဖြေဆိုဘဲ တရား ပွဲမှ ထွက်သွားမယ်ဆိုရင် ပဏ္ဍိတ်ကြီးဟာ ပေးထားတဲ့ အာမ ခံချက်တွေကို ချိုးဖျက်တဲ့အနေနဲ့ တရားစွဲဆိုဘို့ဘဲ ရှိပါတော့ တယ်''ဟု ပြောလေ၏။

ထိုအခါ ပဏ္ဍိတ် ရှုကာလဂျီက–

''သဘာပတိ လူကြီးမင်း၊ ကျွန်ုပ်ပေးထားတဲ့ အာမခံချက် တွေကို ကျွန်ုပ် ယခုလို အမှတ်မထင် ချိုးဖျက်မိတဲ့အတွက် ဝမ်း နည်းပါတယ်။ ကျွန်ုပ်ဟာ ဆရာတော်မေးတဲ့ မေးခွန်းများကို ကျကျနန ဖြေဆိုပါတော့မယ်။ ဆရာတော်ကသာ ဆက်လက် ပြီး မေးလိုရာ မေးပါတော့''ဟု ပြန်ဖြေလေ၏။

ဤတွင် ဆရာတော်က ဆက်လက်၍–

''ပဏ္ဍိတ်ကြီး၊ ဦးပဥ္စင်း နောက်ဆုံးမေးတဲ့ မေးခွန်းကိုသာ ပြန်ပြီး ဖြေပါ''

ပဏ္ဍိတ်ကြီး။ မှတ်တမ်းအရဆိုရင်ရှရီရှန်ကရကျာလယဟာ ဗုဒ္ဓသာသာရဟန်းတော်အဖြစ်နဲ့ (၃)နှစ်နေထိုင်ခဲ့ဘူးပါတယ်။

ဆရာတော်။ ဒါဖြင့်ရင် ရှရီရှန်ကရကျာလယဟာ ဘာပြုလို့ ဗုဒ္ဓသာသနာ့ဘောင်မှ ထွက်ပြီး အိန္ဒိယပြည်မြောက်ပိုင်း တက္ကသိုလ်ပြည်ကို သွားရတာလဲ။

ပဏ္ဍိတ်ကြီး။ သူဟာ ဗုဒ္ဓသာသနာ့ဘောင်အတွင်းမှာ ကြီး လေးတဲ့ အပြစ်တခုခုကို ကျူးလွန်မိလို့ သာသနာ့ဘောင်မှ နှင်အထုတ်ခံရတာနဲ့ တူပါတယ် ဆရာတော်။

ဆရာတော်။ ၆ လ ၇ လ ကျော်ကျော် ခြေလျင်ခရီးပြင်း နှင်ပြီး ဘာရည်ရွယ်ချက်နဲ့ အိန္ဒိယပြည်မြောက်ပိုင်းကို သွား တယ်လို့ ယူဆသလဲ ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ ဒီလို မြောက်ပိုင်းအိန္ဒိယကို ဒုက္ခဆင်းရဲခံပြီး သွားတာကတော့ သနဏ္ဍနတရားတော်ကို ယောဘ္ဘို ဖြစ်ပါ တယ်။

ဆရာတော်။ ဒီသနဏ္ဍနတရားကို ဘယ်သူ့ဆီက သူလေ့လာ သင်ကြားသွားတာလဲ ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ ရှရီရှန်ကရကျာလယဟာ ဒီ သနဏ္ဍရတရားကို ရှရီကုမာရလိလာဘတ္တဆီမှာ လေ့လာ သင်ကြားပါတယ် ဆရာ တော်။

ဆရာတော်။ ကုမာရလိလာဘတ္တဟာ တက္ကသိုလ်ပြည် ဗုဒ္ဓ တက္ကသိုလ်ကျောင်းတော်ကြီးမှ ဆရာတော်ဟောင်း မဟုတ် ဖူးလား။

ပဏ္ဍိတ်ကြီး။ ဆရာတော် အမိန့်ရှိထဲ့အတိုင်းဘဲ ဟုတ်ဟန် တူပါတယ် ဘုရား။

ဆရာတော်။ ရှရီကုမာရလိလာဘတ္တရော၊ ရှရီရှန်ကရကျာ လယရော နှစ်ဦးစလုံးဟာ ဗုဒ္ဓသာသနာ့ဘောင်က နှင်ထုတ်ခံ ကြရတော့ ဗုဒ္ဓဘာသာရဲ့ အကြယ်ရန်သူကြီးတွေ ဖြစ်သွားကြ တယ် မဟုတ်လား။

ပဏ္ဍိတ်ကြီး။ ဒီလိုလဲ ဖြစ်နိုင်ပါတယ် ဆရာတော်။

ဆရာတော်။ ရှရီရှန်ကရကျာလယဟာ ဝေဒန္တသာသနာ ကို ထူထောင်ဘို့ရာ ဘယ်သူ့ဆီက အချက်အလက်တွေကို ရသလဲ ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ ရှရိရှန်ကရကျာလယဟာ ဝေဒန္တသာသနာကို ထူထောင်ဖို့ရာ အချက်အလက်တွေကို ရှရိကုမာရလိလာဘတ္တဆီက ရဘာဘဲ ဖြစ်ရမှာပါ ဆရာတော်။

ဆရာတော်။ အဲဒီ အချက်အလက်တွေဟာ ဘာတွေလဲ။

ပဏ္ဍိတ်ကြီး။ တပည့်တော် မသိပါဘူး ဆရာတော်။

ဆရာတော်။ ပဏ္ဍိတ်ရှုကာလဂျီ၊ ဒီကုမာရလိလာဘတ္တဆီက ရှရိရှန်ကရကျာလယရတဲ့ အချက်တွေဟာ တခြားမဟုတ်၊ ဗုဒ္ဓကိုယ်တော်တိုင် ဟောတော်မူခဲ့တဲ့ မဇ္ဈိမနိကာယ်ထဲမှ တရားတွေ ဖြစ်တယ်။ မဇ္ဈိမနိကာယ်နဲ့ တထေရာထဲဘဲ ဖြစ်တယ်။ အဲဒီတော့ ဗုဒ္ဓဟာ ဟိန္ဒူဝါဒထဲက အကောင်းဆုံး အဆီအနှစ်တွေကို ဗုဒ္ဓက တတ်ကျွမ်းတာ မဟုတ်ဖူးဆိုတာ ထင်ရှားနေပြီ။ ဗုဒ္ဓဟောတော်မူထားတဲ့ တရားတွေဟာ ဟိန္ဒူအယူဝါဒက မျိုထားတာသာ ဖြစ်တယ်။ ဒီ ဗုဒ္ဓ ဟောထားတော်မူတဲ့ တရားတွေကိုသာ ကုမာရလိလာဘတ္တက ရှန်ကရကျာလယကို ယူပေးတာဘဲ ဖြစ်တယ်။ ဒါကြောင့် ဟိန္ဒူဘာသာဝင်တွေက ရှန်ကရကျာလယကို ဝေရောနေဗုဒ္ဓ(ရှင်ဖျက်ထားတဲ့ဗုဒ္ဓ)လို့ ခေါ်ကြတာပေါ့။

ဗုဒ္ဓဘာသာဝင်တွေက သပိတ်မှောက်ပစ်လိုက်လို့ အိန္ဒိယပြည်တောင်ပိုင်း ထရစ်ဗန်ဒရမ်မြို့က ထွက်ခွာသွားပြီးတဲ့နောက် ရှန်ကရကျာလယဟာ ဗုဒ္ဓရဲ့အယူဝါဒကို ဖျက်ဆီးဖို့၊ မျိုးမပြုတ်ပြုတ်အောင် ဖြုတ်ပစ်ဖို့ သစ္စာဓိဋ္ဌာန် ပြုလိုက်ပါတယ်။ အဲဒီနောက် အနုစ္စကဘုရင်ရဲ့ မိဖုရားကို လှူဘက်ပါလာအောင် ဆွဲဆောင်ကာ အနုစ္စကဘုရင်ကို အဆိပ်ကျွေးပြီး အသတ်ခိုင်းတယ်။ အနုစ္စကဘုရင်ကို ဒီလို လုပ်ကြံပြီးတဲ့နောက် မိဖုရား

ကြီးနဲ့ ဗြဟ္မဏလူမျိုး မှူးမတ်တွေရဲ့ အကူအညီနဲ့ မိဖုရားကြီးရဲ့ ဂုရုလဲ ဖြစ်လာတယ်၊ ဟိန္ဒူအယူဝါဒနဲ့ဆိုင်ရာမှာလဲ အကြီးအကဲ ဖြစ်လာတယ်။ သမိုင်းအရ ပြောရရင် ရှန်ကရကျာလယဟာ မိဖုရားကြီးဆီက ဗုဒ္ဓဘာသာ ရဟန်းတော်တွေနဲ့ ဗုဒ္ဓဘာသာ ဥပသကာ၊ ဥပသကီတွေကိုပါ သတ်ဖြတ်ကွပ်မျက်ပစ်ရမယ်ဆိုတဲ့ အမိန့်တော်ကို ရအောင်ယူပြီး အဲဒီလို အမိန့်ထုတ်ပြီးတဲ့နောက် အနှစ် ၂၀ ကျော်ကျော် နှစ်ဆယ့်ငါးနှစ်လောက်ကြာတဲ့အခါ ဗုဒ္ဓဘာသာ ရဟန်းတော် ၂ သန်းနဲ့ ဗုဒ္ဓဘာသာဝင်တွေကို ရက်ရက်စက်စက် သတ်ဖြတ်ပစ်လိုက်တဲ့အတွက် နောက်ဆုံး ဗုဒ္ဓရဲ့ အယူဝါဒဟာ အိန္ဒိယပြည်မှာ ပျောက်ကွယ်သွားရသတဲ့။

ဗုဒ္ဓဟာ ဟိန္ဒူဝါဒရဲ့ အဆီအနှစ်တွေကို ကောင်းစွာ တတ်ကျွမ်းတယ်ဆိုတဲ့စကားဟာ မဟုတ်မှန်တဲ့အပြင် ဗုဒ္ဓရဲ့အယူဝါဒထဲမှ တရားဒေသနာတို့ကိုသာ အလွန် ပါးနပ်ကျင်လည်လှတဲ့ ရှန်ကရကျာလယက ဟိန္ဒူဘာသာထဲကို ဆွဲသွင်းခဲ့တာတွေကို ယခုလို သာဓကအကိုးအကားတွေနဲ့ အထင်အရှားပြပြီးတဲ့နောက် ဗုဒ္ဓရဲ့အယူဝါဒနဲ့ ဟိန္ဒူအယူဝါဒတို့ဟာ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်တဲ့အကြောင်း အောက်ပါ အချက် (၂၅)ချက်ကို မှတည်ပြီး ရှင်းလင်းဖော်ပြပါဦးမယ်။

| ဗုဒ္ဓအယူဝါဒ | ဟိန္ဒူအယူဝါဒ |
| --- | --- |
| ၁။ အဝိဇ္ဇာဟူသမျှကို လုံးဝပယ်ဖျက်တော်မူပြီးဖြစ်တဲ့ ဗုဒ္ဓကိုယ်တော်၊ | ၁။ ပရမတ္တမဝိဉာဉ်တော် |

| | |
|---|---|
| ၂။ အနတ္တ၊ | ၂။ အတ္တ၊ သို့မဟုတ် ဝိဉာဉ်၊ |
| ၃။ သစ္စာလေးပါး တရားတော်၊ | ၃။ သစ္စာတရား မရှိ၊ |
| ၄။ မဂ္ဂင်ရှစ်ပါး၊ | ၄။ မဂ္ဂင်တရား မရှိ၊ |
| ၅။ အဘိဓမ္မာတရားတော်၊ | ၅။ အဘိဓမ္မာတရား မရှိ၊ |
| ၆။ ပဋိသန္ဓေ တဖန်ပြန်နေရခြင်း၊ | ၆။ ဝိဉာဉ် ကူးပြောင်းခြင်း၊ |
| ၇။ ဘုရား ကိုယ်စလည်တော် မရှိ၊ | ၇။ ဘုရားကိုယ်စလည် တော်ရှိ၊ |
| ၈။ စတုသမ္ဘာန ရုပ်သဘောအရ ဖြစ်ခြင်း၊ | ၈။ ဖန်ဆင်းရှင် (ဣဿရိယနိမ္မာန) ကိုယ်တော်က ဖန်ဆင်းခြင်း၊ |
| ၉။ နိဗ္ဗာန်တရား၊ | ၉။ မုတ္တိတရား၊ |
| ၁၀။ ကိုယ့်ကိုယ်ကိုညှဥ်းပန်းမှု မရှိခြင်း၊ | ၁၀။ ကိုယ့်ကိုယ်ကိုညှဥ်းပန်းမှု ရှိခြင်း၊ |
| ၁၁။ ရုပ်တရား၊ နာမ်တရား တို့၏ လှုပ်ရှားပြောင်းလဲ မှုများ၊ | ၁၁။ ရုပ်တရား၊ နာမ်တရား တို့၏၊ လှုပ်ရှား ပြောင်းလဲမှုနှင့် ရှင်းလင်းမှု မရှိခြင်း၊ |
| ၁၂။ အရမ်းအကန်းယုံကြည် မှု၊ အယူသည်းမှုတို့မှ ကင်းစင်ခြင်း၊ | ၁၂။ အရမ်းအကန်းယုံကြည် မှု၊ အယူသည်းမှုတို့ဖြင့် ပြွမ်းတီးနေခြင်း၊ |
| ၁၃။ ဂါထာမန္တယားများ မရှိခြင်း၊ | ၁၃။ ဂါထာမန္တယားများ ရှိနေခြင်း၊ |

| | |
|---|---|
| ၁၄။ အသိဉာဏ်ပညာ (ဝိဇ္ဇာ)တရားပေါ်တွင်အခြေတည်အပ်သည့်ယုံကြည်မှု၊ | ၁၄။ အရမ်းအကန်း ယုံကြည်ကိုးကွယ်မှု၊ |
| ၁၅။ ပဋိစ္စသမုပ္ပါဒ တရားတော် ရှိခြင်း၊ | ၁၅။ ပဋိစ္စသမုပ္ပါဒ တရားတော် မရှိခြင်း၊ |
| ၁၆။ လက်တွေ့ဝိပဿနာ တရား ရှိခြင်း၊ | ၁၆။ ဆုတောင်း၊ ဆုယူမှု ရှိခြင်း၊ |
| ၁၇။ သမထနှင့် ဝိပဿနာ တရား ပွားများ အားထုတ်ခြင်း၊ | ၁၇။ ယောဂီတရားအားထုတ်ခြင်း၊ |
| ၁၈။ ဝေဖန်ခြင်း၊ မေးမြန်းခြင်း အမှုတို့ကို ပြုခွင့်ပေးထားခြင်း၊ | ၁၈။ ဝေဖန်ခြင်း၊ မေးမြန်းခြင်းတို့ကို ပြုလုပ်ခွင့်မပြု၊ |
| ၁၉။ အတင်းအကြပ် ကိုင်မှု၊ အမိန့်ပေးမှု မပါခြင်း၊ | ၁၉။ အတင်းအကြပ်ကိုင်မှုနှင့် အမိန့်ပေးမှု ပါခြင်း၊ |
| ၂၀။ အကြောင်းတရား၊ အမြော်တရားတို့မှ ကင်းစင်ခြင်း၊ | ၂၀။ အကြောက်တရား၊ အမြော်တရားတို့ ရှိခြင်း၊ |
| ၂၁။ (၁၅၀၀)ကိလေသာ တရားမှ ကင်းစင်ခြင်း၊ | ၂၁။ မုန်းတီးခြင်း၊ တပ်မက်ခြင်း၊ မှားယွင်းခြင်း၊ ဝိဇ္ဇာတရား၊ ကိုယ့်ကိုယ်ကို အထင်ကြီးခြင်း၊ မှားယွင်းစွာ ယူဆခြင်း စသည့် တရားများရှိခြင်း၊ |

| | |
|---|---|
| ၂၂။ ထုံးတမ်းစဉ်လာနှင့် သမားရိုးကျ အယူအဆ တို့ကို အလေးဂရု အမှု မထားခြင်း၊ | ၂၂။ ထုံးတမ်း စဉ်လာနှင့် သမားရိုးကျ အယူအဆ တို့ကို လိုက်နာခြင်း၊ |
| ၂၃။ ဇာတ်အမျိုးစသည်တို့ ရွေးချယ်မှု မရှိခြင်း၊ | ၂၃။ အမျိုးဇာတ် စသည်တို့ ရှိခြင်း၊ |
| ၂၄။ ယဇ်ပူဇော် ပသခြင်း ကို တင်းတင်းကြပ်ကြပ် တားမြစ်ခြင်း၊ | ၂၄။ လူသားနှင့် တိရစ္ဆာန် တို့ကို ယဇ်ပူဇော် ပသ ရခြင်း။ |
| ၂၅။ လူနတ်ဗြဟ္မာ သတ္တဝါ အားလုံးလေ့လာကျင့် သုံးရမည့် တရားများ၊ | ၂၅။ ဟိန္ဒူ ကျမ်းဂန်များကို ဗြဟ္မဏနွယ်ဝင်တို့သာ လျှင် လေ့လာခွင့် ရှိခြင်း၊ |

ကဲ အထက်ပါမှု (၂၅)ချက်အရ ဗုဒ္ဓအယူဝါဒနဲ့ ဟိန္ဒူအယူဝါဒတို့ဟာ တခုနဲ့တခု လုံးဝဆန့်ကျင်လျက်ရှိတယ်ဆိုတာ ထင်ရှားသွားပါပြီ။ ဒီအချက် ထင်ရှားသွားတာနဲ့ တပြိုင်နက် ဗုဒ္ဓဘာသာရဲ့ ရန်သူတွေက ဗုဒ္ဓဟာ ဟိန္ဒူအယူဝါဒရဲ့ အဆီအနှစ်တွေကို ကောင်းကောင်း ကျွမ်းကျင်တတ်မြောက်ပြီး အဲဒီအဆီအနှစ်တွေကိုသာ ဖော်ထုတ်ဟောပြောလျက် ရှိတယ်ဆိုတဲ့ အချက်ဟာ လုံးဝ အခြေအမြစ်မရှိဘူးဆိုတာကို အထူးပြောဘို့ လိုတော့မယ် မထင်တော့ဘူး ပဏ္ဍိတ်ကြီး။

ပဏ္ဍိတ်ကြီး။ ဗုဒ္ဓအယူဝါဒနဲ့ ဟိန္ဒူအယူဝါဒတို့ မည်၍မည်မျှအထိကွဲပြားခြားနားလျက်ရှိတယ်ဆိုတာကို ယခုလိုကြားနာရတာဟာ ပထမဆုံးအကြိမ်ဘဲ ဖြစ်ပါတယ်။ ဒါပေမဲ့ ဆရာတော်ဟောတဲ့ အချက်တွေဟာ အလွန်ခိုင်မာလှတဲ့အတွက်

တပည့်တော် နားလည်သဘောပေါက်ပြီး ယခုလို ထင်ထင်ရှားရှား ရှင်းလင်းဟောပြောတော်မူတဲ့အတွက် အလွန် ကျေးဇူးတင်လှပါတယ် ဆရာတော်။

## မေးခွန်း အမှတ် ၁၄။

ဗုဒ္ဓသည် သဗ္ဗညုတရွှေဉာဏ်တော်ရှင် ဖြစ်ပါလျက်နှင့် ဝိနည်းသိက္ခာပုဒ်တို့ကို တကြိမ်တည်းနှင့် အားလုံးအပြီး အဘယ့်ကြောင့် မပညတ် မပြဋ္ဌာန်းတော်မူပါသနည်း။

(မေးမြန်းလျှောက်ထားသူ မဂ္ဂတာ ထားသာဆယာဒ်၊ ဖန်ဆီသိုးမွေးစက်ပိုင်ရှင်၊ မာလဘာကုန်းမြင့်၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော် အရှင်အရိယဝံသ။)

ဆရာတော် အရှင်အရိယဝံသ။ အလုံးစုံသော တရားတို့ရဲ့ အတိတ်ကဖြစ်စဉ်၊ ပစ္စုပ္ပန် အခြေအနေ၊ အနာဂတ်တွင် ဖြစ်မည့် အလားအလာစတဲ့ အချက်အလက်တို့ကို အကြွင်းမဲ့ သိမြင်တော်မူတဲ့ အတုမရှိ ရွှေဉာဏ်တော်ကြီးလှတဲ့ ဗုဒ္ဓကိုယ်တော်မြတ်ဟာ ကိုးကုဋေမျှသော ဝိနည်းသိက္ခာပုဒ်တို့ကို တချိန်တည်း၊ တခါတည်းနဲ့ ပြဋ္ဌာန်းလိုက်မယ်ဆိုရင် ဘယ်လိုအကျိုးတရားမျိုး ပေါ်ထွက်လာမယ်ဆိုတာကို ကောင်းစွာ သိမြင်ထားတော်မူတဲ့အတွက် ဒီဝိနည်းသိက္ခာပုဒ်ကြီးငယ်တို့ကို အကြောင်းမဲ့ မပြဋ္ဌာန်း မသတ်မှတ်ဘဲ ထားခဲ့ခြင်း ဖြစ်တယ်။ အခါအားလျော်စွာ အရေးကိစ္စ ပေါ်ပေါက်လာမှသာ သက်ဆိုင်ရာ ပြစ်မှုကို ကျူးလွန်တဲ့ ရဟန်းတပါးပါးကို ဝေဖန်ဆုံးမပြီး နောက်နောင် သံဃာတဖွဲ့လုံး အလားတူပြစ်မှုကို မကျူးလွန်မိအောင်သာ ဝိနည်းသိက္ခာပုဒ်ကို သတ်မှတ်ပြဋ္ဌာန်းတော်မူခဲ့တယ် ဒကာကြီး။

ဖန်ဆီ။ ဝိနည်းသိက္ခာပုဒ်အားလုံးကို တခါတည်းနှင့်အပြီး သတ်ပြဋ္ဌာန်းလိုက်တဲ့အတွက် မလိုလားအပ်တဲ့၊ အကျိုးမဲ့တဲ့ အဖြစ်မျိုးကို ဖြစ်စေလိမ့်မယ် ဆိုတဲ့စကားကို တပည့်တော် မရှင်းလင်းဘဲ ဖြစ်နေပါတယ် ဆရာတော်။ တပည့်တော် နားလည်သဘောပေါက်အောင် ရှင်းတော်မူပါဦး။

ဆရာတော်။ ဒီကိစ္စနဲ့ပတ်သက်လို့ ဒကာကြီးကို ဦးပဥ္စင်း ပြန်ပြီး မေးရဦးမယ်။ ဦးပဥ္စင်းမေးတဲ့ မေးခွန်းတွေကို ဖြေ ကြားရင်းနဲ့ဘဲ ဒကာကြီး မရှင်းတဲ့အချက်တွေဟာ ရှင်းလင်း သွားပါလိမ့်မယ်။

(ဤသို့ ပြောပြီးနောက် ဆရာတော်က)

ဒကာကြီးတို့မှာ ဘုံဘိုင်မြို့ စက်ရုံပိုင်ရှင်များအဖွဲ့ဆိုတဲ့ အဖွဲ့ ရှိတယ် မဟုတ်လား။

ဖန်ဆီ။ မှန်ပါ ဆရာတော်။ တပည့်တော်တို့မှာ စက်ရုံပိုင် ရှင်များအဖွဲ့ ရှိပါတယ်။ တပည့်တော်ဟာ ဒီအဖွဲ့ထဲမှာ အဖွဲ့ဝင် တယောက် ဖြစ်ပါတယ်။

ဆရာတော်။ အရေးကိစ္စ ပေါ်ပေါက်လာတဲ့အခါ မကြာ ခဏ ဆိုသလို ဒကာကြီးတို့အဖွဲ့က စည်းမျဉ်းဥပဒေသစ်တွေကို သတ်မှတ်ပြဋ္ဌာန်းတယ် မဟုတ်လား။

ဖန်ဆီ။ မှန်ပါ၊ အရေးကိစ္စပေါ်တိုင်း စည်းမျဉ်းဥပဒေသစ် တွေကို သတ်မှတ်ပြဋ္ဌာန်းရပါတယ် ဆရာတော်။

ဆရာတော်။ ဒကာကြီးတို့အဖွဲ့မှာ ဥပဒေစည်းကမ်း(၄၀) ကျော် (၀၀)လောက်ရှိတယ် မဟုတ်လား။

ဖန်ဆီ။ စည်းကမ်းဥဒေ (၀၀)လောက် ရှိပါတယ် ဆရာ တော်။

ဆရာတော်။ ဒီ(၇၀)ကျော် (၈၀)လောက်ရှိတဲ့ စည်းကမ်းဥပဒေကို ဒကာကြီးတို့ အသင်း ထူထောင်စကတည်းက အကုန်လုံး ဘာအရေး ဘာကိစ္စမျှ မပေါ်ဘဲနဲ့ သတ်မှတ်ပစ်လိုက်တယ်ဆိုရင် ဒကာကြီးတို့အသင်းမှာ အသင်းသားဦးရေဟာ နည်းမယ်ထင်သလား၊ များမယ်ထင်သလား။

ဖန်ဆီ။ စည်းကမ်းဥပဒေ(၈၀)လောက်ကို တကြိမ်တည်း တခါတည်းနဲ့ အသင်းဖွဲ့ဖွဲ့ချင်း သတ်မှတ်ပြဋ္ဌာန်းလိုက်မယ်ဆိုရင် တပည့်တော်တို့အသင်းထဲ ဘယ်သူမှ ဝင်မယ်မဟုတ်ပါဘူး ဆရာတော်။

ဆရာတော်။ အဲ ဒကာကြီးတို့ရဲ့ (၈၀) လောက် ရှိတဲ့ စည်းကမ်းဥပဒေတွေကို တခါတည်းနဲ့ အကုန်လုံး ပြဋ္ဌာန်းလိုက်ရင်အသင်းသားတယောက်မှရှိမှာမဟုတ်ဖူးဆိုတော့(၉)ကုဋေလောက်ရှိတဲ့ဝိနည်းသိက္ခာပုဒ်တွေကိုတကြိမ်တည်း၊တခါတည်းနဲ့အပြီး ပြဋ္ဌာန်းလိုက်မယ်ဆိုရင် ဗုဒ္ဓရဲ့ သာသနာ့ဘောင်အတွင်းသို့ ဝင်မဲ့လူရှိပါဦးမလား။ ဒီလို ဖြစ်ပေါ်လာမဲ့ အကျိုးတရားကို ကြိုတင်သိမြင်ထားတဲ့အတွက် ဗုဒ္ဓက ဒီလောက်များပြားလှတဲ့ ဝိနည်းသိက္ခာပုဒ်တွေကို တခါတည်းနဲ့အပြီး မပြဋ္ဌာန်းတာ ဖြစ်တယ် ဒကာကြီး။ ဒီလောက်နဲ့ဘဲ ဒကာကြီး ရှင်းလင်းသဘောပေါက် နားလည်သွားပြီလို့ ဦးပဥ္စင်းကတော့ ယူဆမိတယ်။

ဖန်ဆီ။ မှန်ပါ၊ အရှင်ဘုရားပေးတဲ့ ဥပမာနဲ့ဘဲ ဒီပြဿနာကို တပည့်တော် ရှင်းရှင်းလင်းလင်း နားလည် သဘောပေါက်သွားပါပြီ ဘုရား။

ဤတွင် တရားနာပရိသတ်က သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၁၅။

ဗုဒ္ဓသည် ကိသဂေါတမီအား သူ၏ ကွယ်လွန် အနိစ္စရောက်သွားသော သားငယ်နှင့်ပတ်သက်၍ တရားဟောတော်မူရာတွင် မုသားစကားဆိုရာ မရောက်ပေဘူးလော။

(မေးမြန်းလျှောက်ထားသူ မစ္စတာ အယ်(မ်)အေမူလာ၊ စတ်ဆုံတော်ရ၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော် အရှင်အရိယဓမ္မ၊)

**ဆရာတော် အရှင်အရိယဓမ္မ။** ဗုဒ္ဓအလောင်းအလျာဟာ ကပ်ကပ္ပာပေါင်း မရေမတွက်နိုင်အောင် (၁၀)ပါးသော ပါရမီတို့ကို ဖြည့်ဆည်းနေတော်မူစဉ် ကာလကပင် မဟုတ်မမှန်တဲ့စကား တခွန်းမျှ မပြောဆိုခဲ့ဘူးဘူး။ ဟုတ်မှန်တဲ့စကားဆိုလျှင် အသက်ကို သတ်မယ်လို့ ခြိမ်းခြောက်ထားတောင်မှ မဟုတ်မမှန်တဲ့စကားကို မဆိုခဲ့ဘူး။ အဲဒီလောက် သိက္ခာပုဒ်ကို စောင့်ထိန်းခဲ့တဲ့ ဗုဒ္ဓဟာ သဗ္ဗညုတဉာဏ်တော်ရပြီး အဝိဇ္ဇာဟူသမျှကို ဖယ်ရှားကာ ဗုဒ္ဓအဖြစ်ရောက်ခါမှ မုသားစကားကို ဆိုဘို့မပြောထားနဲ့ ဟုတ်မှန်တဲ့စကားကိုတောင် အလဟဿ အကြောင်းမဲ့သက်သက် ပြောဆိုတော်မမူတော့ဘူး။ အခု ဒကာကြီး သိလိုတဲ့အချက်ကို ရှင်းလင်းသွားအောင် ဦးပဥ္ဇင်းက ဒကာကြီးကို မေးခွန်းအချို့ မေးရလိမ့်မယ်။ ဦးပဥ္ဇင်းမေးတဲ့ မေးခွန်းတွေကို ဖြေရင်းနဲ့ဘဲ ဒကာကြီးသိလိုတဲ့အချက်ကို ရှင်းလင်း သဘောပေါက်သွားလိမ့်မယ်။

(ဤကဲ့သို့ ပြောပြီးနောက် ဆရာတော်က)

**ဒကာကြီးမှာ သားသမီး ဘယ်နှစ်ယောက် ရှိသလဲ။**

မူလာ။ တပည့်တော်မှာ ကလေး(၅)ယောက် ရှိပါတယ် ဆရာတော်။

ဆရာတော်။ ဒကာကြီးရဲ့ကလေးတွေ၊ မော်တော်ကားတွေ၊ ယာဉ်တွေ အလွန်ရှုပ်တဲ့လမ်းပေါ်မှာ တခါတခါ ထွက်ထွက် မသွားကြဘူးလား။

မူလာ။ တခါတလေမှ ထွက်ထွက်သွားကြတာ မဟုတ်ပါဘူးဘုရား၊ နေ့တိုင်းလိုလိုဘဲ ထွက်ထွက် သွားကြပါတယ်ဘုရား။ အဲဒီလို ထွက်ထွက်သွားတဲ့အခါ တပည့်တော်က သူတို့ကို ပရိယာယ်သုံးပြီး ချောက်လှန့်ထားရပါတယ် ဘုရား။

ဆရာတော်။ ဒကာကြီး ကလေးတွေကို လမ်းပေါ်တက်တက်ပြီး မကစားအောင် ဘယ်လို ပရိယာယ်တွေများ သုံးပြီး ချောက်လှန့်သလဲ ဒကာကြီး။

မူလာ။ တပည့်တော်က သူတို့ကို လမ်းပေါ်မှာ တခါတလေ ဘီလူးကြီးတကောင် လာတတ်တယ်။ အဲဒီ ဘီလူးကြီးဟာ လွယ်အိတ်ကြီးတလုံးကိုလဲ လွယ်လွယ်လာတတ်တယ်။ တခါတလေ ကလေးတွေကို တွေ့ရင် သူ့လွယ်အိတ်ထဲ ဖမ်းထည့်သွားပြီး သူ့နေရာရောက်တဲ့အခါ လည်ဂုတ်တွေကို ချိုးချိုးစားတတ်တယ်။ တခါတလေကျတော့လဲ တပည့်တော်က ထန်းပင်လောက်အရပ်မြင့်တဲ့ ဘီလူးတကောင်ဟာ ရှောက်ရှောက်လာပြီး ကလေးတွေကို တွေ့ရင် ဖမ်းကာ အတင်းမျိုတတ်တယ်လို့ ပြောပြပါဘယ် ဆရာတော်။

ဆရာတော်။ ဒါဖြင့် ဒကာကြီး ကလေးတွေကို လိမ်လိမ်ပြောတာပေါ့လေ။

မူလာ။ ဒါက ပရိယာယ်ပါဘုရား။ မုသားပြောတဲ့သဘောနဲ့ လိမ်ဘာမဟုတ်ပါဘူး ဆရာတော်။ ဒီပရိယာယ်မျိုးကိုတော့ မိဘများက သားသမီးတွေအပေါ်မှာ၊ ဆရာများက တပည့်တွေအပေါ်မှာ၊အစိုးရကတောင် တခါတလေ ပြည်သူလူထုအပေါ်မှာ ကောင်းစေလိုတဲ့ဆန္ဒနဲ့အသုံးချရပါတယ် ဆရာတော်။

ဆရာတော်။ အဲ အခု ဒကာကြီးပြောတဲ့အတိုင်းဘဲ မဟာကရုဏာတော်ရှင် လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါတို့ရဲ့ မှီခိုဆည်းကပ်ရာ ဖြစ်တော်မူတဲ့ ဗုဒ္ဓကိုယ်တော်မြတ်ဟာ မဂ်ဖိုလ် ရသင့်ရထိုက်သူတွေနဲ့ တွေ့တဲ့အခါမှာ တယောက်စီ တယောက်စီရဲ့ ဝါသနာအထုံကို လိုက်ပြီး ထိုက်သင့်တဲ့ပရိယာယ်ကို သုံးတော်မူတယ်။ ကိသဂေါတမီရဲ့ကိစ္စမှာလဲ ဒီအတိုင်းဘဲ။ ကိသဂေါတမီကို ဘယ်လိုအကျွတ်တရားရအောင် လုပ်ရပါ့မလဲလို့ စဉ်းစားတော်မူပြီး သူနဲ့ကိုက်ညီတဲ့ ပရိယာယ်ကို သုံးခြင်းအားဖြင့် ဇာတိ၊ ဇရာ၊ ဗျာဓိ၊ မရဏဆိုတဲ့တရားကို တခါတည်းနဲ့ အထင်အရှားနားလည်သွားအောင် လုပ်တော်မူလိုက်တာဘဲ ဖြစ်တယ်။ ဒကာကြီးရဲ့ စိတ်ထဲမှာ ထင်နေသလို လိမ်လိုက်တာ မဟုတ်ဖူး။

ဒီရည်ရွယ်ချက်နဲ့ ဗုဒ္ဓကိုယ်တော်မြတ်က "ချစ်သမီး ကိသဂေါတမီ၊ သင်၏သား သေဆုံးသည့်အတွက် မပူပင် မကြောင့်ကြလင့်။ သင်၏သား အသက်ပြန်ရှင်ရန်အတွက် နှမ်းစေ့ လက်တဆုပ်စာခန့်ရလျှင် တော်ပေပြီ" လို့ မိန့်တော်မူခြင်း ဖြစ်တယ်။ အဲဒီအခါကျတော့ ကိသဂေါတမီက "အဘယ်ကဲ့သို့သော နှမ်းစေ့လက်တဆုပ်စာမျှကို လိုတော်မူပါသနည်း အရှင်ဘုရား" လို့ ပြန်ပြီး လျှောက်ထား မေးမြန်းပြန်တယ်။ ဒီအခါကျတော့ ဗုဒ္ဓကိုယ်တော်မြတ်က "အို ချစ်သမီး၊ ယူခဲ့ရမည့် နှမ်းစေ့ လက်

တဆုပ်စာခန့်ကား အခြားအရပ်မှ မဟုတ်ပါ။ အမိသော်ငင်း၊ အဖသော်ငင်း၊ အတိုးသော်ငင်း၊ အဘွားသော်ငင်း၊ သား သော်ငင်း၊ သမီးသော်ငင်း၊ မြေးသော်ငင်း၊ မြစ်သော်ငင်း၊ တူသော်ငင်း၊ တူမသော်ငင်း၊ အစေခံမိန်းမသော်ငင်း၊ အစေခံ ယောကျ်ားသော်ငင်း တဦးတယောက်မျှ မသေကြေ မပျက်စီး ဘူးသည့်အိမ်မှ ဖြစ်ရမည်။ ဤကဲ့သို့သော အိမ်တအိမ်မှ နှမ်း စေ့ လက်တဆုပ်စာမျှ ရသည်နှင့်တပြိုင်နက် အမြန်ပြန်လာခဲ့ လော့။ သင်၏သား အသက်ပြန်၍ ရှင်စေအံ့''လို့ မိန့်တော်မူ လိုက်တယ်။

အဲဒီလို မိန့်တော်မူစဉ်က ဗုဒ္ဓက ကိသာဂေါတမီဟာ ဘဝ အဆက်ဆက်က ဖြည့်ဆည်းခဲ့တဲ့ပါရမီအဟုန်နဲ့ ချက်ချင်း သော တာပတ္တိမဂ်ကို ဆိုက်ပြီး အဲဒီဘဝမှာဘဲ အရဟတ္တမဂ်၊ အရ ဟတ္တဖိုလ်ရောက်မဲ့သူဖြစ်ကြောင်း ကောင်းစွာ သိတော်မူတယ်။ ဒါပေမဲ့ သူကိုယ်တိုင် လူမသေဘူးတဲ့အိမ်ကို ရှောက်ရှာပြီး မတွေ့မှ ''သတ္တဝါဟူသမျှဟာ မွေးလျှင် သေရမယ်''ဆိုတဲ့ သဘောကို အထင်အရှား နားလည်ယုံကြည်လိမ့်မယ်ဆိုတာကို သိထားတော်မူတယ်။ တကယ်လို့ ဗုဒ္ဓဟာ အဲဒီအခါက ဒီ ပရိယာယ်ကို မသုံးဘဲ ''အို ချစ်သမီး ကိသာဂေါတမီ၊ သေခြင်း တရားကို ဘယ်သူမျှ မလွန်ဆန်နိုင်တကား။ သင်၏သားသည် အဘယ်နည်းနှင့်မျှ အသက်ပြန်၍ ရှင်လိမ့်မည် မဟုတ်ချေ''ဟု တည့်တိုး မိန့်တော်မူလိုက်လျှင် ကိသာဂေါတမီဟာ သားရဲ့ဈော နဲ့ ရင်ကွဲနာကျပြီး ငရဲဘုံကျဘို့သာ ရှိဘော့တယ်။ ဒါကြောင့် ဗုဒ္ဓက လူမသေဘူးတဲ့အိမ်က နှမ်းစေ့လက်တဆုပ်စာခန့်ကို အရှာခိုင်းခြင်း ဖြစ်တယ်။ ဒီနှမ်းစေ့ မရနိုင်တဲ့အခါကျတော့

ကိသာဂေါတမီဟာ သူ့ရဲ့ မှားယွင်းတဲ့အချက်ကို သူမြင်ပြီးသော့ သူ့ကလေးကို လုတ်တိုင်းကုန်းမှာစွန့်ကာ သူ့ဆီကို တရားရေ အေးတိုက်ကျွေးတော်မူဝါလို့ လာပြီးဘောင်းပန်လျှောက်ထား လိမ့်မယ်။ ဒီအခါမှာ တရားဘပုဒ်ဟောလိုက်ရုံနဲ့ နိဗ္ဗာန်ရောက် ဖို့ လမ်းကြောင်းပေါ်တက်မိပြီး ရဟန္တာမ ဖြစ်လိမ့်မယ်လို့ မြင် တော်မူထားတယ်။

နောက်ဆုံး ဗုဒ္ဓရဲ့ပရိယာယ်ကြောင့်ဘဲ ဗုဒ္ဓ မြင်တော်မူသား တဲ့အတိုင်းဘဲ ကိသာဂေါတမီဟာ နိဗ္ဗာန်ကို ရသွားတယ် မဟုတ် လား။ အဲဒီတော့ ဒကာကြီးက ဗုဒ္ဓကိုယ်တော်မြတ်က ကိသ ဂေါတမီကို လိမ်လည်လှည့်ဖြားပြီး မုသားပြောတယ်လို့ စွပ်စွဲ ချင်သေးသလား။

မှုလား။ တပည့်တော် မူလကတည်းက ဗုဒ္ဓဂေါတမက ကိသ ဂေါတမီကို လိမ်လည်ပြီး မုသားစကားပြောတယ်လို့ စွပ်စွဲလို တဲ့ ဆန္ဒ မရှိပါဘူး ဆရာတော်။ တပည့်တော်မှာ ဗုဒ္ဓက ဘာပြု လို့ ဒီနေရာမှာ ကိသာဂေါတမီကို "သေခြင်းတရားမှ ဘယ်သူမျှ လွတ်အောင် မပြေးနိုင်ဘူး"လို့ တိုက်ရိုက် မဟောတော်မူဘဲနဲ့ "လူမသေတဲ့အိမ်က နှမ်းစေ့လက်တဆုပ်စာခန့်သာ ရှာခဲ့၊ သင်၏သား အသက်ပြန်ရှင်စေမယ်"လို့ လှည့်စားရဒါလဲလို့ သံသယဝင်လို့ ဆရာတော်ကို လျှောက်မိခြင်း ဖြစ်ပါတယ်။ ယခုတော့ တပည့်တော်မှာ ရှိနေတဲ့သံသယ ရှင်းသွားတဲ့အပြင် ဗုဒ္ဓရဲ့ဉာဏ်ပညာ ကြီးမားလှပုံကို နားလည်သဘောပေါက်ပြီး ယခင်ထက်ပင် ပို၍ ကြည်ညိုမိပါတယ် ဘုရား။

ဤဘွင် တရားနာသရိသတ်က သာဓုအနုမောဒနာ ခေါ်ကြ လေသည်။

## မေးခွန်း အမှတ် ၁၆။

ဗုဒ္ဓသည် အချို့အမေးပုစ္ဆာတို့ကို အဘယ့်ကြောင့် မဖြေဆိုဘဲ သနည်း။

(မေး၊ မြန်း၊ လျှောက်ထားသူ ဝေဒကျမ်း၊ နက္ခတ်ကျမ်း၊ ပုရဏ်ကျမ်း၊ စသည့် ဟိန္ဒူကျမ်းဂန်တို့ကို ကျွမ်းကျင်သည့် ဗြာဟ္မဏ နွယ်ဝင် 'ရှော့တ်ရှကာလဂျ်'၊ တုံ့ဒိုင်ပြန်၊ ဖြေဆိုသူ ဆရာတော် အရှင်အရိယဓမ္မ။)

ဆရာတော် အရှင်အရိယဓမ္မ။ ဗုဒ္ဓဟာ သူ့ခေတ် သူ့လက်ထက်အတွင်း ဘာသာအယူဝါဒအသီးသီးမှာ ပေါ်ပေါက်နေတဲ့ အလွန်ထင်ရှားတဲ့ အမေးပုစ္ဆာ (၁၄) ပုဒ်ကို သဗ္ဗညုတ ရွှေဉာဏ်တော်ရှင် ဗုဒ္ဓက ဖြေဆိုတော် မမူခဲ့ပါဘူး။ ဒီအမေး ပုစ္ဆာတွေကို ဖြေဆိုလို့ အကျိုးမရှိဘူး။ ဒီအမေးပုစ္ဆာတွေရဲ့ အဖြေကို သိလို့လဲ မြင့်မြတ်တဲ့၊ အဝိဇ္ဇာကင်းတဲ့ဘဝကို ရောက် မသွားဘူး။ ပြီးတော့ ဒီအမေးပုစ္ဆာတွေဟာ အသိဉာဏ်ပညာ အရ အလွန်မြင့်မားလှတဲ့အတွက် အရဟတ္တမဂ်၊အရဟတ္တဖိုလ် မရောက်မချင်း ဘယ်သူမှလဲ နားမလည်နိုင်ဘူး။ နောက်ဆုံး အချက်ကတော့ ဗုဒ္ဓရှင်တော်မြတ်ဟာ သတ္တဝါတဦးတယောက် အတွက် အကယ် ကောင်းကျိုးသုစနဲ့ ပြည့်စုံတဲ့စကားမှသာ ဟောတော်မူလေ့ရှိတဲ့ အချက်ဘဲ။

သဗ္ဗညုတရွှေဉာဏ်တော်ရှင် ဗုဒ္ဓရှင်တော်မြတ်က မဖြေဆိုဘဲ ထားခဲ့တဲ့ အမေးပုစ္ဆာ (၁၄)ခုကတော့–

၁။ (က) ကမ္ဘာကြီးသည် အစဉ် တည်မြဲသလော။ (ခ) မတည်မြဲဘဲ ပျက်စီးသွားသလော။ (ဂ) တည်လည်းတည်မြဲ

ပျက်စီးလည်း ပျက်စီးသလော။ (ဃ) မတည်လည်း မတည်မြဲ၊ မပျက်စီးလည်း မပျက်စီးဘူးလော။

၂။ (က) ကပ္ပာကြီးသည် ကာလ အပိုင်းအခြားအားဖြင့် သက်တန်းရှိသလော။ (ခ) ကပ္ပာကြီးသည် ကာလအပိုင်း အခြားအားဖြင့် သက်တန်းမရှိပြီလော။ (ဂ) ကပ္ပာကြီးသည် ကာလအပိုင်းအခြားအားဖြင့် သက်တန်းလည်းရှိ၊ မရှိလည်း မရှိပြီလော။ (ဃ) ကပ္ပာကြီးသည် ကာလအပိုင်းအခြားအား ဖြင့် သက်တန်းရှိသည်လည်း မဟုတ်၊ မရှိသည်လည်း မဟုတ်ပြီလော။

၃။ (က) ဗုဒ္ဓသည် ပရိနိဗ္ဗာန်ပြုပြီးသည့် အခြားကာလ၌ ရှိသေးသလော။ (ခ) မရှိတော့ပြီလော။ (ဂ) ရှိလည်းရှိ၊ မရှိလည်း မရှိပြီလော။ (ဃ) ရှိသည်လည်း မဟုတ်၊ မရှိသည် လည်း မဟုတ်ပြီလော။

၄။ (က) အသက်နှင့် ခန္ဓာကိုယ်ဟူသော တရားနှစ်ပါး သည် အတူတူပင်လော။ (ခ) ၎င်းတရားနှစ်ပါးသည် တကွဲ တပြားစီလော။

ဒီ အထက်ပါ မေးခွန်းတွေနဲ့ပတ်သက်လို့ ပြောဆိုဖြေရှင်း ရာမှာ ဗုဒ္ဓကိုယ်တော်တိုင် မဇ္ဈိမနိကာယ်ထဲမှာ ဟောတော်မူခဲ့ တဲ့ အချို့ အချက်အလက်တွေကို အနည်းငယ်ကိုးကားပြီး ပြော လိုပါတယ်။ အဲဒီကိုးကားလိုတဲ့ ဗုဒ္ဓရဲ့ စကားတွေကတော့ ''အကယ်၍ ဗုဒ္ဓရှင်တော်မြတ်ကိုယ်တိုင်က ပထမဆုံး ကပ္ပာ ကြီးသည် ထာဝရတည်ရှိမည်လော၊ ခေတ္တယာယီမျှသာ တည် ရှိမည်လော။ ၎င်းကပ္ပာကြီးသည် အစအဆုံးရှိသည့် တရားလော၊ မရှိသည့်တရားလော။ အသက်နှင့် ခန္ဓာကိုယ်တို့သည် တခု

တည်းသောတရားလော၊ သို့တည်းမဟုတ် တခုနှင့်တခု ကွဲပြား ခြားနားသလော။ဗုဒ္ဓရှင်တော်မြတ်သည် ပရိနိဗ္ဗာန်ပြုပြီးနောက် ရှိနေသေးသလော စသည့် မေးခွန်းတို့ကို မဟောကြားမီ ဗုဒ္ဓ ရှင်တော်မြတ်၏ သာသနာ့ဘောင်အတွင်း မဝင်လိုသူကား ဤအမေးပုစ္ဆာတို့နှင့် ပတ်သက်၍ ဗုဒ္ဓရှင်တော်မြတ်က ရှင်း လင်း ဟောကြားတော်မူမပြီးမီပင် ကွယ်လွန်အနိစ္စ ရောက်ရ မည် ဖြစ်၏။ ထိုသူကား အဆိပ်လူးသောမြား မှန်ထားသည့် သူတယောက်ကို သမားတယောက်က ကုမည်ပြုရာတွင် ဆေးဝါး အကုအသမခံမီ ''ကျွန်ုပ်အား ဤမြားနှင့်ပစ်လိုက်သောသူသည် မှူးမျိုးမတ်နွယ်ထဲမှလော။ မင်းမျိုး မင်းနွယ်ထဲမှလော။ ကျေး ကျွန် လူတန်းစားထဲမှလော။ ထိုသူ မည်သူမည်ဝါနည်း။ မည် သူ မျိုးရိုးထဲမှနည်း။ အရပ်မြင့်သလော၊ အရပ်နိမ့်သလော။ အလုံးအရပ် မနိမ့်မမြင့်ထဲမှလော''စသည့် မေးခွန်းတို့ကို မေး ပြီး ဤအချက်အလက်တို့ကို မသိရသမျှ ကျွန်ုပ်၏ခန္ဓာတွင်းမှ မြားကို အနုတ်မခံဟုဆိုရင်၊ အဆိပ်တက်ကာ သေသွားရသူကဲ့ သို့ပင် ဖြစ်ချေသည်။

အထက်က ဗုဒ္ဓရှင်တော်မြတ် မိန့်တော်မူခဲ့တဲ့စကား ကြည့် ရင် အခြားဘာမျှ မလေ့လာ မကျင့်သုံးဘဲ ဒီပြဿနာ(၁၄)ခုရဲ့ အဖြေကိုသာ ရှာနေကြတဲ့ ဘာသာအသီးသီးမှ လူတွေဟာ မည်မျှ မိုက်မဲတယ်ဆိုဒါကို အထင်အရှား သိမြင်နိုင်တယ်။ ဒီလူ တွေဟာ အဆိပ်လူးတဲ့မြားကို အနုတ်မခံဘဲ ဒီမြားကိုပစ်တဲ့ လူရဲ့ အကြောင်း မေးမြန်းနေရင်းနဲ့ သေသွားရမဲ့ လူမျိုးထဲက ဘဲ။ ဒီအမေးပုစ္ဆာတွေဟာ နိဗ္ဗာန်ရောက်ရာရောက်ကြောင်း တရားသာ မဟုတ်တယ်၊ အဲလွန်ခက်ခဲနက်နဲလှတဲ့ ပြဿနာ

တွေ ဖြစ်တယ်။ သာမန်ချင်းလင်းဟောပြောပြရုံနဲ့ လူသာမန်များ နားလည် သဘောပေါက်ဘို့ အလွန်ခက်ခဲလှတယ်။ဒီကိစ္စတွေကို အဝိဇ္ဇာတရားဟူသမျှကို ခုတ်ထွင် ပယ်ရှားထားပြီးဖြစ်တဲ့ ဗုဒ္ဓရှင်တော်မြတ်သာလျှင် အကြွင်းမဲ့ လုံးဝဥဿုံ သိမြင်နားလည်တော်မူတယ်။ နိဗ္ဗာန်ရောက်ရာ ရောက်ကြောင်းတရားကို အားမထုတ်ဘဲ ဒီပြဿနာတွေအတွက် အဖြေရရာ ရကြောင်း ကြိုးစားဒါဟာ အလွန်အဘိုးထိုက် အဘိုးတန်လှတဲ့အချိန်တွေကို အလဟဿ ဖြုန်းတီးပစ်ထာဘဲ ဖြစ်မယ်။ ဒီအမေးပုစ္ဆာတွေကို ဗုဒ္ဓရှင်တော်မြတ်က တစုံတယောက်သောသူအား ဟောပြောတော်မူသည့်တိုင်အောင် ထိုသူသည် မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို ရထားသူမဟုတ်က နားလည်နိုင် သဘောပေါက်နိုင်မှာ မဟုတ်ဖူး။ ဒါကြောင့်လဲ ဗုဒ္ဓကိုယ်တော်မြတ်ကဒီအမေးပုစ္ဆာတွေကို မဖြေကြားဘဲ နေတော်မူဒါပေါ့။

ဒီနေရာမှာ ပဏ္ဍိတ်ကြီးလို ကျမ်းဂန်စာပေတွေကို တတ်မြောက် ကျွမ်းကျင်ထားတဲ့ ပုဂ္ဂိုလ်တဦးက ဒီ နိဗ္ဗာန် ရောက်ရာ ရောက်ကြောင်းအတွက် ဘာမျှအထောက်အကူ မဖြစ်တဲ့ဒီမေးခွန်းတွေကို သဗ္ဗညုတဉာဏ်တော်ရှင် လူ၊ နတ်၊ ဗြဟ္မာဆိုတဲ့ သတ္တဝါသုံးပါးတို့ရဲ့ ဆရာဖြစ်တဲ့ ဗုဒ္ဓက ဖြေဆိုတော်မမူတာကို ဗုဒ္ဓဟာ ဒီမေးခွန်းတွေကို ဖြေဆိုနိုင်စွမ်းမရှိလို့ ယူဆခြင်းဟာ အလွန် ဝမ်းနည်းဘွယ်ကောင်းနေပြီ။ နောက်တခုကဒီမေးခွန်းတွေအတွက် အဖြေမရ ရအောင် လိုက်လံရှာဖွေလေ့လာရုံနဲ့ စိတ်ရဲ့ချမ်းသာမှု၊ ကိုယ်ရဲ့ချမ်းသာမှုတို့ကို ရနိုင်မယ်၊ မရနိုင်ဘူးဆိုတာကိုဘဲ ပဏ္ဍိတ်ကြီးကိုယ်တိုင် သိမြင် နားလည်ထားလိမ့်မယ်လို့ ဦးပဉ္ဇင်းက ယူဆထားတယ်။

ပဏ္ဍိတ်ကြီး။ တပည့်တော်ဟာ ဗုဒ္ဓက ဒီအမေးပုစ္ဆာ (၁၄)ပုဒ်ကို အဘယ့်ကြောင့် မဖြေဆိုတော်မူမှုန်း သိပါလျက်နဲ့ တမင်သက်သက် ဗုဒ္ဓရှင်ဘော်မြတ်ကို ရှုံ့ချလိုတဲ့သဘောနဲ့ ယခုလို မေးခြင်း မဟုတ်ပါ။ ဒါပေမဲ့ အလုံးစုံသောတရားတို့ကို ထိုးထွင်း သိမြင်နားလည်တော်မူတဲ့ ဗုဒ္ဓဟာ ဒီပုစ္ဆာ(၁၄)ပုဒ်ကို အဘယ့်ကြောင့် ဟောတော်မမူဘဲ ချန်ထားခဲ့ရသလဲဆိုတဲ့ အချက်ကို စိတ်ထဲမှာ မရှင်းလင်းဒါရဲ့ မေးမြန်းလျှောက်ထားခြင်း ဖြစ်ပါတယ် ဆရာတော်၊ တပည့်တော်ဟာ ဗုဒ္ဓရဲ့အလွန်ကြီးမားတဲ့ ဉာဏ်တော်ကို ကြည်ညိုလှပါတယ် ဆရာတော်။

ဤတွင် ပရိသတ်အားလုံးက သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၁၇။

### နာမ်တရားတို့၏ သက်တန်းသည် မည်မျှ ရှည်ကြာပါသနည်း။

(မေးမြန်းလျှောက်ထားသူ ဒေါက်တာ ယန်ကတ်စရာင်း၊ ပါဝယ(လ်) ကျွဲလာ၊ လမင်တန်လမ်း၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဓမ္မ။)

**ဆရာတော်အရှင်အရိယဓမ္မ။** ဗုဒ္ဓရှင်တော်မြတ်ဟောတော်မူခဲ့တဲ့ အဘိဓမ္မာတရားတော်အရ ပြောရမယ်ဆိုရင် စိတ်ဟာ ဘယ်လောက် လျင်မြန်စွာ လှုပ်ရှားနိုင်သလဲဆိုရင် အလွန်တိုတောင်းလှတဲ့ လျှပ်တပြက် အချိန်ကလေးအတွင်းမှာပင် အကြိမ်ပေါင်း ကုဋေတသိန်း ဖြစ်ပေါ် ချုပ်ငြိမ်းနိုင်တယ်။စိတ်ခေတ် တခါတခါ လှုပ်ရှားစဉ်ကာလအတွင်းမှာပင် ဥပါဒ် (စတင်ဖြစ်ပေါ်ခြင်း)၊ ဌီ (တိုးတက်ကြီးထွားခြင်း)၊ ဘင်(ချုပ်

ငြိမ်းခြင်း)ရယ်လို့ အဆင့်သုံးဆင့် ရှိတယ်။ ဒီအဆင့်ကလေး တဆင့်တဆင့်ကို ''ခဏငယ်''လို့ ခေါ်တယ်။ ဒီအဆင့် သုံးဆင့် လုံးကို ပေါင်းလိုက်တဲ့တရားကို စိတ္တက္ခဏလို့ ခေါ်တယ်။ ဒါ ကြောင့် စိတ္တက္ခဏတခုရဲ့ သက်တန်းကို အချိန်ကာလ အပိုင်း အခြားအားဖြင့် ဘယ်လောက်ရှည်တယ်ဆိုတာကို ဘယ်လိုမှ တွက်ချက် တိုင်းတာလို့တောင် မဖြစ်နိုင်ဘူး။

ရုပ်တရားရဲ့ လှုပ်ရှားမှုကတော့ စိတ်ခေတ်ရဲ့ လှုပ်ရှားမှုထက် အချိန်ကာလအားဖြင့် ပိုပြီး ရှည်လျားတယ်။ ဘယ်လောက် ပိုပြီး ရှည်လျားသလဲဆိုရင် စိတ်ခေတ်အကြိမ်ပေါင်း(၅၁)ကြိမ် လှုပ်ရှားတဲ့ အချိန်ကာလအတွင်းမှာ ရုပ်ခေတ် (၁၇) ကြိမ် လှုပ်ရှားပြောင်းလဲတယ်။ ဒီလို ရုပ်ခေတ်က (၃)ဆပိုပြီး အချိန် ရှည်လျားစွာ လှုပ်ရှားပြောင်းလဲတယ်လို့ဆိုရပေမဲ့ ဒီရုပ်ခေတ် လှုပ်ရှားပြောင်းလဲမှုကို မှီအောင် ဘယ်ကရိယာနဲ့မှ တိုင်း တာလို့ မရနိုင်ဘူး။

ဒီလိုစိတ်ခေတ်နဲ့ ရုပ်ခေတ်တို့ရဲ့ လျင်မြန်စွာ လှုပ်ရှားပြောင်း လဲတဲ့ အကြောင်းကို ဗုဒ္ဓရှင်တော်မြတ်က လွန်ခဲ့တဲ့ နှစ်ပေါင်း (၂၅၆၀)ကျော်လောက်က ဟောခဲ့ဒါကို ယခုခေတ် သိပ္ပံပညာ က ထောက်ခံနေရပြီ။ ဘာပြုလို့လဲဆိုတော့ သိပ္ပံပညာရပ်က ဘယ်ရုပ်တရားမှ တည်မြဲတယ်လို့ မရှိကြောင်း၊ ရုပ်တရားဟာ အမြဲတန်း လှုပ်ရှားပြောင်းလဲလျက်ရှိကြောင်းကို ဝန်ခံနေရုံမျှ မကဘူး အသံရုပ်တွေဟာ တစက္ကန့်အတွင်းမှာ မိုင်ပေါင်း (၁၇၆၀၀၀)တောင် လှုပ်ရှားသွားလာနိုင်တယ်လို့ ပြောနေပြီ။ ဒါကြောင့် နာမ်နဲ့ရုပ်တို့ရဲ့ လှုပ်ရှားပြောင်းလဲမှုဟာ ဘယ် လောက် မြန်တယ်ဆိုဒါကို ပြောနေတို့ လိုမယ်မထင်တော့ဘူး။

ဒီလို ဘယ်နည်းနဲ့မျှ တွက်ချက်မှန်းဆ ဟောပြောလို့ မဖြစ်တဲ့ အချိန်ကာလအတွင်းမှာ လှုပ်ရှားပြောင်းလဲ ဖြစ်ပျက်တတ်တဲ့ ရုပ်တရား၊ နာမ်တရားတို့ရဲ့ ဖြစ်စဉ်သဘာဝကို ဗုဒ္ဓနဲ့ ရဟန္တာပုဂ္ဂိုလ်တို့ကသာ တိတိကျကျမြင်နိုင်၊ ထင်နိုင်တယ်။ ဘာပြုလို့ သာမန်မျက်စေ့၊ သာမန်ဉာဏ်၊ သာမန်ကရိယာတို့နဲ့ မမြင်နိုင်၊ မသိနိုင်၊ နားမလည်နိုင်သလဲဆိုရင် ဒီတရားတွေဟာ အပြတ်အတောက်မရှိ စဉ်တိုက်၊ ဆက်တိုက် ဖြစ်နေတာက တကြောင်း၊ အလွန် လျင်မြန်ခြင်းက တကြောင်း၊ ဆင်ခြင်သုံးသပ် လေ့လာသူတွေရဲ့ ဉာဏ်ပညာကိုလဲ အဝိဇ္ဇာအမှောင်တိုက်က ဖုံးအုပ်ထားတာက တကြောင်းတို့ကြောင့် ဖြစ်တယ်။ ဒီနာမ်တရားတို့ရဲ့ လျင်မြန်တဲ့အရှိန်ကို သိမြင်နားလည်ချင်ရင် အဝိဇ္ဇာတရားကို ပိုင်သည့်တိုင်အောင် မဂ္ဂင်ရှစ်ပါးကို ကျင့်ဘို့လိုတယ်။

ရောင်း။ ဆရာတော်က ယခုလို ဗုဒ္ဓရဲ့အဘိဓမ္မာကို သိပ္ပံပညာနှင့် ခံထောက်ခံကိုးကားပြီး ရှင်းလင်းဟောပြောတော်မူတဲ့အတွက် တပည့်တော်ဟာ နာမ်တရား၊ ရုပ်တရားတို့ရဲ့ လှုပ်ရှားမှု၊ ပြောင်းလဲမှုတို့ဟာ ဘယ်လောက် လျင်မြန်တယ်ဆိုဒါကို ကောင်းစွာ နားလည်သဘောပေါက်ပြီး ကျေးဇူးတင်လှပါတယ် ဘုရား။

ဤတွင် ပရိသတ်အားလုံးက သာဓု အနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၁၈။

"ချစ်သားရဟန်းဟူသို့၊ အာရုံခြောက်ပါးကား ရာဂမီး၊ ဒေါသမီး၊ မောဟမီး တည်းဟူသော မီးတောက်မီးလျှံတို့ကို ဖြစ်ပွားစေ

၍ အသင်တို့အား အမြဲတန်း တောက်လောင်လျက် ရှိချေသည်''ဟု ဟောတော်မူခြင်းအားဖြင့် ဗုဒ္ဓသည် ရဟန်းတို့ကို သတ်ဖြတ်ရာသို့ မရောက်စေဘူးလော။

(မေးမြန်းလျှောက်ထားသူ မစ္စတာ ကက်ရှ်မီယာဆင်း၊ အယ်(မ်)အေ၊ အယ်(မ်) အက်(စ်)စီ၊ ကျောင်းအုပ်ကြီး၊ အာ(လ်)ဆာ ကောလိပ်ကျောင်း၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဓမ္မ။)

**ဆရာတော်အရှင်အရိယဓမ္မ**။ မဟာကရုဏာတော်ရှင် ဗုဒ္ဓရှင်တော်မြတ်ရဲ့ မေတ္တာတရားဟာ ကပ္ပာလောကတခုလုံးရဲ့ အရှေ့၊ အနောက်၊ တောင်၊ မြောက်ဆိုတဲ့ အရပ်လေးမျက်နှာလုံးကို ပျံ့နှံ့လျက်ရှိတယ်။ ဒီပျံ့နှံ့တဲ့နေရာမှာလဲ လူမျိုးမရွေး၊ ဘာသာမရွေး၊ အသားရောင်မရွေး၊ အဝါအဖြူ မရွေး၊ နှာခေါင်းအချွန်အပြား မရွေး၊ အယုတ်၊ အလတ်၊ အမြတ် မရွေး ရှိရှိသမျှ သတ္တဝါတို့အပေါ်မှာ ညီတူညီမျှ ပွားထားတော်မူတယ်။ တချိန်တည်းမှာပင် စကြာဝဠာအတွင်း ရှိရှိသမျှသော လူ၊ နတ်၊ ဗြဟ္မာ သတ္တဝါတွေ အားလုံးအပေါ်မှာ သူ့ရဲ့ မဟာကရုဏာနဲ့ မေတ္တာတရားတော်တို့ဟာ ပျံ့နှံ့လျက်ရှိတယ်။ ဒါကြောင့် အာရုံခြောက်ပါးဟာ မီးတောက် မီးလျှံကြီးများသဖွယ် တောက်လောင်လျက်ရှိတယ်လို့ ဗုဒ္ဓရှင်တော်မြတ်က ဟောကြားတော်မူတဲ့အတွက် သွေးစိမ်းပွက်ပွက်အန်ပြီး ပျက်စီးကြတဲ့ ရဟန်းသံဃာများဟာ ဗုဒ္ဓက ဒီတရားကို ဟောလို့ ပြောလို့ ပျက်စီးတာ မဟုတ်ဖူး။ သူတို့ရဲ့ အတိတ်ဘဝက ပြုခဲ့ဘူးကြတဲ့ ကံတရားကြောင့်သာ ဖြစ်တယ်။ တနည်းအားဖြင့် ခြောက်ပါးသော အာရုံတို့ကြောင့် မီးတောက် မီးလျှံ

များ တောက်လောင်ရတယ်ဆိုတဲ့ တရားကို ကဲ့ရဲ့ရှုတ်ချမိကြလို့ ပျက်စီးကြရဒါ ဖြစ်တယ်။ ဒါကြောင့် သူတို့တတွေ ပျက်စီးကြ ဒါနဲ့ ဗုဒ္ဓဟောတော်မူတဲ့တရားနဲ့ ဘာမျှ မပတ်သက်ပါဘူး ဒကာကြီး။

ဆင်း။ ဆရာတော် ယခု ဖြေဆိုဟောပြောလိုက်တာဟာ ဗုဒ္ဓ ဟောတော်မူခဲ့တဲ့ တရားတော်အရတော့ မှန်ကန်ပါတယ်။ ဒါပေမဲ့ တပည့်တော့် စိတ်ထဲမှာရှိတဲ့ သံသယကတော့ မပြေ ပျောက်သေးပါဘူး ဘုရား။ ဘာပြုလို့လဲဆိုတော့ ဗုဒ္ဓရှင်တော် မြတ်ကသာ ဒီတရားကို မဟောရင် ဒီရဟန်းတွေဟာ သွေးစိမ်း ပွက်ပွက် အန်ပြီး ပျက်စီးကုန်ကြမှာ မဟုတ်ဖူးလို့ တပည့်တော် ရဲ့ ဦးခေါင်းထဲမှာ စွဲနေလို့ပါ။ ဒါကြောင့် တပည့်တော်ကို ဒီ သံသယကင်းရှင်းသွားအောင် ထပ်ပြီး ရှင်းလင်းတော်မူပါဦး ဆရာတော်။

ဆရာတော်။ ဒကာကြီးရဲ့စိတ်ထဲမှာ ကိန်းအောင်းနေတဲ့ သံသယကိုရှင်းသွားအောင် ဦးပဥ္စင်း နောက်ထပ်ရှင်းပြဦးမယ်။

အနန္တတန်ခိုးတော်ရှင်၊ အနန္တဉာဏ်တော်ရှင်ဗုဒ္ဓဟာ ဒီ တရားတော်ကို မဟောမီကတည်းက သူ့ရဲ့ရှေ့မှောက်မှာ ရောက် နေကြတဲ့ရဟန်းများရဲ့အတိတ်က ပြုလုပ်ခဲ့တဲ့ကံတွေ၊ ပစ္စုပ္ပန်မှာ ပြုလုပ်နေကြတဲ့ကံတွေ၊ အနာဂတ်မှာ တွေ့ကြုံရမဲ့ အဖြစ်အပျက် တွေ၊ ဒီတရားအားလုံးကို ထင်ထင်ရှားရှားသိမြင်တော်မူတယ်။ ဒါတင်မကသေးဘူး၊ သူ ဟောတော်မူမဲ့ တရားအဆုံးမှာ ထို ထိုသော ရဟန်းတွေဟာ သွေးစိမ်းပွက်ပွက်အန်ပြီး ပျက်စီးကုန် ကြရမယ်ဆိုတာကိုလဲ သိတော်မူတယ်။ ဒီလို သွေးစိမ်းပွက်ပွက် အန်ပြီး ပျက်စီးကြရတဲ့ ရဟန်းတွေဟာ (၈၀)ကျော် (၉၀)

လောက်ရှိလိမ့်မယ် ထင်တယ်။ ဒါပေမဲ့ ဒီတရားကို ဟောတော်မူတဲ့အဆုံးမှာ အခြားဘထောင်သောရဟန်းများဟာ တခါတည်းနဲ့ အရဟတ္တမဂ်နဲ့ အရဟတ္တဖိုလ်ကို ရောက်ကုန်ကြလိမ့်မယ်ဆိုတာကိုလဲ ဗုဒ္ဓရှင်တော်မြတ်ဟာ သိထားတော်မူတယ်။ ဒီလိုသွေးစိမ်းပွက်ပွက်အန်ပြီး ပျက်စီးကုန်ရမဲ့ ရဟန်းတွေကို မပျက်စီးရအောင် တားမြစ်လို့ မဖြစ်သလိုဘဲ အရဟတ္တမဂ်၊ အရဟတ္တဖိုလ်ကို ရောက်ကုန်ကြမဲ့ တဒထောင်သောရဟန်းတွေကိုလဲ မဂ်တရား၊ ဖိုလ်တရားကို မရအောင်တားလို့ မဖြစ်ဖူးဆိုတာကို ဗုဒ္ဓကသိတော်မူတယ်။ ဒီရဟန်းတွေဟာ သူတို့ကိုယ်တိုင်အတိတ်ကာလက ပြုလုပ်ခဲ့တဲ့ တရားအတိုင်း ဖြစ်ကြရတဲ့အတွက် ဘယ်သူကမှ ဝင်မစွက်နိုင်ဘူး။ ချောင်ကွင်းလို့လဲမရဘူး။ ဒါတင်မကဘူး၊ ဒီသွေးစိမ်းပွက်ပွက်အန်ပြီး ပျက်စီးကြရတဲ့ ရဟန်းတွေဟာ ယခုဘဝတွင် မဟုတ်ဖူး၊ နောင် အနာဂတ်ကာလမှာ ပွင့်ကြမဲ့ ဗုဒ္ဓရှင်တော်မြတ်တွေရဲ့ လက်ထက်မှာလဲ ဒီတရားကို ဟောပြီးတဲ့အခါမှာ ခုလိုဘဲ သွေးစိမ်းပွက်ပွက်အန်ပြီး ကပ္ပတရာတိုင် ပျက်စီးကြရလိမ့်ဦးမယ် ဆိုတာကိုလဲ သိမြင်ထားတော်မူတယ်။ အထက်ကပြောခဲ့တဲ့အချက်တွေကိုထောက်ရှုခြင်းအားဖြင့် ဒီရဟန်းတွေဟာ ဗုဒ္ဓကြောင့် ပျက်စီးကြရတာ မဟုတ်ဖူးဆိုတာကို ဒကာကြီး ရှင်းလင်းသွားလောက်ပြီလို့ ထင်တယ်။

ဆင်း။ ဒီရဟန်းတွေဟာ အတိတ်ဘဝတွေတုန်းက သူတို့ပြုလုပ်ခဲ့တဲ့ ကံကြောင့် ခုလို ပျက်စီးရတယ် ဆိုတာကိုတော့ တပည့်တော် သဘောပေါက်ပါပြီ ဆရာတော်။ ဒါပေမဲ့ ဒီတရားကို ကြားပြီးတဲ့နောက်မှ ဘာလို့ ခုလိုပျက်စီးရတယ် ဆိုတာကို တပည့်တော် မရှင်းသဲ ဖြစ်နေပါတယ်။

ဆရာတော်။ ဒီလိုဖြစ်ရတာကတော့ သူတို့တတွေဟာ ဒီမှန်မြတ်တဲ့တရားရဲ့ အလွန်ကောင်းတဲ့ အနှစ်သာရကို မှားယွင်းတဲ့ အမိပ္ပာယ်နဲ့ ကောက်ယူပြီး ရှုံ့ချကဲ့ရဲ့ခဲ့ကြလို့ဘဲ ဖြစ်တယ်။

ဆင်း။ ယခု ဆရာတော်အမိန့်ရှိလိုက်တဲ့ အချက်ကို ရှင်းရှင်းလင်းလင်း နားလည် သဘောမပေါက်သေးပါဘူး ဆရာတော်။ မှန်မြတ်ကောင်းမွန်တဲ့ တရားတော်ဆိုတာဟာ ဒီလူတယောက်အတွက် အကျိုးရှိသလိုဘဲ အခြားလူတယောက်အတွက်လဲ အကျိုးရှိမှာဘဲ မဟုတ်လား ဆရာတော်။

ဆရာတော်။ ကဲ ဒကာကြီး၊အစာအာဟာရဆိုတာ လူတိုင်းအတွက် အသက်ရှင်စေပြီး ကောင်းတဲ့အကျိုးကို ပြုသလား။

ဆင်း။ မှန်ပါတယ် ဆရာတော်။ အာဟာရဆိုတာ လူတိုင်းအတွက် ကောင်းတာချည်းပါဘဲ။

ဆရာတော်။ ဒါပေမဲ့ ဒီအာဟာရဖြစ်တဲ့ အစားအစာကို လိုတာထက် ပိုပြီးစားတဲ့လူဟာ အစာမကြေဘဲ သေကြေပျက်စီးရတယ် မဟုတ်လား။

ဆင်း။ မှန်ပါ၊ အချို့အတွက်မှာတော့ အစားအစာဟာ အာဟာရမဖြစ်ဘဲဘေးဥပါဒ်ဖြစ်တာ တွေ့ရပါတယ်ဆရာတော်။

ဆရာတော်။ ဒီအတိုင်းဘဲ ဒကာကြီး။ဗုဒ္ဓရဲ့တရားတော်တွေဟာ အလွန်မွန်မြတ်ပြီး ကောင်းမွန်သော်လဲ ဒီကောင်းတဲ့၊ မွန်မြတ်တဲ့ တရားကို အဆိုးလို့ ယူဆကြတဲ့ ရဟန်းများအတွက် ဘေးဒုက္ခအန္တရာယ် ဖြစ်ကုန်ကြရတာပေါ့။ ကဲ ဒကာကြီး၊ ဒီကိစ္စနဲ့ ပတ်သက်လို့ ရှင်းသွားပြီ မဟုတ်လား။

ဆင်း။ ယခုလို ဆရာတော်အား အပြန်အလှန် မေးမြန်းလျှောက်ထားခွင့်ပြုတဲ့အတွက် များစွာ ကျေးဇူးတင်ပါတယ်။

ဒါတာမ်မကစေသေးဘူး၊ တပည့်တော် လျှောက်ထား မေးမြန်းတဲ့ မေးခွန်းအတွက် တပည့်တော် ရည်မှန်းထားတာထက် ကျေနပ် ရှင်းလင်းလောက်တဲ့အဖြေကို ရတဲ့အတွက် အထူးဝမ်းမြောက် ဝမ်းသာ ဖြစ်မိပါတယ်ဘုရား။ ဘာဖြစ်လို့လဲဆိုတော့ တပည့် တော်ဟာ လပ်ကနောင်၊ ကလကတ္တာ၊ ဗုဒ္ဓဂါယာ၊ သီဟိုဠ်စတဲ့ ဒေသများက ရဟန်းတော်များကို လျှောက်ထားကြည့်တုံးက သူတို့က "ဗုဒ္ဓဟာ ဒီရဟန်းတွေကို သေစေတာမဟုတ်ဖူး၊ သူတို့ အလိုအလျှောက် ပျက်စီးကြရတာ" လို့ဘဲ ဖြန့်ဖြေဆိုခဲ့ကြတယ်။ ဒါပေမဲ့ တပည့်တော်က မရှင်းလင်းလို့ပြန်လျှောက်တဲ့အခါမှာ "ဦးပဉ္ဇင်းတို့ ပြောတာဟာ အမှန်ဘဲ။ အဲဒါကြီး လက်ခံနိုင်ရင် လက်ခံပေါ့" လို့သာ ပြန်ဖြေကြပါတယ် ဆရာတော်။ ဒါကြောင့် အရှင်ဘုရားရဲ့အဖြေကို ထောက်ခံကျခြင်း ဖြစ်ပါတယ်။

ထိုအခါ ဝရိယသတိက သာဓုအနုမောဒနာခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၁၉။

ဗုဒ္ဓဝါဒဟာ သစ္စာတရားပေါ်မှာ အခြေခံထားတဲ့ သစ္စာဝါဒ ဖြစ်တယ်လို့ အဘယ့်ကြောင့် ယူဆပါသလဲ ဆရာတော်။

(မေးမြန်းလျှောက်ထားသူ ကက်ရှ်မီးယားဆင်း၊ အယ်(လ်)ဘေ၊ အမ်(န်)အက်စ်စီ၊ ကျောင်းဆုံကြီး၊ ဆာ(လ်)ဆာကောလိပ်၊ ဆုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဝံသ။)

ဆရာတော်အရှင်အရိယဝံသ။ ဗုဒ္ဓရဲ့ဝါဒဟာ သစ္စာတရား ပေါ်မှာအခြေတည်ထားတဲ့ဘာသာအယူဝါဒဖြစ်တဲ့အကြောင်း ခိုင်ခိုင်ခန့်ခန့် အကျိုးနဲ့ အကြောင်းနဲ့ ဟောပြောရမယ်ဆိုရင် ဦးပဉ္ဇင်းဟာ ကမ္ဘာ့ဘယ်ဘာသာ၊ ဘယ်ဝါဒကိုမျှ မငဲ့ကွက်

မညာတာဘဲ ဟုတ်တိုင်းမှန်ရာကို တိတိလင်းလင်းနဲ့ ဘွင်းဘွင်း ကြီးပြောရပါလိမ့်မယ်။ ဒါကြောင့် တကယ်မှန်ကန်တဲ့တရားကို သိလိုနာလိုကြလို့ ယခု ဒီနေရာမှာ လာရောက်စုဝေးကြတဲ့ ဒါယကာ၊ ဒါယိကာမအားလုံးကို ဦးပဥ္စင်းက ဘယ်ဘာသာ ဘယ်အယူဝါဒကိုမျှ မထောက်မညာဘဲ ဟောပြောတဲ့အတွက် စိတ်လက်မကြည်မသာ မဖြစ်ဖို့ရန်လဲ တောင်းပန်ထားလိုပါ တယ်။ ဦးပဥ္စင်းကိုယ်တိုင် ကမ္ဘာမှာရှိတဲ့ ဘာသာအယူဝါဒ ပေါင်း(၂၉)မျိုးကို (၂၂)နှစ်ကျော်ကျော် လေ့လာလိုက်စား ပြီးမှ သစ္စာဝါဒကို တွေ့ရှိရလို့ ဒီသစ္စာဝါဒကို လက်ခံကာ အလွန်စိတ်အားထက်သန်လှတဲ့ ဗရင်ဂျီဘာသာဝင်တယောက် အဖြစ်က ဗုဒ္ဓရဲ့ သာသနာ့ဘောင်ထဲဝင်ပြီး သာသနာ့ဝန်ထမ်း ရဟန်းဘဝကို ခံယူခဲ့ခြင်း ဖြစ်ပါတယ်။

အဲဒီတော့ ယခု ဦးပဥ္စင်းဟောမဲ့ တရားကိုလဲ မိမိတို့ရှိရင်း ဘာသာအယူဝါဒ အစွဲအလန်းတွေကို ခေတ္တဖြေဖျောက်ထား ပြီး စိတ်သဘောထားကြီးကြီးနဲ့ ကြားနာကာ ဘယ်ဘာသာ၊ ဘယ်အယူဝါဒအပေါ်မှာမှ ဘက်မလိုက်ဘဲ တကယ်တမ်းဖြောင့် မတ်မှန်ကန်တဲ့ နှလုံးသားနဲ့ ဝေဖန်ပိုင်းခြားပြီး နားထောင်ကြ မယ်ဆိုရင် အလွန်မှန်မြတ်လှတဲ့ သစ္စာတရားကိုလဲ သိမြင်နား လည်သွားကြလိမ့်မယ်လို့ ဦးပဥ္စင်း ယုံကြည်မြော်လင့်ပါတယ်။ အခု ဦးပဥ္စင်းပြောခဲ့တဲ့သဘောနဲ့ နားထောင်မယ်ဆိုရင် သစ္စာ တရားနဲ့ ပတ်သက်လို့ ဦးပဥ္စင်းရှင်းလင်းပြမဲ့အချက်တွေကြောင့် စိတ်ထဲမှာ အနှောက်အရှက် မဖြစ်ရုံတင်မကဘဲ စကြာဝဠာကြီး နဲ့ တကွ သတ္တဝါအားလုံးအပေါ်မှာ လွှမ်းမိုးကြီးစိုးနေတဲ့ သစ္စာတရားနဲ့ ပတ်သက်တဲ့ အကြောင်းအချက်တွေကိုလဲ

**ကျောင်းကောင်းကြီး** သိမြင်သဘောပေါက်သွားကြမှာ ဖြစ်ပါတယ်။

တချိန်တည်းမှာပင် ယခု အမေးပုစ္ဆာကို လျှောက်ထားမေးမြန်းတဲ့ မစ္စတာကက်ရှ်မီယာဆင်းကိုလဲ ဒါယကာ ဒါယိကာမအပေါင်းက ကျေးဇူးအထူးတင်တို့ ကောင်းလှပါတယ်။ ဘာပြုလို့လဲဆိုတော့ လူသားအများစုဟာ မိရိုးဖလာ ဘာသာအယူဝါဒ အစွဲအလန်းတွေ ရှိနေကြတော့ မှန်ကန်တဲ့တရားကို မှန်ကန်တဲ့အတိုင်း ပြောတာ ဟောတာကို မကြားလို နားမထောင်လိုကြဘူး။ အဲဒီတော့ ဦးပဥ္ဇင်းဟာ ဒကာကြီးဆင်းကသာ ဒီမေးခွန်းကို မမေးမြန်းခဲ့လို့ရှိရင် ဒီသစ္စာအယူဝါဒနဲ့ ပတ်သက်လို့ ဟောဖြစ်မှာ မဟုတ်တဲ့အတွက်ဘဲ။

ဦးပဥ္ဇင်းဟာ ကမ္ဘာ့ဘာသာ အယူဝါဒပေါင်း(၂၈)မျိုးကို လေ့လာလိုက်စားခဲ့ဘူးတော့ ဗုဒ္ဓရဲ့ဝါဒဟာ အခြားဘာသာအယူဝါဒ(၂၇)မျိုးလို တရားထေ သဘောတရားတွေ၊ အရမ်းအကန်းယုံကြည်မှုတွေ၊မိရိုးဖလာ ကိုးကွယ်မှုတွေပေါ်မှာ အခြေခံထားတဲ့ ဘာသာအယူဝါဒ မဟုတ်ဘဲ တကယ့်စိတ်၊ ခန္ဓာကိုယ်၊ စကြာဝဠာတို့နဲ့ပတ်သက်တဲ့ သိပ္ပံပညာရပ်ပေါ်မှာ တည်ဆောက်ထားတဲ့ ဘာသာအယူဝါဒ ဖြစ်တယ်လို့ ရဲရဲကြီးအနိုင်အမာ ပြောဝံ့ဆိုဝံ့တယ်။

ဒီ အယူဝါဒဟာ–

(၁) ဒုက္ခသစ္စာ၊ (၂) သမုဒယသစ္စာ၊ (၃) မဂ္ဂသစ္စာ၊ (၄) နိရောဓသစ္စာဆိုတဲ့ သစ္စာတရား ၄ ပါးပေါ်မှာ အခြေတည်ထားတဲ့တရား ဖြစ်တယ်။

တခါဒီသစ္စာလေးပါး တရားတော်ကို အောက်ပါ ဖျက်ဆီး ပြောင်းလဲလို့ မရတဲ့ (၁၆)ပါးသော တရားများအဖြစ် ခွဲခြားထားပြန်တယ်။

(၁) အကြောင်းအကျိုးသဘော၊
(၂) မူလအကြောင်းတရားနဲ့ ထိုအကြောင်းတရားကို ပယ်ဖျက်သည့် သဘော၊
(၃) ပုဂ္ဂိုလ်စ္စသမုပ္ပာဒ်သဘော၊
(၄) အညမညသဘော၊
(၅) ကမ္မသဘော၊ အကျိုးပေးခြင်းနဲ့ အကျိုးမပေးခြင်းသဘော၊
(၆) နာမ်နှင့် ရုပ်တရားတို့၏ လှုပ်ရှားမှုသဘော၊
(၇) အနိစ္စ၊ ဒုက္ခ၊ အနတ္တသဘော၊
(၈) နိစ္စနှင့် ပရမတ်သဘော၊
(၉) သဘာဝဓမ္မ (ဖြစ်ခြင်း၊ ပျက်ခြင်းသဘော)၊
(၁၀) သဘာဝထက် လွန်ကဲသည့်သဘော(ဖြစ်ခြင်း၊ ပျက်ခြင်းတို့မှ ကင်းလွတ်သည့် သဘော)၊
(၁၁) အကျိုးတရား ခံစားမှုသဘော၊
(၁၂) သုခနှင့် ဒုက္ခသဘော၊
(၁၃) နှောင်တတ် ဖွဲ့တတ်သည့်သဘော၊
(၁၄) လွတ်မြောက်ခြင်းသဘော၊
(၁၅) လွတ်လပ်ခြင်းသဘော၊
(၁၆) ဆွဲဆောင်ခြင်းသဘော၊

ဒါကြောင့် စကြာဝဠာကြီးတခုလုံးနဲ့ အဲဒီ စကြာဝဠာကြီး အတွင်းမှာရှိတဲ့ သင်္ခါရ၊ ဝါဘွ၊ ခပ်သိမ်းသော တရားတွေဟာ

အထက်က ပြောပြခဲ့တဲ့ သစ္စာလေးပါးတရားထဲမှာ အကျုံးဝင်ကြတဲ့(၁၆)ပါးသော တရားသဘောများအရ ဖြစ်ကြရ၊ ပျက်ကြရတယ်။ ဒီတရားသဘောတွေမှအပ စကြာဝဠာအတွင်း ရှိရှိသမျှသော သက်ရှိသက်မဲ့တရားတို့ကို ဖန်ဆင်းနိုင်တဲ့၊ ဖျက်ဆီးနိုင်တဲ့ တရားရယ်လို့ မရှိဘူး။

ဒါဟာ လွန်ခဲ့တဲ့ နှစ်ပေါင်း (၂၅၀၀)ကျော် (၂၆၀၀) လောက်က ဗုဒ္ဓရှင်တော်မြတ် ဟောတော်မူခဲ့တဲ့ အတိုင်းဘဲ။ အဲဒီတရားကို ယခုခေတ်မှာ ပေါ်ပေါက်လွန်းကားနေတဲ့ သိပ္ပံပညာရပ်က ဟုတ်မှန်ကြောင်း ထောက်ခံလျက် ရှိတယ်။ သိပ္ပံပညာအရဆိုရင် လောကမှာ မည်သည့်ရုပ်တရားမှ နောက်တခဏသို့ အပြောင်းမခံဘူး။ အလွန်သေးငယ်တဲ့ ဆီးနှင်းပေါက်ကလေးကနေပြီး အမြင့်မားဆုံးသတ္တဝါအထိ အလွန်လျင်မြန် တိုတောင်းလှတဲ့ အချိန်ကာလအတွင်းမှာပင် ရုပ်ကလာပ်တွေဟာ မြူကလေးများဘဲဖြစ်ဖြင့် လှုပ်ရှားပြောင်းလဲလျက် ရှိတယ်။ စိတ်တရားကဆိုရင် ရုပ်တရားတွေ လှုပ်ရှားပြောင်းလဲတာထက်တောင် ပိုမြန်သေးတယ်၊ ဘယ်လောက်မြန်သလဲဆိုရင် တစက္ကန့်အတွင်းမှာ အကြိမ်ပေါင်း(၁၀၀၀)ကနေပြီး(၁၅၀၀၀)ထိလှုပ်ရှားပြောင်းလဲလျက် ရှိတယ်။ ဒါပေမဲ့ ဒီစိတ်တရား၊ ရုပ်တရားတွေဟာ တခုတည်း ထင်ရလောက်အောင် အလွန်လျင်မြန်ပြီးဦးပဥ္စင်းတို့ ဒကာကြီးရဲ့ အသိဉာဏ်ကိုလဲ အဝိဇ္ဇာမှောင်တိုက်က ပိတ်ဖုံးထားတော့ ဒီပြောင်းလဲလှုပ်ရှားတဲ့သဘောသဘာဝကို မမြင်နိုင်ဘဲ ဖြစ်နေကြရတာပေါ့။ သိပ္ပံပညာနဲ့ ဒီသဘာဝကို စမ်းသပ်စုံစမ်းဘူးတဲ့လူတွေကတော့ ဒီအချက်ကို လက်ခံကြပါလိမ့်မယ်။

ကဲ အခု စကြာဝဠာကြီးနဲ့ ဒီစကြာဝဠာကြီး အတွင်းမှာ ရှိသမျှ သက်ရှိသက်မဲ့တရားတွေနဲ့ ပတ်သက်လို့ ဗုဒ္ဓရှင်တော်မြတ်ကိုယ်တိုင် ဟောတော်မူတဲ့ အချက်အလက်တွေ၊ သိပ္ပံပညာရှင်များ စူးစမ်းရှာဖွေလို့ တွေ့ရှိတဲ့ အချက်အလက်တွေ၊ အဲဒါတွေအားလုံးကို ခေတ္တဖယ်ထားပြီး ဦးပဥ္စင်းနဲ့တကွ ဒါယကာ၊ ဒါယိကာမအားလုံး အောက်ပါအတိုင်း ဆင်ခြင်လေ့လာ သုံးသပ်ကြစို့။

(၁) အကယ်၍ ဖန်ဆင်းသူရှိရင် ဖျက်ဆီးသူလဲ ရှိရမယ်။ ဘာပြုလို့လဲဆိုရင် ဖန်ဆင်းတာဟူသမျှဟာ ပျက်စီးရတာချည်းမို့လို့ ဇာတိတရား ရှိနေသမျှ မရဏတရား ရှိနေလို့ဘဲ။ ဒါဟာ ဘယ်သက်ရှိသက်မဲ့တရားကမျှရှောင်ကွင်းလို့မရတဲ့သဘာဝဘဲ။

(၂) အကယ်၍ ဖန်ဆင်းရှင်တဦးတယောက် ရှိမယ်ဆိုရင် အဲဒီ ဖန်ဆင်းရှင်ဟာ တစုံတခုကို အကြောင်းပြုပြီး စတင်ဖြစ်ပေါ်ရမယ်။ အဲဒီလို တစုံတခုကို အကြောင်းပြုပြီးစတင်ဖြစ်ပွားရတဲ့ တရားဟူသမျှဟာ နောက်ဆုံးပျက်စီးရမှာဘဲ။ ဒါလဲ လူ၊နတ်၊ ဗြဟ္မာ သတ္တဝါဟူသမျှ ရှောင်ကွင်းလို့မရတဲ့ သဘာဝဘဲ။

(၃) အကယ်၍ဖန်ဆင်းရှင်ဟာ တစုံတခုသောအကြောင်းတရားကြောင့် ဖြစ်ပေါ်ရတယ်ဆိုရင် စကြာဝဠာကြီးတခုလုံးနဲ့ ဒီစကြာဝဠာကြီးအတွင်းမှာ ရှိကြတဲ့ သက်ရှိသက်မဲ့ တရားစုတွေဟာလဲ ဒီ အကြောင်းတရားကို အစွဲပြုပြီး ဖြစ်ရမယ်။ ဒီအကြောင်းတရားဟာ ပဋိစ္စသမုပ္ပါဒ်တရား တနည်းအားဖြင့် အကြောင်းအကျိုးဆက်တရားသာလျှင် ဖြစ်တယ်။

(၄) ဒီ အကြောင်းအကျိုးဆက်တရားမှာ အကြောင်းတရား ၁၂ ပါးနဲ့ အကျိုးတရား ၁ ပါး၊ ပါဝင်လျက် ရှိတယ်။

(၅) အဲဒီအထဲမှာ အဓိကအကြောင်းက အဝိဇ္ဇာတရားဘဲ ဖြစ်တယ်။ ဒီအဝိဇ္ဇာတရားကြောင့် ပြုပြင် ဖန်တီးတတ်တဲ့ ကံ တရား ပေါ်လာရတယ်။ ဒီ ပြုပြင်ဖန်တီးတတ်တဲ့ ကံတရားကို အဝိဇ္ဇာတရားက ဖုံးလွှမ်းထားတဲ့ မျက်စေ့နဲ့ကြည့်တော့ ဖန် ဆင်းရှင်ရဲ့ ဖန်ဆင်းခြင်းလို့ ထင်နေကြတယ်။ အဲဒီ အဝိဇ္ဇာ တရားကို ဖယ်ရှား သုတ်သင်ပစ်လိုက်တာနဲ့တပြိုင်နက် ဝိဇ္ဇာ ဉာဏ်လိုက်ပြီး သူ၊ ငါဆိုတဲ့ သတ္တဝါမရှိကြောင်း၊ စကြာဝဠာ ကြီးရယ်လို့ မရှိကြောင်း သိမြင်ပြီး ရုပ်တရား၊ နာမ်တရားတို့ရဲ့ အဆက်မပြတ် ဒလစပ်လှုပ်ရှား၊ဖြစ်ပေါ်၊ပျက်သုဉ်း၊ ပြောင်းလဲ နေကြတာတွေကိုသာ တွေ့မြင်ရလိမ့်မယ်။ အမှန်အားဖြင့် ရုပ် တရား၊နာမ်တရားတို့ရဲ့ တဖွားဖွား ဖြစ်ပေါ်၊ ပျက်သုဉ်း၊ပြောင်း လဲနေခြင်းဟာ မြစ်ရေအလျဉ်လိုဘဲ။ မြစ်ရေအလျဉ်ဟာ ခဏ ကလေးမျှ မတည်မြဲသော်လဲ လူတွေက ဒီမြစ်ရေဟာ အစဉ်ထာ ဝရ တည်မြဲနေတယ်လို့ အထင်အမြင် လွဲနေကြတယ်။ မြစ်ထဲက အလျဉ်မပြတ် စီးဆင်းနေတဲ့ ရေအလျဉ်ကို **ဖယ်ထုတ်လိုက်ရင်** ဘာမျှ မကျန်တော့သလိုဘဲ သူ၊ ငါ၊ စ စကြာဝဠာကြီး တခု လုံးထဲက အစဉ်တစိုက် ဖြစ်လိုက်၊ ပျက်လိုက်၊ ပြောင်းလဲလိုက် ဖြစ်နေကြတဲ့ ရုပ်မှုန်တွေ၊ ရုပ်ကလာပ်တွေကို ဖယ်ထုတ်လိုက် ရင်လဲ ဘာမျှမကျန်တော့ဘူး။

(၆) သတ္တဝါတွေနဲ့ စကြာဝဠာကြီးတခုလုံးဟာ အမှန်စင် စစ်အားဖြင့် အဝိဇ္ဇာတရားက လှည့်စားထားလို့ သူဘဲ၊ ငါဘဲ၊ ငါ့အိမ်ဘဲ၊ ငါ့ယာဘဲ၊ ငါ့ဥစ္စာဘဲ၊ သူ့ဥစ္စာဘဲလို့ မြင်နေရတဲ့ တရားတွေဘဲ ဖြစ်တယ်။ တကယ်တော့ အဝိဇ္ဇာတရားဟာ ဘာ နဲ့တူသလဲဆိုရင် ပရိသတ်တရပ်လုံးကို လှည့်စားပြီး မဟုတ်တာ

ကို အဟုတ်လုပ်ပြီး ပြနေတဲ့ မျက်လှည့်ဆရာကြီးဘဲ။ ဒါကြောင့် ဝိပဿနာဉာဏ်ကို အစွမ်းကုန် ကြိုးပမ်းအားထုတ်ပြီး ယထာဘူတဉာဏ်ကို ရအောင်လုပ်ဖို့လိုတယ်။ ဒီယထာဘူတဉာဏ်ကို ရလိုက်တာနဲ့တပြိုင်နက် သူငါ၊ သတ္တဝါဆိုပြီး စကြာဝဠာကြီး ပါမကျန် ဘာမှမဟုတ်ပါကလားလို့ သိမြင်လာလိမ့်မယ်။ အဲဒီလို မြင်လာတာနဲ့တပြိုင်နက် အလုံးစုံသော ရုပ်တရားတွေ၊ နာမ်တရားတွေရဲ့ မမြဲမှုတွေကို မြင်လာပြီး ဒီတရားတွေထဲမှ လွတ်မြောက်လာချင်လိမ့်မယ်။ အဲဒီလို ဒီတရားတွေထဲမှ လွတ်မြောက်အောင် တကယ်ကြိုးပမ်း အားထုတ်တဲ့အခါ ကျတော့မှ လွတ်မြောက်ခရာတရား၊ နိဗ္ဗာန်တရားကို ရလာမယ်။ ... ဟာ လူသားတွေကို ... ဗြဟ္မာ ... မပြောင်းနိုင်တဲ့ သဘော ဖြစ်တယ်။

(၇) အဝိဇ္ဇာတရားကို အရင်းခံပြီး သူသူ ငါငါ သတ္တဝါတွေ ဖြစ်လာရတယ်။ ဒီ ဖြစ်လာရတဲ့ သတ္တဝါတွေဟာလဲ အဖြစ်တရားရှိသလို အပျက်တရားနဲ့ ဆုံကြရတယ်။ ဒါ့ကြောင့် ရှိရှိသမျှ သတ္တဝါတွေ၊ ရုပ်တရားတွေ၊ နာမ်တရားတွေကို ပရမတ်ကျကျ မြင်မယ်။ အဲဒီလို ပရမတ်ဉာဏ် ဝင်လာတာနဲ့တပြိုင်နက် အဝိဇ္ဇာအမှောင်ထုဟာ တခါတည်းကွယ်ပျောက်သွားရမယ်။ ဒီအဝိဇ္ဇာတရား ကွယ်ပျောက်သွားတာနဲ့တပြိုင်နက် ပဋိသန္ဓေနေရခြင်း၊ အိုရခြင်း၊ နာရခြင်းဆိုတဲ့ တရားတွေမှ ကင်းစင်လွတ်မြောက်သွားမယ်။ တနည်းအားဖြင့် နိဗ္ဗာန်ကို ရောက်သွားမယ်။ ဒီသဘာဝဟာ လူ၊ နတ်၊ ဗြဟ္မာဟူသမျှတွေသဲက ဘယ်သူမှ မပြောင်းနိုင် မပယ် ... သဘာဝပဲ။

ဗုဒ္ဓဟောတော်မူတဲ့ တရားတွေကိုလဲ မကိုးကား၊ သိပ္ပံပညာရဲ့ ရှာဖွေဖော်ထုတ်မှုတွေကိုလဲ အားမကိုးဘဲ သဘာဝဓမ္မအတွင်းက တကယ့်ဖြစ်စဉ် ဖြစ်ရပ်တွေကို တိတိကျကျ မှန်မှန်ကန်ကန်လေ့လာပြီး ဆင်ခြင်သုံးသပ်လိုက်တာနဲ့ တပြိုင်နက် အထက်က ဦးပဥ္စင်းပြောခဲ့တဲ့ သတ္တ၊ချချက်(၇)ချက်ဟာ ထွက်ပေါ်လာမယ်။ ဒါပေမဲ့ နောက်ဆုံး ဒီ သတ္တ၊ချချက်တွေဟာ ဗုဒ္ဓရှင်တော်မြတ် ဟောတော်မူတဲ့ တရားတွေနဲ့ ထပ်တူထပ်မျှ တူနေတာကို တွေ့ကြရတယ်။

တခါ ဒီသတ္တ၊ချချက်(၇)ချက်အရ ကြည့်ပြန်တော့ ဒီစကြာဝဠာကြီးနဲ့တကွ သူ ငါကစ သတ္တဝါရှိရှိသမျှတွေဟာ ကွယ်ပျောက်သွားရတာပေါ့။ ဒီတရားတွေအားလုံးဟာ အမြဲတန်းဖြစ်ပေါ်ပြောင်းလဲ လှုပ်ရှားနေတဲ့ ရုပ်တရား၊ နာမ်တရားတွေဘဲ။ အဲဒီတော့ ဒီတရားတွေကို ဖန်ဆင်းတယ်ဆိုတဲ့ ဖန်ဆင်းရှင်ကိုယ်တော်မြတ်လဲ မရှိတော့ဘူး။ အဲဒီတော့ ဝိဇ္ဇာပညာရပ်နဲ့ တထပ်တည်းကိုက်ညီနေတဲ့ ဗုဒ္ဓအယူဝါဒသာလျှင် မှန်ကန်ကြောင်း ထင်ရှားလာတယ်။ ဗုဒ္ဓကလဲ သူသူငါငါ သတ္တဝါဆိုတာ မရှိ။ ရုပ်တရား၊နာမ်တရားတို့ရဲ့ ဖြစ်ပျက်ပြောင်းလဲ လှုပ်ရှားမှုတို့သာ ရှိတယ်လို့ ဟောတော်မူခဲ့တယ်။ အမှန်အားဖြင့် ဒီရုပ်တရား၊ နာမ်တရားတွေဟာ အဆက်မပြတ် ဖြစ်ပွားနေကြလို့၊အဖြစ်အပျက် အပြောင်းအလဲ အလွန်မြန်လွန်းလို့၊နောက်တနည်းတော့ လူတွေမှာ အဝိဇ္ဇာအမှောင်တရားက ဖုံးလွှမ်းထားလို့ ဒီတရားတွေကို လူတွေက မမြင်နိုင် မထင်နိုင်ဘဲ ဖြစ်နေကြရတယ်။ ဒီတရားတွေမှ လွတ်မြောက်အောင် သစ္စာ(၄)ပါး တရားကို တခါတည်း ထင်အောင်မြင်အောင် ရှုနိုင်ကြလို့

မယ်။ ဒါဟာ ဗုဒ္ဓရဲ့ အလိုတော်ဘဲ ဖြစ်တယ်။ ဒါ့ကြောင့် ကမ္ဘာ့အခြားဘာသာ အယူဝါဒ(၂၀)ပါးနဲ့ ဗုဒ္ဓရဲ့ အယူဝါဒ ဟာ မတူဘဲ ကွဲပြားခြားနားနေတာဘဲ ဖြစ်တယ်။

ဒါ့ကြောင့် သစ္စာ(၄)ပါးပေါ်မှာ အခြေတည်ထားတဲ့ဗုဒ္ဓ ဝါဒလို့ ဦးပဥ္စင်း ရဲရဲငံ့ငံ့နဲ့ ခိုင်ခိုင်မာမာပြောဝံ့တယ်။ တရားသေ ဝါဒ၊ အရမ်းအကန်းယုံမှု၊ မိရိုးဖလာ ထုံးတမ်းစဉ်လာအရ ကိုး ကွယ်ဆည်းကပ်မှုတွေသာအခြေတည်ထားတဲ့ အခြားဘာသာ တွေဟာသစ္စာအယူဝါဒမဟုတ်ဖူးလို့ တဖက်ကလဲ ဦးပဥ္စင်းက ရဲရဲကြီးပြောလိုက်ပါတယ်။ ဒီပရိသတ်ထဲက ဘယ်သူမဆို အခု ဦးပဥ္စင်းပြောတာကို မကျေနပ်ရင်ဝေဖန်ဘို့ ဖိတ်ကြားပါတယ်။

ဆင်း။ ဆရာတော် ယခု ဟောပြောတဲ့ အသိဉာဏ်နဲ့လဲ ယှဉ်၊ သိပ္ပံပညာနဲ့လဲ ကိုက်ညီဆီလျော်လှတဲ့ တရားကြောင့် တပည့်တော်တို့အပေါ်မှာ ဖုံးနေတဲ့အမှောင်တရားဟာ မီးရှူး တန်ဆောင်အောက်မှ ပျောက်ကွယ်သွားသလို ဖြစ်ပြီး ဒီသတ္တ ဝါတွေ၊ သက်ရှိသက်မဲ့ ရုပ်ဝတ္ထုတွေနဲ့ပတ်သက်လို့ အမြင်မှန် ကို ရကြပါတယ် ဆရာတော်။ ဒါကြောင့် ဆရာတော်ရဲ့တရား ကို ဝေဖန်ဘို့ရန် မလိုပါဘူးဘုရား။ ဆရာတော်အား ယခုလို ဟောပြောရှင်းပြတဲ့အတွက် ကျေးဇူးတင်လှပါတယ် ဘုရား။

ဤတွင် တရားနာပရိသတ်များက သာဓုအနုမောဒနာပြုကြ လေကုန်သည်။

## မေးခွန်း အမှတ် ၂၀။

ဗုဒ္ဓ၏ ဘုန်းတော်ဉာဏ်တော်နှင့် ဗုဒ္ဓ၏ ဓာတ်တော် မွေတော် တို့ကို ကိုးကွယ်ဆည်းကပ်ခြင်းအားဖြင့် မည်ကဲ့သို့သော အကျိုး ကျေးဇူးတို့ကို ခံစားရပါသနည်း။

(မေးမြန်းလျှောက်ထားသူ မစ္စတာ ကက်(ရှ်) မီယာဆင်း၊ အယ်(မ်)အေ၊ အယ်(မ်)အက်(မ်)စီ၊ ကျောင်းအုပ်ကြီး ကာ(လ်) ဆာ ကောလိပ်ကျောင်း၊ ဘုံဘိုင်မြို့ ဖြေဆိုသူ ဆရာတော် အရှင်အရိယဓမ္မ။)

ဆရာတော် အရှင်အရိယဓမ္မ။ အနန္တဉာဏ်တော်၊ အနန္တတန်ခိုးတော်၊ အနန္တဘုန်းတော်ရှင် ဖြစ်တဲ့ ဗုဒ္ဓရှင်တော်မြတ်ရဲ့ ဘုန်းတော်၊ ဉာဏ်တော်နဲ့ မွေးတော်ခတ်တော်တို့ကို ထကယ်တန်း ယုံယုံကြည်ကြည် စေတနာသဒ္ဓါတရား ထက်ထက်သန်သန်နဲ့ ကိုးကွယ်ဆည်းကပ်တဲ့ လူတွေဟာ အကျိုးကျေးဇူးအားဖြင့် နှစ်မျိုးခံစားကြရပါတယ်။ ဒီလိုခံစားကြရတဲ့ ကျေးဇူးတရားနှစ်မျိုးမှာ တမျိုးက ယခုမျက်မှောက်ဘဝမှာဘဲ ဘေးဥပါဒ်အနန္တရာယ် ကင်းတယ်၊ လာဘ်လာဘ ရှင်တယ်၊ ကူညီမစမယ့်လူ ပေါ်တယ်၊ လူချစ်လူခင်များတယ်၊ နတ်ဗြဟ္မာတွေကလဲ ချစ်ခင်စောင့်ရှောက်တယ်၊ ငြိမ်းချမ်းသာယာပြီး သုခချမ်းသာနဲ့ နေရတတ်တယ်၊ နောက်တမျိုးကတော့ နောင်တမလွန်ဘဝမှာ လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာ့ဘုံမှာ ကျင်လည်ရပြီး ချမ်းသာသုခနဲ့ ပြည့်စုံရတဲ့ အကျိုးကျေးဇူးဘဲ။

ဆင်း။ ဗုဒ္ဓကိုယ်တိုင်က ပရိနိဗ္ဗာန် ပြုထားတော်မူပါလျက်နဲ့ ဒီသူတွေဟာ ဆရာတော်အမိန့်ရှိသလို အကျိုးကျေးဇူးတွေ ခံစားရမယ်ဆိုတာကို တပည့်တော် နားမလည်နိုင်ဘဲ ဖြစ်နေပါတယ်။ ဆရာတော် ဆက်ပြီး ရှင်းတော်မူပါဦး။

ဆရာတော်။ ဒီကိစ္စနဲ့ပတ်သက်လို့ ဒကာကြီး နားလည်သဘောပေါက်သွားအောင် ဦးပဥ္ဇင်း မေးမယ်။ ကဲ ဒကာကြီးက ဖြေပါ။

ဆင်း။ မှန်ပါ ဆရာတော်။

ဆရာတော်။ မီးလို့ခေါ်တဲ့ အရာဝတ္ထုများ ရှိပါသလား။

ဆင်း။ တကယ်ရှိပါတယ် ဆရာတော်။ မီးမရှိဘဲနဲ့ တပည့်တော်တို့ ထမင်းဟင်းတွေကို ချက်ပြုတ်စားနိုင်မယ် မဟုတ်ပါဘူး။

ဆရာတော်။ အကြြင်သူတဦးတယောက်က မီးမွေးလိုက်လို့ရှိရင် မီးက အကျိုးခံစားရသလား၊ မီးမွေးတဲ့လူက အကျိုးခံစားရသလား။

ဆင်း။ မီးမွေးတဲ့လူကသာ အကျိုးအမျိုးမျိုး ခံစားရပြီး မီးကတော့ အကျိုးကျေးဇူး မခံစားရပါဘူး ဆရာတော်။

ဆရာတော်။ မီးကို ငြိမ်းလိုက်ပြီးနောက် အဲဒီမီးဟာ တခါ ပြန်လာပါအုံးမလား ဒကာကြီး။

ဆင်း။ တခါငြိမ်းလိုက်လို့ သေသွားတဲ့မီးဟာ နောက်တခါ ပြန်ပြီးတော့ ရှင်မလာနိုင်ပါဘူး။ နောက်တခါ ထပ်သုံးဘို့ မီးအသစ် တဖန် မွေးရပါတယ် ဆရာတော်။

ဆရာတော်။ လူတွေက မီးကို ဘယ်လိုရအောင် လုပ်ကြသလဲ။

ဆင်း။ မီးခြစ်ဆံနဲ့ မီးခြစ်ဘူးကို ခြစ်ပြီး မီးရအောင် လုပ်ကြပါတယ် ဆရာတော်။

ဆရာတော်။ မီးဟာ မီးခြစ်ဆံထဲမှာ ရှိသလား၊ ဒါမှမဟုတ်ရင်လဲ မီးခြစ်ဘူးထဲမှာ ရှိသလား။

ဆင်း။ ဒီဟာနှစ်ခုထဲမှ ဘယ်အထဲမှာမှ မီးမရှိပါဘူး။ သူတို့နှစ်ခု ခြစ်မိမှ မီးထွက်လာပါတယ် ဆရာတော်။

ဆရာတော်။ မီးဟာ ဘယ်အရပ် ဘယ်ဒေသက ထွက်လာတာလဲ ဒကာကြီး။

ဆင်။ မီးဟာ ဘယ်အရပ်က လာတယ်လို့ ပြောလို့မဖြစ်ပါဘူး ဆရာတော်။ ဒါပေမဲ့ ကျောက်ခဲနှစ်ခုကို ပွတ်လိုက်ရင်၊ သစ်သားခြောက်နှစ်ချောင်းကို ပွတ်လိုက်ရင်တော့ မီးဟာ ထွက်လာတာပါဘဲ ဆရာတော်။

ဆရာတော်။ မီးတောက်ဖြစ်လာတဲ့အတွက် မီးမှာ ဘာမျှအကျိုးမရှိသလိုဘဲ ပရိနိဗ္ဗာန် ပြုတော်မူပြီးဖြစ်တဲ့ ဗုဒ္ဓရှင်တော်မြတ်မှာလဲ သူ့ကို သဒ္ဓါတရားနဲ့ ကြည်ညိုတဲ့လူတွေ ဘယ်လိုဘဲ ကြည်ညို ကြည်ညို၊ ဘယ်လိုဘဲ ပူဇော် ပူဇော် ဘာမျှ အကျိုးမရှိပါဘူး။ မီးမွေးတဲ့လူဟာ မီးကို အမျိုးမျိုး အသုံးချပြီး အမျိုးမျိုး အကျိုးရှိသလို ဗုဒ္ဓကို ကြည်ညိုပြီး ပူဇော်သက္ကာရပြုတဲ့လူတွေမှာလဲ ယခု ပစ္စုပ္ပန်ဘဝမှာလဲ အကျိုးရှိတယ်၊ နောင်တာမလွန်ဘဝမှာလဲ အကျိုးခံစားရတယ်။ မီးဟာ တခါငြိမ်းလိုက်လို့ ပျောက်ကွယ်သွားပြီးတဲ့နောက် နောက်ထပ်တကြိမ် ပြန်ပြီး မလာသလိုဘဲ ဗုဒ္ဓဟာလဲ ပရိနိဗ္ဗာန် ပြုပြီးနောက် ဒီမမြဲတဲ့၊ ဒုက္ခဆင်းရဲခြင်းဖြင့် ပြည့်နှက်နေတဲ့၊ အနှစ်သာရ မရှိတဲ့ ဒီကမ္ဘာကြီးဆီကို ဘယ်တော့မှ ပြန်ကြွတော်မူမလာတော့ဘူး။ မီးဟာ ငြိမ်းပြီးတဲ့နောက် ဘယ်နေရာ ဘယ်ဒေသမှာ သွားပြီးနေတယ်ဆိုတာ တိတိကျကျ မရှိဘဲ မသိဘဲနဲ့ တုတ်နှစ်ချောင်းကို ပွတ်လိုက်တဲ့အခါမှာ မီးပွင့်ပြီး တောက်လာသလိုဘဲ ဗုဒ္ဓဟာ ပရိနိဗ္ဗာန်ပြုပြီးတဲ့နောက် ဘယ်နေရာ ဘယ်ဒေသကို ရောက်သွားတယ်ဆိုတာ မသိမမြင်နိုင်သော်လဲ ဗုဒ္ဓကို တကယ်ကြည်ညိုတဲ့၊ သဒ္ဓါတဲ့ လူတဦးတယောက်က ဗုဒ္ဓဟောကြားတော်မူခဲ့တဲ့ တရားကို သဘောပေါက်လိုက်တာနဲ့ တပြိုင်နက် ဗုဒ္ဓရှင်တော်မြတ်ကို အဲဒီလူဟာ ဖူးမြင်လိုက်ရတာနဲ့ အတူတူဘဲ။ အဲဒီလူ့ရဲ့စိတ်ထဲမှာ ဗုဒ္ဓ

ရှင်တော်မြတ် ကြွလာတော်မူတာဘဲ။ ဘာပြုလို့လဲဆိုတော့ ဗုဒ္ဓရှင်တော်မြတ် ကိုယ်တိုင်က ပရိနိဗ္ဗာနသုတ်ထဲမှာ "ချစ်သား အာနန္ဒာ၊ ငါဘုရား ပရိနိဗ္ဗာန်ပြုပြီးနောက် ငါဘုရားအား မမြင်ရဘူး၊ မဖူးရတော့ဘူးလို့ မအောက်မေ့နှင့်။ ငါဘုရားဟောတော်မူခဲ့တဲ့ မဂ္ဂင်ရှစ်ပါးတရားတော်ကို ငါဘုရား ဟောတော်မူခဲ့တဲ့အတိုင်း သဘောပေါက် နားလည်သူဟာ ငါဘုရားကို ဖူးမြင်ရလိမ့်မယ်"လို့ ဟောခဲ့လို့ဘဲ။

ဒါကြောင့် ဗုဒ္ဓရှင်တော်မြတ်အပေါ်မှာ မယိမ်းမယိုင် ခိုင်မြဲလှတဲ့ သဒ္ဓါစိတ်၊ ယုံကြည်စိတ်၊ ကြည်ညိုစိတ်နဲ့ ဗုဒ္ဓရဲ့ဂုဏ်တော်နဲ့ ဗုဒ္ဓရဲ့ မွေတော်ဓာတ်တော်တို့ကို ကိုးကွယ်ဆည်းကပ် ပူဇော်တဲ့ သူတွေဟာ ဦးပဉ္ဇင်း အထက်က ဟောခဲ့တဲ့အတိုင်း အကျိုးကျေးဇူး ခံစားရလိမ့်မယ်လို့ ဦးပဉ္ဇင်းက ယုံကြည်စိတ်ချစွာနဲ့၊ သံသယစိတ် ကင်းစင်စွာနဲ့ ဟောဝံ့ပြောဝံ့ပါတယ်။ ဒါပေမဲ့ ဗုဒ္ဓအပေါ်မှာ ခိုင်ခိုင်မြဲမြဲ မကြည်ညိုဘဲ၊ ယုံကြည်အားကိုးခြင်း မရှိဘဲ ဗုဒ္ဓရဲ့ဂုဏ်တော်တွေ၊ ဘုန်းတော်တွေကို ရွတ်ဆိုရုံ ရွတ်ဆိုနေလို့တော့ အထက်က ဦးပဉ္ဇင်းပြောခဲ့တဲ့ အကျိုးကျေးဇူးတွေကို ခံစားရမှာ မဟုတ်ဖူး။ ကဲ ဦးပဉ္ဇင်း ယခုဟောပြောလိုက်တဲ့ အချက်နဲ့ပတ်သက်လို့ မရှင်းတဲ့၊ နားမလည်တဲ့အချက်များ ရှိသေးသလား။ သံသယများကော ရှိသေးသလား ဒကာကြီး။

ဆင်း။ ဆရာတော် ယခု ရှင်းလင်း ဟောပြတော်မူတဲ့ အချက်တွေနဲ့ ပတ်သက်လို့ ဘာမှ မရှင်းတာ မလင်းတာ မရှိပါဘူးဘုရား။ သံသယလဲ မရှိပါဘူးဘုရား။ ယနေ့မှစပြီး တပည့်တော်ဟာ ဆရာတော် ဟောလိုက်တဲ့အတွက် ဗုဒ္ဓအပေါ်မှာ တကယ့်ကို ယုံယုံကြည်ကြည်နဲ့၊ သဒ္ဓါတရား ထက်ထက်

သန်သန်နဲ့ ဗုဒ္ဓရဲ့ ဂုဏ်တော်၊ တန်ခိုးတော်နဲ့ ဓာတ်တော် မွေတော်တို့ကို ကိုးကွယ်ဆည်းကပ်ပါတော့မယ် ဘုရား။

ဤတွင် ပရိသတ်က သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၂၁။

ဟိန္ဒူဘာသာဝင်တို့ရဲ့ မုတ္တိဘရား၊ ခရစ်ယံ ဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်း၊ မဟာမေဒင်ဘာသာဝင်တို့ရဲ့ ပရစ်(စ်)ထား၊ ဗုဒ္ဓရဲ့ နိဗ္ဗာန်ဆိုတဲ့ တရားတွေဟာ အချင်းချင်း ဘယ်လို ကွဲပြားခြားနားပါသလဲ ဆရာတော်။

(မေးမြန်းလျှောက်ထားသူ မယ်(လ်) ချန်၊ ကုန်သည် ပွဲစားကြီး၊ အယ်လ်ဗင်စတုန်းအဝိုင်း၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော်အရှင်အရိယဝံသ။)

ဆရာတော်အရှင်အရိယဝံသ။ ဘာသာအယူဝါဒ အမျိုးမျိုးကို ကိုးကွယ်ယုံကြည်ဆည်းကပ်နေကြတဲ့ လူအမျိုးမျိုး လာရောက် ကြားနာနေကြတဲ့ တရားပွဲကြီးမှာ ဒီလိုအရေးကြီးပြီး ရှုပ်ထွေးလှတဲ့ မေးခွန်းတခုကို ဖြေကြားဘို့ရန် ကိစ္စဟာ ဦးပဥ္ဇင်းအတွက် အလွန်တာဝန်ကြီးလေးလှပါတယ်။ ဘာပြုလို့လဲဆိုတော့ ဦးပဥ္ဇင်းက ဒီမေးခွန်းကို ဖြေတဲ့နေရာမှာ အလွန်မှန်မြတ်လှတဲ့ သစ္စာတရားကို အရင်းခံပြီး ဘာသာအယူဝါဒ အသီးသီးရဲ့ နောက်ဆုံးရည်မှန်းချက်ကို ဝေဖန်သုံးသပ်ပြီး ဟောပြောရမယ်ဆိုတော့ အချို့ ဘာသာအယူဝါဒကို ထိခိုက်သွားမဲ့အရေးကို ကြိုထင်မြင်မိလို့ ပါဘဲ။ ဒါကြောင့် ယခုတရားပွဲကို လာရောက်ကြတဲ့ အယူဝါဒ အသီးသီးဝင် ပညာရှင်တွေဟာ ယခု ဦးပဥ္ဇင်းပြောဟော ရှင်းလင်းမဲ့အချက်တွေနဲ့ ပတ်သက်လို့ စိတ်ထဲမှာ ဘယ်လိုမှ အာဃာတတရား မထားကြဘဲ

ယုတ္တိယုတ္တာကျကျ မှားတယ် မှန်တယ်ဆိုတာကို ဆုံးဖြတ်ပြီး ယူကြမယ်ဆို ကတိပေးကြရင်ဖြင့် ဦးပဥ္စင်းက ဒီမေးခွန်းကို ဖြေရှင်းပါမယ်။ ဒီလိုမှ ဒကာကြီးတို့က ကတိမပေးနိုင်ကြရင်ဖြင့် ဦးပဥ္စင်း မဖြေဆိုပါရစေနဲ့လို့ တောင်းပန်လိုပါတယ်။

(ထိုနောက် တရားပွဲသို့ တရားနာလာရောက်ကြသည့် ပရိသတ်က ဆရာတော် တောင်းဆိုသည့် ကတိကို တညီတညွတ်တည်း ပေးအပ်ကြသောအခါ ဆရာတော်က အောက်ပါအတိုင်း ဆက်လက် ဟောကြားတော်မူလေသည်။)

ဗုဒ္ဓရှင်တော်မြတ် ဟောတော်မူခဲ့တဲ့ နိဗ္ဗာန်တရားနဲ့ ဟိန္ဒူဘာသာဝင်တို့ ယုံကြည်နေကြတဲ့ မုတ္တိတရား၊ ခရစ်ယာန်ဘာသာဝင်တို့ ယုံကြည်နေကြတဲ့ ကောင်းကင်ဘုံနန်း၊ မဟာမေဒင်ဘာသာဝင်တို့ရဲ့ ပရစ်(စ်)သား တရားတွေဟာ မနှိုင်းအပ်၊ မယှဉ်သာအောင် ကွဲပြားခြားနားလျက် ရှိကြပါတယ်။ နိဗ္ဗာန်မှအပ အခြားတရားတွေဟာ ဒီစကြာဝဠာကြီးအတွင်းမှ ဘယ်နည်းနဲ့မှ လွတ်မြောက်နိုင်တဲ့ တရားတွေ မဟုတ်ဖူး။ ဗုဒ္ဓရဲ့ နိဗ္ဗာန်ဆိုတဲ့ တရားကတော့ ဒီစကြာဝဠာမပြောနဲ့ ဘယ်စကြာဝဠာနဲ့မှ မပတ်သက်တော့ဘူး။ ဒီတရားတွေကို ဦးပဥ္စင်းက ခရစ်ယာန်ဘာသာဝင်တို့ မြော်မှန်းနေကြတဲ့ ကောင်းကင်ဘုံနန်းက စပြီး နောက်ဆုံး နိဗ္ဗာန်တရားပါ တခုပြီးတခု ရှင်းလင်းပြောပြပါမယ်။ ဒီလိုပြောပြတဲ့နေရာမှာဘဲ သူ့ဆိုင်ရာဆိုင်ရာ အယူဝါဒနဲ့ဆိုင်ရာ ကျမ်းဂန်တွေကို ကိုးကားပြီး ဟောပြောပါမယ်။ ဒါမှသာ ဒကာကြီးတို့လဲ ဘယ်တရားဟာ မြဲတယ်၊ မမြဲဘူး၊ တကယ်ရှိတယ်၊ မရှိဘူး အစရှိတဲ့သဘောနဲ့ အမှန်အကန်ကို ဆုံးဖြတ်နိုင်ကြမယ် ဖြစ်ပါတယ်။

ကဲ အခုဦးပဥ္စင်းက ခရစ်ယာန်ဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းနဲ့ ပတ်သက်လို့ ပထမဦးဆုံး ရှင်းလင်းပြောပြမယ်။

ခရစ်ယာန်ဘာသာ အယူဝါဒရဲ့ပင်မ အယူဝါဒဟာ ဗရင်ဂျီဘာသာထဲမှာ သတ္တမမြောက် ဟင်နရီဘုရင်လက်ထက်ကစပြီး ဂိုဏ်းခွဲတွေ ပေါ်ထွက်လာခဲ့တယ်။ အဲဒီ ဘုရင်ဂျီဘာသာ အယူဝါဒထဲက ဒေသနာတရားအရ ပြောရမယ်ဆိုရင် အရင်က ကောင်းကင်ဘုံနန်းဆိုတာ မရှိခဲ့ဘူးတဲ့။ ဒါပေမဲ့ ဒီကောင်းကင်ဘုံနန်းကို ယာဝေရသခင်ကိုယ်တော်မြတ်က အောက်ပါအတိုင်း ဖန်ဆင်းခဲ့တယ်တဲ့။

အနန္တတန်ခိုးတော်ရှင် ယာဝေရဘုရားသခင်ကိုယ်တော်မြတ်ဟာ အချိန်ကာလ ရှည်လျားစွာ တဦးတည်း စံစားနေတော်မူသတဲ့။ တနေ့တော့ ကိုယ်တော်မြတ်ဟာ တဦးချင်းနေရတာ ငြီးငွေ့လာတော့ လှပပြီး ကျက်သရေမင်္ဂလာအဖြာဖြာနဲ့ ပြည့်စုံတဲ့ ကောင်းကင်ဘုံနန်းကြီးတခုကို ဖန်ဆင်းမယ်။ ဒီကောင်းကင်ဘုံနန်းမှာ သူ့ရဲ့ အပေါင်းအဖော်နဲ့ အလုပ်သမားအဖြစ် လှလဲလှပတင့်တယ်၊ တန်ခိုးအာဏာလဲရှိတဲ့ တမန်တော်တွေကို အနေခိုင်းမယ်ဆိုတဲ့ အကြံဉာဏ်တော် ရရှိလာသတဲ့။

အဲဒ်နောက် ဘုရားသခင်ကိုယ်တော်က-

"ကောင်းကင်ပြင်ကြီးတခုလုံးကို ဖုံးလွှမ်းထားတဲ့ အလွန်လှပပြီး ကျက်သရေမင်္ဂလာအပေါင်းနဲ့ ပြည့်စုံလှတဲ့ ကောင်းကင်ဘုံနန်းကြီးတခု ပေါ်ပေါက်လာစေ။ ကောင်းကင်ဘုံနန်းထိပ်၌ ငါဘုရားသခင်ကိုယ်တော် စံပယ်တော်မူရန် အလွန်တရာခန့်ညားထယ်ဝါတော်မူလှသည့် ပလ္လင်တော်တခု ပေါ်ပေါက်လာစေ။ ထိုပလ္လင်တော်၏ရှေ့ လက်ဝဲ၊ လက်ျာတို့တွင် တဘက်

တဘက်၌ ကိုးကုဋေစီ အရေအတွက်ရှိသော နေရာထိုင်ခင်းများ ပေါ်ပေါက်လာစေ။ တဖန် ဤနေရာထိုင်ခင်းများ၌ နေထိုင်ကြရန်အတွက် (၁၈)ကုဋေမျှသော တမန်တော်များ ပေါ်ပေါက်လာကြစေ''ဆိုပြီး အမိန့်တော် ချမှတ်တော်မူလိုက်သတဲ့။ အဲဒီလိုလဲ အရှင်ကိုယ်တော်က အမိန့်ရှိတော်မူလိုက်ရော တမန်တော်(၁၈)ကုဋေလဲ တခါတည်း ပေါ်လာကြပြီးသူတို့အတွက် ဖန်ဆင်းထားတဲ့ နေရာထိုင်ခင်းတွေမှာ အသီးသီး ဝင်ရောက်နေထိုင်ကြသတဲ့။ လကျာ်ဘက်မှ (၉)ကုဋေရှိတဲ့ တမန်တော်တွေရဲ့ အကြီးအမှူးအဖြစ် ဂေးဘရစ်ယယ်(လ်)(Gabrial)ကို ခန့်ထားတယ်။ လက်ဝဲဘက်မှ (၉)ကုဋေရှိတဲ့ တမန်တော်တွေရဲ့ အကြီးအမှူးအဖြစ် လော့ဂေါ့(စ်) (Logos)ကို ခန့်ထားသတဲ့။ ပြီးတော့ ဘုရားသခင်ကိုယ်တော်မြတ်က လကျာ်ဘက်တမန်တော်တွေနဲ့ လက်ဝဲဘက် တမန်တော်တွေကိုငါကိုယ်တော်ရှင်မြတ်အောက် ဒီတမန်တော်အကြီးအမှူးတွေကိုဘဲ လကျာ်လက်ဝဲဘက်မှာ ရှိကြတဲ့ တမန်တော်အသီးသီး ရိုသေကြရမယ်။ ဒီတမန်တော် အကြီးအမှူးနှစ်ယောက်ဟာ ငါကိုယ်တော် အရှင်မြတ်အောက် အသင်တို့ကို အုပ်ချုပ်စီမံလိမ့်မယ်လို့ အမိန့်တော်မြတ် သတ်မှတ်ထားတော်မူလိုက်သတဲ့။

ဒီလိုနဲ့ဘဲ **ထာဝရဘုရားသခင်ကိုယ်တော်မြတ်**နဲ့ သူ့ရဲ့အခြွေအရံ အလုပ်အကျွေးများဖြစ်ကြတဲ့ တမန်တော်တွေဟာ ပျော်ပျော်ပါးပါး စံမြန်းနေကြသတဲ့။ တနေ့တော့ **ထာဝရဘုရားသခင်ကိုယ်တော်မြတ်**က သူ့ရဲ့ လက်ဝဲ၊ လကျာ်**ဘက်မှ တမန်**တော်များအားလုံး ပျော်ပါးနေကြတာကို မြင်လေ**တော့ သူ့ရဲ့**စိတ်ထဲမှာ–

“ဒီ လက်ျာ လက်ဝဲမှာ ရှိကြတဲ့ တမန်တော်တွေအနက် ဘယ်ဘက်က တမန်တော်တွေက ငါ့အပေါ်မှာ ပိုပြီး သစ္စာတော်စောင့်ထိန်းတယ်ဆိုတာကို သိရအောင် ငါ့ရဲ့တန်ခိုးတော်နဲ့ ကိုယ်ရောင်ဖျောက်တော်မူထားလိုက်ဦးမှဘဲ”လို့ ကြံစည်စိတ်ကူးတော်မူပြီး ရုတ်တရက် တမန်တော် (၁၈) ကုဋေကသူ့ကို မမြင်ရအောင် ကိုယ်ရောင်ဖျောက်လိုက်သတဲ့။

ဒီလို ဘုရားသခင် ကိုယ်တော်မြတ် ပျောက်ကွယ်သွားပြီးတဲ့နောက် အချိန်အတန်ကြာတဲ့အခါ လက်ဝဲဘက်က တမန်တော်တွေရဲ့ အကြီးအမှူးဖြစ်တဲ့ လော့ဂေါ့(စ်)ရဲ့ စိတ်ထဲမှာ “အင်း ဘုရားသခင်ကိုယ်တော်မြတ် ပျောက်ကွယ်သွားတာတော့ အချိန်အတော်ကြာသွားပြီ၊ ကိုယ်တော်မြတ်ဟာ ကြွလာချင်မှ ကြွလာတော့မှာ။ အဲဒီတော့ ငါဟာ ဘုရားသခင်ကိုယ်တော်မြတ် စံစားတဲ့ ပလ္လင်ပေါ်မှာ တက်ပြီးထိုင်လိုက်ရရင် ငါဟာ တန်ခိုးတော်အနန္တရှင် ထာဝရဘုရားသခင်ကိုယ်တော်မြတ် ဖြစ်လာလိမ့်မယ်။ တကယ်လို့ ငါဟာ ဒီပလ္လင်ပေါ်မှာ တက်မထိုင်နိုင်ရင် ဒီအနန္တတန်ခိုးတော်ရှင် ကိုယ်တော်မြတ်အစား အခြားဘုရားသခင်ကိုယ်တော်မြတ်တဦး ရောက်လာလိမ့်မယ်”လို့ စိတ်ကူးပြီး တဖြည်းဖြည်း ပလ္လင်ပေါ်တက်တဲ့ လှေခါးထစ်တွေအတိုင်း တထစ်ချင်း တထစ်ချင်း တက်သွားသတဲ့။ အဲဒီနောက် ထိပ်ဆုံးလှေခါးထစ်ပေါ် ရောက်တော့ သူဟာ ခဏလောက် ရပ်ပြီး အလွန်လှပခန့်ညားတဲ့ ပလ္လင်တော်ကြီးကို ကျကျနန ကြည့်ရှုအကဲခတ်သတဲ့။ အဲဒီနောက် ဘာအတားအဆီးနဲ့မျှ မတွေ့ရတော့ ပလ္လင်ပေါ်တက်ထိုင်ပြီး သူ့ရဲ့စိတ်ထဲမှာ ရဲလာသတဲ့၊ အဲဒီလို ရဲလာတော့ “အင်း အနန္တ တန်ခိုးတော်ရှင်ဘုရား

သခင် ကိုယ်တော်မြတ်တော့ ပျောက်ကွယ်သွားပြီ။ ဘယ်တော့မှ ပြန်ကြွလာတော့မှာ မဟုတ်ဖူး။ ငါဟာ အနန္တတန်ခိုးတော်ရှင် ဘုရားသခင်သစ် ဖြစ်တော်မူပြီ။ တမန်တော်တွေကို ငါ ကိုယ်တော်အရှင်မြတ်အား ရိုသေကိုးကွယ်လာအောင် အမိန့်တော်ထုတ်လိုက်မှာဘဲ''လို့ ကြံပြီးတော့ လက်ျာဘက် လက်ဝဲဘက် နှစ်ဘက်စလုံးမှာရှိကြတဲ့ တမန်တော်တွေအားလုံးကို-

''၁၈ ကုဋေမျှသော တမန်တော်အပေါင်းတို့၊ ငါ့အား ကြည့်ကြကုန်လော့။ ငါကား အနန္တတန်ခိုးတော်ရှင် ဘုရားသခင်ကိုယ်တော်မြတ်၏ အလှူ ဘုန်းတန်ခိုးအာနုဘော် ကြီးတော်မူလှသည့် ပလ္လင်တော်ပေါ်တွင် စံပယ်တော်မူမိချေပြီ။ အနန္တတန်ခိုးတော်ရှင် ဘုရားသခင်ကိုယ်တော်မြတ်ကြီး ကွယ်ပျောက်သွားလေပြီ။ ထို့ကြောင့် ငါသည် အနန္တတန်ခိုးတော်ရှင် ကိုယ်တော်မြတ်အသစ် ဖြစ်ချေပြီ။ ထို့ကြောင့် သင်တို့အားလုံးသည် သင်တို့၏ နေရာမှထ၍ ငါ့အား ဦးညွှတ်ကြကုန်လော့''ဟု အမိန့်ရှိတော်မူသတဲ့။

အဲဒီလို သူက အမိန့်ပေးလိုက်တဲ့အခါမှာ လက်ဝဲဘက်က (၉)ကုဋေ တယောက်လျော့ အရေအတွက်ရှိတဲ့ တမန်တော်တွေက အလွန်ရိုသေ လေးစားတဲ့အနေနဲ့ သူတို့နေရာတွေမှ ထပြီး-

''အသစ်ပွင့်တော်မူသော အနန္တတန်ခိုးတော်ရှင် ဘုရားသခင်ကိုယ်တော်မြတ် ဘုန်းတော် တန်ခိုးတော်အနန္တနှင့် ပြည့်စုံတော်မူပါစေသတည်း။ ကျွန်ုပ်တို့ကား အရှင်ကိုယ်တော်သခင်မြတ်၏ သတ္တဝါများပေတည်း။ အသစ်ပွင့်တော်မူသည့် အနန္တတန်ခိုးတော်ရှင် ဘုရားသခင်ကိုယ်တော်မြတ်က ကျွန်ုပ်တို့အား

သောအနန္တရာယ်အပေါင်းမှ ကာကွယ်စောင့်ရှောက်တော်မူပါ ဘုရား။ ကျွန်ုပ်တို့ကလည်း အကြွင်းမဲ့ ယုံကြည်ကိုးကွယ် ဆည်းကပ်ကြပါသည်ဘုရား''လို့ လျှောက်ထားကြသတဲ့။

အဲဒီနောက် လက်ဝဲတမန်တော်အကြီးအမှူး ဓလော့ဂေါ့(စ်) က-

''ကောင်းလေစွ၊ ကောင်းလေစွ။ ငါ၏ချစ်သား လက်ဝဲရံ တမန်တော်တို့၊ ငါသည် သင်တို့၏ ရှိခိုးခြင်း၊ ဦးခိုက်ခြင်း၊ ပူဇော်သက္ကာရပြုခြင်းတို့ကို လက်ခံတော်မူသည်။ အသင်တို့ လျှောက်ထားသည့်အတိုင်း အသင်တို့အား ကာကွယ်တော်မူမည်၊ စောင့်ရှောက်တော်မူမည်။ အသင်တို့ ထိုင်နေကျနေရာ၌ ပင် ထိုင်ကြလော့''လို့ မိန့်တော်မူလိုက်သတဲ့။

ဒီလို မိန့်တော်မူပြီးတဲ့နောက် ပလ္လင်တော်ရဲ့ လက်ျာဘက်မှာ ရှိတဲ့ တမန်တော်တွေဘက် လှည့်ပြီး-

''အို အသင်တို့၊ လက်ျာဘက်မှာရှိကြတဲ့ (၉) ကိုးယောက်သော တမန်တော်တို့၊ အသစ်ပွင့်တော်မူသော အနန္တတန်ခိုးတော်ရှင် ငါဘုရားသခင်ကိုယ်တော်မြတ်အား ထရှိဦးညွှတ်ကြကုန်လော့၊ ရှိခိုးပူဇော်ကြကုန်လော့။ အကယ်၍ သင်တို့သည် ငါ့အား ပူဇော်ခြင်း၊ ဦးညွှတ်ခြင်း မပြုခဲ့ကြသည်ရှိသော် ငါသည် အသင်တို့အား အပြစ်ဒဏ်ခတ်တော်မူမည်''လို့ မိန့်တော်မူသတဲ့။

အဲဒီအခါကျတော့ လက်ျာဘက်က တမန်တော်တွေက မားမားမတ်မတ်ကြီး ထိုင်နေတဲ့ သူတို့ရဲ့အကြီးအမှူးဖြစ်တဲ့ ဂေးဘာရစ်ယယ်(လ်)ကို ကြည့်ကြပြီး သူလိုဘဲ ဟန်မပျက် မားမားမတ်မတ် နေထိုင်ကြသတဲ့။ ဘယ်သူကမှ လော့ဂေါ့(စ်) ပြောတဲ့ စကားကို အရေးမလုပ်ဖူးတဲ့။ အဲဒီအတောအတွင်းမှာ

အနန္တစာန်ခိုးတော်ရှင် ဘုရားသခင်ကိုယ်တော်မြတ်ဟာ ရုတ်တရက် ဒေါသတကြီးနဲ့ ပေါ်လာပြီး တမန်တော် လောဂေါ့(စ်)ကို ဖမ်းပြီး ကောင်းကင်ဘုံနန်း ကြမ်းပြင်ပေါ်တွင် ကိုင်ပေါက်လျက်-

“အို ယုတ်ညံ့သိမ်ဖျင်းလှတဲ့ အကုသိုလ်ကောင် လောဂေါ့(စ်)၊ သင်ဟာ မာန်မာနတရား အလွန်ကြီးထွားပြီး သင့်အား ဖန်ဆင်းသူ သင်ရဲ့ကျေးဇူးတော်ရှင် ငါဘုရားသခင်ကိုယ်တော်မြတ်ကိုပင် မရိုမသေ မလေးမခန့်ပြုပြီးတော့ ဘယ်နည်းနှင့်မျှ အခွင့်မလွှတ်နိုင်သောပြစ်မှုကို ကျူးလွန်ထားချေပြီ။ သင်နှင့်တကွ သင့်နောက်လိုက် တမန်တော်တွေဟာ ဒီအပြစ်ဒဏ်ဖြင့် ပျက်စီးကြကုန်အံ့။ သင်တို့အတွက် ငါသည် ငရဲဘုံကို ဖန်ဆင်းအံ့။ သင်တို့သည် အလွန်ပြင်းထန်လှစွာသောဝေဒနာကို ခံစားကြရကုန်အံ့။ အသင် လောဂေါ့(စ်)သည် ယနေ့မှစ၍ လူစီဖားဟုတွင်ပြီး ငရဲဘုံ၏ဘုရင် ဖြစ်စေအံ့။ အခြားသူများကိုလည်း မကောင်းမှုကိုပြုလုပ်ရန် စေ့ဆော်တိုက်တွန်းနေအံ့။ သင်၏ နောက်လိုက်များသည်လည်း ဘီလူးသဘက် ဖြစ်ကြစေအံ့။ သင်သည် မည်းမှောင်သော အသွင်သဏ္ဌာန်သို့ ကူးပြောင်းပြီး ဦးချိုနှစ်ချောင်းနှင့် အမြီးတချောင်း ပေါက်စေအံ့။ သင်၏ ခံတွင်းမှလည်း မီးတောက်မီးလျှံများ ထွက်စေအံ့။ နှောင်းကာလ၌ ငါဘုရားသခင်ကိုယ်တော်မြတ်သည် လူသားတို့ကို ဖန်ဆင်း၍ ပညတ်တော်(၁၀)ချက်ကို အထိန်းသိမ်းခိုင်းအံ့။ ဤနည်းဖြင့် သူတို့သည် မကောင်းမှုကိုပြုရန် သင်၏ တိုက်တွန်းနှိုးဆော်ချက်ကို မဖယ်ရှားနိုင်ဘဲ သင်၏ အလိုဆန္ဒအတိုင်း လိုက်နာပြုလုပ်ကြသည့် လူသားတို့သည် ငရဲတုံတွင် ငရဲမီး၏ လောင်မြိုက်

F-13

ခြင်းကို အစဉ်ထာဝရ ခံစားနေကြရကုန်အံ့။ ထိုရာတွင် ငါ ဘုရားသခင်ကိုယ်တော်မြတ်၏ ပညတ်တော်(၁၀)ချက်အတိုင်း လိုက်နာကြ၍ သင်၏ စေ့ဆော်တိုက်တွန်းချက်ကို ငြင်းဆန်ပြီး သင်နှိုးဆော်သည့်အတိုင်း မလုပ်ကြသည့် လူသားတို့ကား ဤ ကောင်းကင်ဘုံနန်းတွင် အစဉ်ထာဝရ ခံစားကြရစေအံ့"ဟု အမိန့်ထုတ်ပြန်ပြီး ကောင်းကင်ဘုံနန်းအောက်တွင် ငရဲဘုံကို ဖန်ဆင်းပြီးတဲ့နောက် ဘုရားသခင်ကိုယ်တော်မြတ်က ကောင်း ကင်ဘုံနန်းကြမ်းပြင်ကို တခါတည်း ခွဲပစ်လိုက်ပြီး မကောင်းမှု အကုသိုလ်ကံ ကျူးလွန်ကြတဲ့ တမန်တော်(၈)ကုဋေကို တခါ တည်း ငရဲပြည်ထဲချလိုက်သတဲ့။ အဲဒီနောက် သူတို့တတွေရဲ့ အသားဟာ အကုန်လုံး မည်းမှောင်ကုန်ကြပြီး အလွန်ကြောက် စရာကောင်းလာကြသတဲ့။ သူတို့ရဲ့ခေါင်းတွေပေါ်မှာ ချိုနှစ် ချောင်းစီပေါက်ပြီး သူတို့နောက်မှာလဲ မျောက်တွေလို အမြီး တွေ ပေါက်ကုန်ကြသတဲ့။

အဲဒီ အထက်က ဖော်ပြခဲ့တဲ့ ကောင်းကင်ဘုံနန်းရဲ့ သမိုင်း ကို ကြည့်ခြင်းအားဖြင့် ကောင်းကင်ဘုံနန်းဟာ အစကတည်းက မရှိဘဲ ဘုရားသခင်ကိုယ်တော်မြတ်က ဖန်ဆင်းလို့ ပေါ်လာရ တယ်ဆိုတာ ထင်ရှားတယ်။အဲဒီတော့ ဖန်ဆင်းတာဟူသမျှဟာ ပျက်စီးရတဲ့ သဘောအရ ဘုရားသခင်ကိုယ်တော်အရှင်မြတ် ဖန်ဆင်းထားတဲ့ ကောင်းကင်ဘုံနန်းကြီးဟာလဲ ပျက်စီးရမှာ အမှန်ဖြစ်တယ်။ နောက်တခုက လက်ဝဲဘက်က တမန်တော်(၈) ကုဋေကို ဘုရားသခင်က ဒေါသဖြစ်ပြီး ကောင်းကင်ဘုံနန်း ကြမ်းပြင်ကို အမိန့်နဲ့ခွဲကာ ငရဲဘုံထဲ ပစ်ချလိုက်တာလဲ အကု သိုလ်ကံဘဲ ဖြစ်တယ်။တဖန် သန့်ရှင်းတဲ့၊ အကုသိုလ်ကံကင်းစင်

တွဲ ကောင်းကင်ဘုံနန်းဟာလဲ ဒီသန့်ရှင်းတဲ့၊ အကုသိုလ်ကို ကင်းစင်တဲ့ ကောင်းကင်ဘုံနန်းထဲမှာစိုးစံနေရင်း လက်ငဲဘော်ရဲ့ တမန်တော် အကြီးအမှူးလော့ဂေါ့(စ်)ဟာ အလွန်ကြီးမား လှတဲ့ မာနတရား သူ့ရဲ့ဦးခေါင်းထဲမှာ ဝင်လိုက်တဲ့အတွက် ကောင်းကင်ဘုံနန်းကြီးဟာ မသန့်ရှင်းတော့ဘူး။ အကုသိုလ် ကံလဲ မကင်းစင်တော့ဘူး။ "ဒါဟာ ကောင်းသောအကြောင်း တရားမှ ကောင်းသော အကျိုးတရား ပေါ်ထွက်ရမယ်။ ထို့ အတူ ဆိုးသော အကြောင်းတရားမှလဲ ဆိုးသော အကျိုးတရား ပေါ်ထွက်ရမယ်"ဆိုတဲ့ သဘာဝနဲ့လဲ ဆန့်ကျင်တယ်။ အကု သိုလ်ကံမှ ကင်းစင်တဲ့ သတ္တဝါတဦးတယောက်ဟာ ဘယ် နည်းနဲ့ဖြစ်ဖြစ် အကုသိုလ်မှ ကင်းစင်နေရမယ်။ ကောင်းကင် ဘုံနန်းမှာရှိတဲ့ သတ္တဝါအားလုံးဟာ ဖန်ဆင်းထားတဲ့ သတ္တဝါ တွေဖြစ်တဲ့အတွက် တနေ့နေ့မှာ သေကြရမယ်၊ ပျက်စီးကြရ မယ်။ ဒါဟာ သဘာဝဘဲ။ ဖန်ဆင်းခြင်းဟာ ပျက်စီးခြင်းရဲ့ အကြောင်းတရားဘဲ။ မွေးဖွားခြင်းဟာ သေခြင်းရဲ့ အကြောင်း တရားဘဲ။ ဒီအခြေအနေအရ ခရစ်ယံဘာသာဝင်တို့ရဲ့ ကောင်း ကင်ဘုံနန်းဟာ မမြဲဘူး။ ဒါ့ကြောင့် ကောင်းကင်ဘုံနန်းမှာရှိတဲ့ တမန်တော်တွေနဲ့ အခြားသတ္တဝါတွေဟာ သေဆုံးခြင်း၊ ရုတ် တရက် ကွယ်ပျောက်ခြင်း စသည်ဖြင့် နောက်ဆုံး ပျက်စီးကြရ မှာချည်းဘဲ။

ခရစ်ယံဘာသာဝင်တွေမှာ ကောင်းကင်ဘုံနန်းတခုဘဲရှိ တယ်။ ဗုဒ္ဓဘာသာဝင်တွေမှာတော့ နတ်တွေနေတဲ့ နတ်ဘုံ(၆) ထပ်နဲ့ ဗြဟ္မာတွေနေတဲ့ ဗြဟ္မာဘုံ(၂၀)ရှိတယ်။ ဒီနတ်တွေ၊ ဗြဟ္မာတွေဟာ တမန်တော်တွေထက် ပိုပြီး တန်ခိုးလဲ ကြီး

တယ်၊ သန့်လဲသန့်ရှင်းစင်ကြယ်တယ်။ သူတို့တတွေဟာ ကံအကြောင်းတရားကြောင့် ဖြစ်လာတဲ့အတွက် တနေ့မှာ သေခြင်းတရားနဲ့ တွေ့ရမှာချည်းဘဲ။

ဗုဒ္ဓရဲ့ နိဗ္ဗာန်ဘုံဟာ ခရစ်ယာံတို့ရဲ့ ကောင်းကင်ဘုံနန်းတို့ ဗုဒ္ဓဘာသာဝင်တို့ရဲ့ နတ်ဘုံ၊ ဗြဟ္မာဘုံတို့နဲ့ လုံးဝမတူဘူး။ နိဗ္ဗာန်ဘုံဟာ ဖန်ဆင်းထားတာလဲ မဟုတ်ဘူး။ (နိစ္စစစ်နဲ့လဲ ပြည့်စုံတယ်။)တည်လဲ တည်မြဲတယ်၊ တကယ့်ချမ်းသာသုခ ဖြစ်တယ်၊ နာခြင်း၊ သေခြင်းတရားတို့မှ လွတ်ကင်းတယ်။ ၁၅၀၀ ကီလေသာတရားတွေလဲ ချုပ်ငြိမ်းတယ်။ ဒုက္ခဆင်းရဲအမျိုးမျိုးမှလဲ ကင်းစင်တယ်။ ခန္ဓာငါးပါး ရုပ်နာမ်တရားတို့လဲ မရှိဘူး။ ဒါကြောင့် ဗုဒ္ဓရဲ့နိဗ္ဗာန်နဲ့ ခရစ်ယာံဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းတို့ဟာ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေတာပေါ့။ ဗုဒ္ဓရဲ့နိဗ္ဗာန်က အစဉ်ထာဝရ တည်မြဲတယ်။ လုံးဝ ချမ်းသာသုခနဲ့ ပြည့်စုံတယ်၊ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ ဆင်းရဲခြင်းဆိုတဲ့ ဒုက္ခဆင်းရဲအပေါင်းမှ လုံးဝကင်းစင်တယ်။ ခရစ်ယာံဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းကတော့ ဖန်ဆင်းထားတာဆိုတော့ အစဉ်ထာဝရ မတည်မြဲဘူး။ ပဋိသန္ဓေနေခြင်း၊ သေခြင်းဆိုတဲ့ တရားတွေနဲ့ မကင်းဘူး။ အကုသိုလ်တရား၊ မာနတရား၊ မုန်းတီးခြင်းတရား၊ အဝိဇ္ဇာတရားတို့နဲ့ ယှဉ်တွဲလျက် ရှိနေတယ်။ တမန်တော်လော့ဂေါ်(စ်)ဟာ အဝိဇ္ဇာတရားကြောင့် မာနတရားကို မွေးမိပြီး ပျက်စီးရတယ်။ ထာဝရဘုရားသခင် ကိုယ်တော်မြတ်ကိုယ်တိုင် အဝိဇ္ဇာတရားရဲ့ ပိတ်ဖုံးမှုကြောင့် ကောင်းကင်ဘုံနန်းကို ဒေါသတရား၊မုန်းတီးခြင်းတရားတို့ဖြင့် လွှမ်းမိုးခဲ့တယ်၊ ကဲ ဗုဒ္ဓရဲ့ နိဗ္ဗာန်နဲ့ ခရစ်ယာံဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းတို့

ဟာ ဘယ်လောက် ကွာခြားတယ်ဆိုတာကို ရှင်းပြပြီးနောက် မဟာမေဒင်တို့ရဲ့ ပရစ်(စ်)ထားအကြောင်းကို ရှင်းပြရဦးမယ်။

မဟာမေဒင်ဘာသာဝင်တို့ရဲ့ ပရ(စ်)ထားဆိုဟာ အလာကိုယ်တော်မြတ်နဲ့ သူ့ရဲ့တမန်တော်များ စံစားရာဘုံနန်းဖြစ်တယ်။ အလာရဲ့ပရစ်(စ်)ထားဟာ ခရစ်ယာန်ဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းနဲ့ အတူတူဘဲ။ ဓမ္မဟောင်းအရပြောရမယ်ဆိုရင် ရေဟူဒီတို့၊ ခရစ်ယာန်ဘာသာဝင်တို့၊မဟာမေဒင်ဘာသာဝင်တို့ဆိုတာ အတူတူဘဲ။ အနန္တတန်ခိုးတော်ရှင်ဘုရားကို နာမည်အမျိုးမျိုး ခေါ်နေကြတာဘဲ ကွဲပြားတယ်။ ရေဟူဒီတွေက ဒီဘုရားကို ယေဟိုးဝါလို့ ခေါ်ကြတယ်၊ ခရစ်ယာန်ဘာသာဝင်တွေက ထာဝရဘုရားသခင်ကိုယ်တော်မြတ်လို့ ခေါ်ကြတယ်။ မဟာမေဒင်ဘာသာအယူဝါဒကို ထူထောင်ခဲ့တဲ့ မဟာမက် ကိုယ်တော်မြတ်က ယေရှုခရစ်တော်ဟာ ထာဝရဘုရားသခင်ကိုယ်တော်မြတ်ရဲ့သား မဟုတ်ဖူး၊ သူလိုဘဲ အလာကိုယ်တော်က ဆင်းသက်တာဘဲတဲ့။ ဘုရားများဖြစ်တဲ့ အာဗြဟံတို့၊ မိုးဆက်တို့၊ ယေရှုခရစ်တို့ဟာ မဟာမေဒင်ဘာသာဝင်တို့ရဲ့ အလာကိုယ်တော်မြတ် သို့မဟုတ် ခရစ်ယာန်ဘာသာဝင်တို့ရဲ့အနန္တတန်ခိုးတော်ရှင် ထာဝရဘုရားသခင် သို့မဟုတ် ရေဟူဒီတို့ရဲ့ ယေဟိုးဝါ ဘုရားကိုယ်တော်မြတ်ရဲ့ အဆက်အနွယ်တွေချည်းတဲ။ ဒါကြောင့် မဟာမေဒင်ဘာသာဝင်တို့ရဲ့ ပရစ်(စ်)ထားနဲ့ ကောင်းကင်ဘုံနန်းနဲ့ ပတ်သက်လို့ ပြောခဲ့တဲ့ စကားတွေကို ပြန်ပြီး ပြောနေရမှာမို့ ဦးပဥ္စင်း အကျယ်ချဲ့ပြီး မပြောတော့ပါဘူး။ ဒီမဟာမေဒင်ဘာသာဝင်တို့ရဲ့ ပရစ်(စ်)ထားဟာလဲ ခရစ်ယာန်ဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းနဲ့ ဘာမှ မထူးဘူးဆို

တာကို မှတ်ထားကြပါ။ မဟာမေဒင်တို့ရဲ့ ပရစ်(စ်)ထားဟာ ခရစ်ယံဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းလိုဘဲ ဗုဒ္ဓရဲ့ နိဗ္ဗာန်နဲ့ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေတယ်။ ဗုဒ္ဓရဲ့ နိဗ္ဗာန်ဟာ ထာဝရတည်မြဲတယ်၊ တကယ့်သန္တိသုခနဲ့ ပြည့်စုံတယ်၊ ဇာတိ၊ ဇရာ၊ ဗျာဓိ၊ မရဏ၊ သောက၊ ပရိဒေဝဆိုတဲ့ တရားတွေအားလုံးမှ ကင်းစင်တယ်။ ပရစ်(စ်)ထာမှာတော့ ဖန်ဆင်းထားတဲ့ တရားဖြစ်တဲ့အတွက် မတည်မြဲဘူး၊ ပျော်ရွှင်မှု ရှိသလိုဘဲ ဒုက္ခဆင်းရဲလဲ ရှိတယ်၊ ပဋိသန္ဓေ နေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်း၊ ဆင်းရဲခြင်း အစရှိတဲ့ တရားတွေမှ မလွတ်ကင်းဘူး။ တဏှာ၊ မာန၊ ဒိဋ္ဌိစတဲ့ တရားတွေမှလဲ မလွတ်ကင်းနိုင်ဘူး။

ဗုဒ္ဓရဲ့နိဗ္ဗာန်ကို ခရစ်ယံဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းနဲ့ မဟာမေဒင်ဘာသာဝင်တို့ရဲ့ ပရစ်(စ်)ထားတို့နဲ့ ယှဉ်လို့နှိုင်းယှဉ်လို့ ပြပြီးတဲ့နောက်၊ ဒီတရားတွေရဲ့နောက်ဆုံးရည်မှန်းချက်တို့ကို ပြပြီးတဲ့နောက် အခု ဟိန္ဒူတို့ရဲ့ မုတ္တိတရားနဲ့ပတ်သက်လို့ ဦးပဉ္စင်း ရှင်းလင်းပြရအုံးမယ်။

ယခု ဟိန္ဒူဘာသာအယူဝါဒလို့ ခေါ်နေကြတဲ့ ဗြဟ္မဏဘာသာ အယူဝါဒဟာ ဂေါတမဗုဒ္ဓ ပွင့်တော်မမူမီ နှစ်ပေါင်း (၂၅၀၀)ကျော်လောက်က ပေါ်ပေါက်ခဲ့တဲ့ ဘာသာတရားဖြစ်တယ်။ အဲဒီအခါတုန်းကဆိုရင် ရစ်ဂ်၊ အတ္တာရဝ၊ သာမစတဲ့ မူလဝေဒကျမ်းကြီးတွေမှာ မုတ္တိတရားဆိုတာ မပါခဲ့ဘူး။ ရစ်ဂ်ဝေဒထဲမှာ တိရိစ္ဆာန်တွေ၊ လူတွေကို ယဇ်ပူဇော် ပသခြင်းနဲ့ ဆိုင်ရာ ဓမ္မသီချင်းတွေသာ ပါတယ်။ အတ္တာရဝေဒကျမ်းထဲမှာဆိုရင် ယဇ်ပူဇော်ပသပုံ ပုသနည်း၊ ထုံးနည်းတွေသာ ပါတယ်။ သာမဝေဒထဲမှာဆိုရင် သီကြားတို့ (အင်ဒရာ)၊

မီးနတ်သား(အဂ္ဂနိ)၊ လေနတ်သား (ဝရုန)တို့ကို ယဇ်ပူဇော်ပသတဲ့အခါ သီဆိုကြရမဲ့ သီချင်းတွေသာ ပါခဲ့ပါတယ်။ ဒီဟာစုမှာအပ မုတ္တိ သို့မဟုတ် လွတ်မြောက်ခြင်းနဲ့ ပတ်သက်တဲ့တရားဆိုလို့ ဘာမျှ မပါခဲ့ဘူး။

မုတ္တိနဲ့ပတ်သက်တဲ့ပြဿနာဟာ နှောင်းကာလကျမှ "ဗြဟ္မာဏလမ်းစဉ်တရားကျမ်း"၊ "ဥပနိသျှဒကျမ်း"၊ "သတာပထ ဗြဟ္မာဏကျမ်း"စတဲ့ ကျမ်းသုံးကျမ်းက ဖော်ထုတ်လာခဲ့တဲ့ ပြဿနာဘဲ။

"ဗြဟ္မာဏလမ်းစဉ်တရားကျမ်း"ကတော့ ဒီလိုဆိုတယ် ဒကာကြီးရဲ့။ ပဇာပတိနတ်မင်း(ဖန်ဆင်းရှင်)ကြီးဟာ ဟိုပထမကုန်းကတော့ အချိန်ကာလကြာမြင့်စွာ တပါးတည်း ထီးထီးပေါ်မပေါက်ပြီး နေထိုင်ခဲ့တယ်။ ဒါနဲ့ တနေ့တော့ သူကိုယ်ခွဲဖြစ်တဲ့ ပထမဦးဆုံး ဗြဟ္မာကို ဖန်ဆင်းခဲ့တယ်။ ပဇာပတိနတ်မင်းကြီးဟာ သူကိုယ်တိုင် သေမျိုးထဲပါဝင်သော်လဲ ပထမဦးဆုံး ဗြဟ္မာကတော့ သေမျိုးထဲ မပါဘူးတဲ့။ အဲဒီ ဗြဟ္မာ့ကိုယ်ခန္ဓာထဲက မီးပွားလေးတွေ ထွက်ပြီးတော့ အဲဒီ မီးပွားကလေးတွေက လူသားတွေ၊ နတ်တွေ၊ တိရစ္ဆာန်တွေနဲ့ အခြားသတ္တဝါတွေရဲ့ ခန္ဓာကိုယ်တွေထဲ ဝင်သွားကြသတဲ့။ အဲဒီမီးပွားတွေကို အတ္တလို့ ခေါ်သတဲ့။ ပထမဦးဆုံး မီးပွားကိုတော့ ပရမတ္တမလို့ ခေါ်သတဲ့။ ဒီအတ္တတွေဟာ တခုနဲ့တခု ပူးပေါင်းကြပြီးအကုသိုလ်အမှုတွေကို ပြုလုပ်ကြသတဲ့။ အဲဒီလို မကောင်းမှုကို ပြုရာမှ တိရစ္ဆာန်တွေ၊ ဘီလူးတွေ၊ ဂန္ဓဗ္ဗတွေ၊ ငှက်တွေ၊ မြွေတွေ၊ ငါးတွေ၊ အခြေလေးချောင်းရှိတဲ့ သတ္တဝါတွေ၊ ငရဲပြည်မှာ ခံစားနေတဲ့ ငရဲသားတွေ ဖြစ်ကုန်ကြသတဲ့၊အဲဒီနောက်

ကောင်းမှုကုသိုလ်တွေကို ပြုကြပြန်တော့ လူတွေ၊ နတ်တွေ ဖြစ်လာကြသတဲ့။ နောက်ဆုံး သူဘို့ဟာ မကောင်းမှု အကုသိုလ်တွေ ကင်းစင်ကြပြီး ပထမဦးဆုံး အဖန်ဆင်းခံရတဲ့ ဗြဟ္မာထံ (ဒီပုဂ္ဂိုလ်တွေမှာ ကပ်နေတဲ့ မီးပွားကလေးတွေဟာ)ပြန်သွားနိုင်ကြသတဲ့။ အဲဒီလို ပြန်ရောက်ပြီးတဲ့နောက် ဘာမျှ ပြန်မဖြစ်တော့ဘူးတဲ့။ ဒါဟာ ဟိန္ဒူဘာသာဝင်တို့ရဲ့ "မုတ္တိ"ဘဲ။

ဥပနိသာဒကျမ်းအရ ပြောရမယ်ဆိုရင် ဖန်ဆင်းရှင်တဦးတည်းနေတဲ့ ပဇာပတိနတ်မင်းက ပထမဦးဆုံး ဗြဟ္မာကို ဖန်ဆင်းသတဲ့။ အဲဒီနောက် အတ္တဆိုတဲ့ ပထမဦးဆုံးဇီဝ(အသက်)ကို ဖန်ဆင်းသတဲ့။ ပထမဦးဆုံး ဖန်ဆင်းလိုက်တဲ့ ဗြဟ္မာဟာ အလွန်ကျယ်ပြန့်တဲ့ မဟာပထဝီမြေကြီးနဲ့တူပြီး အတ္တဟာ ဒီကမ္ဘာကြီးရဲ့ အနှစ်သာရနဲ့တူသတဲ့။ အဲဒီနောက် အထက်က ပြောခဲ့တဲ့အတိုင်း အကုသိုလ်တွေလုပ်၊ သတ္တဝါတွေ အမျိုးမျိုး ဖြစ်တာကဖြစ်၊ ငရဲကျတာက ကျကုန်ကြပြီး နောက်ဆုံး အကုသိုလ်တရားတွေ ကင်းစင်ပြီး လွတ်မြောက်ခြင်းကို ရသတဲ့။ အဲဒီ လွတ်မြောက်ခြင်းဆိုတာ "မုတ္တိ"ဘဲ။

သတပထဗြဟ္မဏ အလိုအရ ပြောရမယ်ဆိုရင် ဖန်ဆင်းရှင် ဗြဟ္မဏက ကမ္ဘာလောကကြီးကို ဖန်ဆင်းပြီးတဲ့နောက်၊ ငါဟာ ဒီကမ္ဘာလောကကြီးထဲကို ဘယ်လိုလုပ်ပြီး ဆင်းရပါ့မလဲလို့ စဉ်းစားပြီးတဲ့နောက် နာမရူပဆိုတဲ့ တရားနှစ်ပါးရဲ့ အကူအညီနဲ့ ဆင်းလာခဲ့တယ်။ ဒီနာမရူပဆိုတဲ့ တရားနှစ်ပါးဟာ ဒီဖန်ဆင်းရှင် ဗြဟ္မာကြီးရဲ့ အင်းအားစုနှစ်ရပ်ဘဲ။ ဒီဗြဟ္မာကြီးရဲ့ အင်အားစုနှစ်ရပ်ဖြစ်တဲ့ နာမရူပသဘောကို တကယ်တမ်း သိနားလည်တဲ့သူဟာ တန်ခိုးအာဏာ ကြီးတယ်။ နောက်ဆုံး ဖန်ဆင်းရှင်

ဗြဟ္မာကြီးနဲ့ ပူးပေါင်းမိပြီး ပဋိသန္ဓေနေရခြင်း၊ အသက်ရှင်နေရခြင်း၊ သေခြင်းဆိုတဲ့တရားတွေ ချုပ်ငြိမ်းရာ"မုတ္တိ"ကိုရောက်ရသတဲ့။ ဖန်ဆင်းရှင်၊ တန်ခိုးတော်ရှင် ဗြဟ္မာက ဘယ်တော့မှ မသေကြေ မပျက်စီးတဲ့ အတ္တကို ဖန်ဆင်းတယ်။ ဒါပေမဲ့ ဒီအတ္တဟာ မကောင်းမှုအကုသိုလ်ကံနဲ့ ရောယှက်ပြီးတော့ မသန့်ရှင်း မစင်ကြယ်ဘဲ ဖြစ်လာရတယ်။ ဒီလို မသန့်ရှင်း မစင်ကြယ်ရာကနေပြီးတော့ ဘဝသံသရာအတွင်းမှာ ချောက်လည်နေရသတဲ့။ အဲဒီလည်နေရာမှ တဖန် အညစ်အကြေးဆိုလို့ ဘာမှမရှိတော့အောင် သန့်ရှင်းစင်ကြယ်ကာ အတ္တဟာ ပရမတ္တမ သို့မဟုတ် ဖန်ဆင်းရှင် ဗြဟ္မာကြီးနဲ့ ပြန်ပြီး ပူးပေါင်းမိသတဲ့။ အဲဒါမုတ္တိဘဲ။

အထက်က ပြောခဲ့တဲ့ မုတ္တိနဲ့ဆက်သက်တဲ့ သမိုင်းသုံးရပ်ကို လေ့လာကြည့်မယ်ဆိုရင် မုတ္တိ သို့မဟုတ် လွတ်လပ်မှုလို့ ခေါ်တဲ့ တရားဟာ ဖန်ဆင်းလို့ ဖြစ်ပေါ်လာတဲ့တရား၊ တနည်းအားဖြင့် ဖန်ဆင်းထားတဲ့တရားဘဲ ဖြစ်တယ်ဆိုတာကို တွေ့ရတယ်။ ဒါကြောင့် ဒီဖန်ဆင်းလို့ ဖြစ်ပေါ်ရတဲ့ မုတ္တိတရားဟာ နောက်ဆုံး ပျက်စီးရမယ်။ ပြီးတော့ ဗြဟ္မာကြီးကလဲ ကမ္ဘာလောကကြီးကို မီးဖြစ်ဖြစ်၊ လေဖြစ်ဖြစ်၊ ရေဖြစ်ဖြစ် ဒီသုံးခုထဲက တခုခုက ဖျက်ဆီးပစ်လိုက်ဓတော့မဲ့ ဝိဇ္ဇာတရားကို ရရှိတယ်။ အမှန်တရားကို မြင်လာတယ်။ အဲဒီအခါမှာ ဗြဟ္မာအသစ်တပါး ပြန်လည်ပေါ်ပေါက်လာရမယ်တဲ့။ ဒါကို ဟိန္ဒူဘာသာအယူဝါဒက ဟုတ်မှန်တယ်လို့ လက်ခံထားတယ်။ ဇာတိဖြင့် ဖြစ်ပေါ်ရတဲ့ တရားဟူသမျှဟာ၊ သေကြေပျက်စီးရသမျှ ဖန်ဆင်းမှုကြောင့် ဖြစ်ပေါ်ရတဲ့ တရားဟူသမျှဟာ နောက်ဆုံး ချုပ်ငြိမ်းပျက်

ဆုဉ်းရသလို အဝိဇ္ဇာတရား ဖုံးလွှမ်းထားမှုကြောင့် နိစ္စဓုဝ တည်တန့်ခိုင်မြဲတယ်လို့ ထင်နေရတဲ့ မုတ္တိတရားဟာလဲ မခိုင်မြဲတဲ ပျက်စီးရတာဘဲ။ အဲဒီ မုတ္တိတရားဟာ စကြာဠာကြီးနဲ့ ဘာမျှ မဆိုင်တဲ့ ပဋိသန္ဓေနေခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်း ဆိုတဲ့ တရားစုအားလုံးမှ ကင်းလွတ်တဲ့ ဗုဒ္ဓဘာသာဝင်တို့ရဲ့ နိဗ္ဗာန်တရားနဲ့ လုံးဝမတူဘူး။ ဗုဒ္ဓဘာသာဝင်တို့ရဲ့ နိဗ္ဗာန်တရားဟာ တကယ့်ချမ်းသာသုခနှင့် ပြည့်စုံတယ်။ ကဲ ဗုဒ္ဓဘာသာဝင်တို့ရဲ့ နိဗ္ဗာန်နဲ့ ခရစ်ယာန်ဘာသာဝင်တို့ရဲ့ ကောင်းကင်ဘုံနန်းတို့၊ မဟာမေဒင်ဘာသာဝင်တို့ရဲ့ ပရစ်(စ်)ထားတို့၊ ဟိန္ဒူဘာသာဝင်တို့ရဲ့ မုတ္တိတို့ဟာ လုံးဝ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လျက်ရှိတယ်ဆိုတာကို ဒကာကြီးတို့ နားလည်သဘောပေါက်ကြပြီလား။ နောက်ထပ် ရှင်းရဦးမှာလား။

ရှာ။ ဆရာတော် ရှင်းပြလို့ ဗုဒ္ဓရဲ့ နိဗ္ဗာန်အကြောင်းကို **ကောင်းကောင်းကြီး** နားလည်သဘောပေါက်ကြပါပြီ။ ဆရာတော်ဟာ နိဗ္ဗာန်နဲ့ **ကောင်းကင်ဘုံနန်း**တို့၊ ပရစ်(စ်)ထားတို့၊ မုတ္တိတို့ရဲ့ ရည်မှန်း**ချက်**ချင်းလဲ မတူကြောင်းကို တပည့်တော်တို့ နားလည် သဘောပေါက်အောင် ရှင်းလင်းပြတဲ့အတွက် အထူး ကျေးဇူးတင်ပါတယ်ဘုရား။

ဤတွင် တရားနာလာရောက်ကြသည့် ပရိသတ်အပေါင်းက သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၂၂။

ဗုဒ္ဓဂေါတမဟာ ဆရာတဆူမျှ မရှိတဲ့နဲ့ ဗုဒ္ဓအဖြစ်ကို ရရှိတယ်ဆိုတာကို ဆရာတော် ဘယ်နည်းနဲ့ သိပါသလဲဘုရား။

(မေးမြန်းလျှောက်ထားသူ မစ္စတာ ဘာဘာလယ ဟာစ်၊ ဗန်ဆီသိုးမွေးစက်ပိုင်ရှင်၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော် အရှင်ဇာရိယဓမ္မ။)

**ဆရာတော်အရှင်ဇာရိယဓမ္မ**။ အလွန်မှန်ကန်ပြီး ဘယ်တော့မှ မဖောက်ပြန်တဲ့ အကြောင်းရှိရင် အကျိုးတရားပေါ်ပေါက်ရမယ်ဆိုတဲ့ အကြောင်း၊ အကျိုးဆက်တရားအရ ဗုဒ္ဓဂေါတမဟာ ဘယ်ဆရာကမျှ သင်ပြခြင်းမရှိဘဲနဲ့ ဗုဒ္ဓအဖြစ်ကို ရောက်ရတယ်ဆိုတာ လက်တွေ့သဘောအားဖြင့် အလွန် ထင်ရှားလှပါတယ်။ ဗုဒ္ဓအလောင်းအလျာဆိုတာ ဗုဒ္ဓအဖြစ်ကိုရအောင် လေးသင်္ချေနဲ့ ကမ္ဘာတသိန်းတိုင်တိုင် (၁၀)ပါးသော ပါရမီကို ဒီလောက်တောင် ကာလကြာမြင့်အောင် ကျင့်တာက အကြောင်းတရားဘဲ။ နောက်ဆုံး ဘယ်သူကမျှ မသင်ဘဲ၊ မပြဘဲနဲ့ သစ္စာလေးပါးတရားကို ပိုင်းခြားထင်ထင် သိမြင်တော်မူပြီး ဗုဒ္ဓအဖြစ်ကို ရတာက အကျိုးတရားဘဲ။ ဒါကြောင့် သစ္စာလေးပါးတရားကို အကြွင်းမဲ့ သိမြင်သဘောပေါက်တဲ့ ပုဂ္ဂိုလ်ကို ဗုဒ္ဓ သို့မဟုတ် အတုမရှိ သဗ္ဗညုတ ရှေ့ဉာဏ်ရှင်လို့ ခေါ်တာပေါ့။

ဒီနေရာမှာ ဗုဒ္ဓဂေါတမဟာ ဗုဒ္ဓအဖြစ်ကို မရမီ အာလာရ ကာလာမနဲ့ ရမ္မပုတ္တဆိုတဲ့ ဆရာနှစ်ဆူဆီမှာ နည်းနာခံယူခဲ့ဖူး ခဲ့ယူ ဓာယ်ဆိုတဲ့စကားဟာ မမှန်ဘူးလားလို့ စောဒကတက်စရာ ရှိတယ်။

ဒီပြဿနာကို ဖြေရှင်းဖို့က အလွန်လွယ်ပါတယ်။ ဒီအာလာရ ကာလာမနဲ့ ရမ္မပုတ္တတို့ဆီမှာ အရူပဈာန်အဘိညာဉ်နဲ့ပတ်သက်လို့ နည်းနာခံယူခဲ့စဉ်အခါက ဗုဒ္ဓဂေါတမဟာ ဗုဒ္ဓအဖြစ်

ကို မရသေးဘူး၊ ဗုဒ္ဓအလောင်းအလျာ အဖြစ်မှာဘဲ ရှိသေးတယ်။ အဲဒီနောက် ဒီ ဈာန်အဘိညာဉ်တရားတွေကို ကျင့်နေခြင်းအားဖြင့် သူလိုချင်တဲ့ ဒုက္ခဆင်းရဲအပေါင်းမှ ချုပ်ငြိမ်းရန် နိဗ္ဗာန်ကို မရောက်နိုင်မှန်းသိတော့ ဒီ ဆရာနှစ်ဆူကို စွန့်ခွာခဲ့ပြီး သူတဦးတည်း(၆)နှစ်တိုင်တိုင် ဒုက္ကရစရိယာကျင့်တော်မူတယ်။

အဲဒီနောက် ဗုဒ္ဓအဖြစ်ကိုရတော့မဲ့ အချိန်ကာလ ကျရောက်လာတဲ့ ညတညမှာ အိပ်မက် မြင်မက်တော်မူတယ်။ ဒီအိပ်မက်ကို မ.ာ်လမက်လိုက်ရော နောက်တနေ့ သူ ဗုဒ္ဓအဖြစ်ကို ရောက်တော့မယ်ဆိုတာကို သိတော်မူတယ်။ ဒီလိုနဲ့ဘဲ နောက်တနေ့ နံနက်ကျတော့ သူ ရှေးရှေးဘဝပေါင်းများစွာက တည်ဆောက်ခဲ့တဲ့ (၁၀)ပါးသော ပါရမီအဟုန်နဲ့ မဇ္ဈိမပဋိပဒါလမ်းစဉ်အတိုင်း ကျင့်လိုက်တာနဲ့ တပြိုင်နက် ဗုဒ္ဓအဖြစ်ကို ရောက်တော်မူတယ်။ လက္ခဏာရေးသုံးပါးကို မြင်ပြီး ဆွမ်းဘုဉ်းပေးတော်မူတယ်။ အဲဒီနောက် သစ်ပင်ရိပ်အောက်မှာနားပြီး ညနေချမ်းအခါကျတော့ ဈာန်သမာပတ်ဝင် ကြွတော်မူတယ်။ အဲဒီနေ့ည ပလ္လင်ပေါ်မှာဘဲ ဘယ်ဆရာရဲ့သင်ပြမှုမျှ မရှိဘဲနဲ့ သစ္စာလေးပါးတရားကို ပိုင်းခြားထင်ထင် သိမြင်တော်မူတယ်။ ဒီနည်းနဲ့ဘဲ ဗုဒ္ဓအဖြစ်ကို ရောက်တော်မူတယ်။ ဗုဒ္ဓအဖြစ်ကို ရောက်တဲ့ ပုဂ္ဂိုလ်ကို ဗောဓိလို့ ခေါ်တယ်။ အဲဒီပုဂ္ဂိုလ် သဗ္ဗညုတဉာဏ်ရတဲ့ သစ်ပင်ကို ဗောဓိပင်လို့ ခေါ်တယ်။

ကဲ ဦးပဉ္ဇင်း အခု ဟောပြောတာနဲ့ ပတ်သက်လို့ ဘာများ မရှင်းသေးတုံး။ ဘာများ မေးချင်သေးသလဲ ဒကာကြီး။

ဖန်ဆီ။ တပည့်တော် ရှင်းပါပြီ ဆရာတော်။ နောက်ထပ် မေးဘို့ မလိုတော့ပါဘူး ဘုရား။

. ဤတွင် တရားနာပရိသတ်များက သာဓုအနုမောဒနာ ခေါ်ကြလေသည်။

## မေးခွန်း အမှတ် ၂၃။

ဗုဒ္ဓသည် ဗိဿနိုးနတ်ရဲ့ ကိုယ်စားလည်တော် ဘိုမဟုတ် ဗိဿနိုးနတ်ရဲ့ နဝမမြောက် ဝင်စားသူ မဟုတ်ပါလား ဆရာတော်။

(မေးမြန်းလျှောက်ထားသူ မစ္စတာ နေဝါချန်း(ဒ်)ရှား၊ ကုန်သည်ကြီး၊ အယ်လ်ဖင်စတုန်း အဝိုင်းကြီး၊ ဘုံဘိုင်မြို့၊ ဖြေဆိုသူ ဆရာတော် အရှင်အရိယဝံသ။)

ဆရာတော် အရှင်အရိယဝံသ။ ကမ္ဘာပေါင်း မြောက်မြားစွာအတွင်းမှာ ပွင့်တဲ့ ဗုဒ္ဓအဆူဆူကို ရေတွက်လို့ မရနိုင်ဘူး။ ဒီ ဗုဒ္ဓတွေဟာ ဂင်္ဂါမြစ်ထဲမှာရှိတဲ့ သဲထုထဲက သဲပွင့်ကလေးတွေ ထက်ကောင်း အရေအတွက်အားဖြင့် ပိုမိုများသေးတယ်။ အခု ဂေါတမဗုဒ္ဓရှင်တော်မြတ်ဟာ ဒီနောင်တော်ဗုဒ္ဓတွေရဲ့ လမ်းစဉ်အတိုင်း ကျင့်ပြီး နောင်တော်ဗုဒ္ဓတွေ ဟောတဲ့တရားတွေကို ဘဲ ဟောတော်မူတာဘဲ။ ဒါကြောင့် ဂေါတမဗုဒ္ဓဟာ ဗိဿနိုးနတ်ရဲ့ ကိုယ်စားလည်တော် ဘယ်နည်းနဲ့ ဖြစ်နိုင်ပါ့မလဲ။ ပုရာဏ်ကျမ်းကို ပြုစုကြတဲ့ လူတွေဟာ ဗုဒ္ဓဆိုတဲ့ စကားရဲ့သဘောနဲ့ အဓိပ္ပာယ်ကို မသိကြလေတော့ ဗုဒ္ဓဂေါတမကို ဗိဿနိုးနတ်ရဲ့ နဝမမြောက် ဝင်စားသူဆိုပြီး အမှားမှား အယွင်းယွင်းနဲ့ ရေးကြ၊ ပြောကြတယ်။ ဒီလိုဆိုရင် မရေမတွက်နိုင်လောက်အောင် များပြားလှတဲ့ နောင်တော် ဗုဒ္ဓတွေကိုလဲ ဒီလိုဘဲ ဗိဿနိုးနတ်ရဲ့ ကိုယ်စားလည်တော်တွေလို့ဘဲ ခေါ်ကြတော့မှာလား။

ဒီအချက်ကိုပယ်ထားပြီး တခြားစဉ်းစားစရာ ရှိသေးတယ်။ တဘဝမှ တဘဝသို့ ဝိညာဉ်ကူးပြောင်းတယ်ဆိုတဲ့ အယူအဆကို ဗုဒ္ဓရဲ့အယူဝါဒက အလွန်မှားယွင်းတဲ့ အယူအဆအနေနဲ့ ရှုတ်ချထားတယ်။ ပြီးတော့ အတ္တဝါဒကို ဗုဒ္ဓက မှားယွင်းတဲ့ ဝါဒတရပ် ဖြစ်တယ်လို့ သတ်မှတ်ထားတယ်။ ဒီအချက်နှစ်ချက်ကို ကြည့်ခြင်းအားဖြင့် ဗုဒ္ဓဟာ ဗိဿနိုးနတ် ဝင်စားတဲ့ ကိုယ်စားလည်တော် မဖြစ်နိုင်ဘူးဆိုတာ ထင်ရှားပါတယ်။ ယခု ဘာသာအယူဝါဒအရ ဗိဿနိုးနတ်ရဲ့ အဝတာရ၊ သို့မဟုတ် ကိုယ်စားလည်တော်ဟာ ကမ္ဘာလောကကြီးကို ပြုပြင်ဘို့နဲ့ လူသားတွေကို ကာကွယ်စောင့်ရှောက်ဘို့ ကောင်းကင်က ဆင်းလာရတာ ဖြစ်တယ်။ ဒါပေမဲ့ သဗ္ဗညုတဉာဏ်တော်ရှင် ဗုဒ္ဓပွင့်တော်မူတာက ဗိဿနိုးနတ် ကိုယ်စားလည်တော် ပေါ်ပေါက်လာတာနဲ့ နည်းနည်းမျှ မတူဘူး။ ဗုဒ္ဓအဖြစ်ကို မရမီ ဗုဒ္ဓရဲ့ အလောင်းအလျာဟာ ကမ္ဘာပေါင်းလေးသင်္ချေနဲ့တသိန်း တိုင်တိုင်(၁၀)ပါးသော ပါရမီကို ကျင့်ရသေးတယ်။ နောက်ဆုံး ဗုဒ္ဓအဖြစ် ရောက်ရမဲ့ဘဝ ရောက်တာတောင်မှ ပြင်းပြင်းထန်ထန် ကျင့်ကြံအားထုတ်ပြီးတဲ့နောက် ဘယ်သူကမျှ မသင်မပြဘဲနဲ့ သစ္စာလေးပါးတရားကို ပိုင်းခြားထင်ထင် သိမြင်တော်မူလာရတယ်။ အဲဒီလို ဗုဒ္ဓဖြစ်ပြီးတဲ့နောက် နှစ်ပေါင်းမြောက်မြားစွာ သတ္တဝါအများအား အလွန်မွန်မြတ်လှတဲ့ တရားရေအေး တိုက်ကျွေးတော်မူတယ်။ တိုက်ကျွေးပြီးတဲ့ အခါကျမှ ပရိနိဗ္ဗာန်ပြုတော်မူတယ်။ ဒါကြောင့် ဗုဒ္ဓကို လူသားစစ်စစ်က ကိုယ့်အားကိုယ်ကိုးပြီး မဆုတ်မနစ် ကျင့်ကြံအားထုတ်ခဲ့လို့ ဖြစ်ရတဲ့ဘုရား၊ ဥထား(ရ်)လို့ ခေါ်ရမယ်။ ဘယ်နတ်မင်း၊ ဘယ်

ပြဟ္မာမင်းတို့ တန်ခိုးကိုမျှ ခေတ္တငှားပြီး လှုပြည်ကို ကိုယ်စား လည်အဖြစ်နဲ့ လာရတဲ့ ကိုယ်စားလည်တော် (အဝတာရ)လို့ မခေါ်နိုင်ဘူး။ ဟုတ်လဲ မဟုတ်ဖူး။ ကဲ ဒီအကြောင်းတွေကို ထောက်ခြင့်ခြင်းအားဖြင့် ဗုဒ္ဓဟာ ဗိဿနိုးနတ်ရဲ့ ကိုယ်စား လည်တော် မဟုတ်ဖူးဆိုတာကို သဘောပေါက် နားလည် ကြပြီလား။

ရှား။ အခုလို တိုတိုတုတ်တုတ်နဲ့ လိုရင်းအချက်ကို တိတိကျ ကျ ရှင်းပြတော်မူလိုက်တဲ့အတွက် တပည့်တော်ဖို့ အားလုံး နားလည်ကြပါပြီဘုရား။ ဆရာတော်က ယခုလို တပည့်တော်တို့ မေးလျှောက်ထားသမျှကို စိတ်ရှည်လက်ရှည်နဲ့ ရှင်းလင်းပြ တော်မူတဲ့အတွက် အားလုံးကိုယ်စား တပည့်တော်က ကျေးဇူး တင်ကြောင်း လျှောက်ထားပါရစေ ဘုရား။

ဆရာတော်။ ဦးပဥ္စင်းကလဲ ဗုဒ္ဓရဲ့သာသနာတော်ကိုအဆက် ထက်ဆုံး ပြုမယ်လို့ ဆုံးဖြတ်ထားတော့ ယခုလို မသိနားမလည် တဲ့ အချက်တွေကို လျှောက်ထားကြတဲ့အတွက် ဦးပဥ္စင်းရဲ့ပါရမီ ကို ဖြည့်တဲ့အနေနဲ့ အထူးတဲ ကျေးဇူးတင်လှပါတယ်။နောင်လဲ အခါအခွင့်ကြုံတဲ့အခါ တဦးချင်းဖြစ်ဖြစ် ယခုလို တရားပွဲ ကျင်းပလို့ဘဲဖြစ်ဖြစ် လျှောက်ထားနိုင်ကြပါတယ်။

ဤတွင် ပရိသတ်အားလုံးက သာဓုအနုမောဒနာခေါ်၍ တရားပွဲကို ရုပ်သိမ်းလိုက်ကြလေသတည်း။